

# ဗုဒ္ဓခေတ်
# တစ်မိုးအောက်တစ်ယောက်ပုဂ္ဂိုလ်ကျော်များ

[ ဒုတိယတွဲ ]

## အရှင်နေမိန္ဒာဘိဝံသ

(စုစည်းပူဇော်သည်)

ဖြန့်ချိရေး
ဟာနုဒီစာအုပ်တိုက်
၀၉ ၅၀၇ ၁၁၉၆၊ ၀၉ ၅၀၇ ၁၁၉၇

**ထုတ်ဝေသူ**



ဒေါ်ရည်မွန်မျိုး (စာနဒီစာအုပ်တိုက်)
မြဲ – ၀၀၂၄၄
အမှတ် – ၉၇၃၊ ပျဉ်းမငြိမ်လမ်း၊
၃၄ – ရပ်ကွက်၊ မြောက်ဒဂုံမြို့နယ်၊ ရန်ကုန်။

**ပုံနှိပ်သူ**



ဦးလင်းဇာနည် (သီရိဂုဏ်ဝေပုံနှိပ်တိုက်)
မြဲ – ၀၁၄၃၇
အမှတ် – ၃၂၊ ၅၃ လမ်း၊
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်။

**မျက်နှာဖုံးဒီဇိုင်း**



ဗဂျီလင်းဝဏ္ဏ

**အတွင်းအပြင်အဆင်**



Ahlineain media
Ph - 09449004209
09798437563

**ပထမအကြိမ်၊ ဧပြီလ၊ ၂၀၂၀ ခုနှစ်**
**အုပ်ရေ** - ၂၀၀၀
**တန်ဖိုး** - ၃၅၀၀

## မာတိကာ

*



# စိုလ်မြှတ်တို့နှင့် ပေါင်းနိုင်ပါစေ

အရှင်နေမိန္ဒာလင်္ကာရာဘိဝံသ (သ·စ·အ-ဓမ္မာစရိယ၊ ဝိနယပါဠိပါရဂူ၊ ဒွိပိဋကဓရ)၏ "ဗုဒ္ဓခေတ် တစ်မိုးအောက် တစ်ယောက် ပုဂ္ဂိုလ်ကျော်များ" ပထမအုပ်ကိုဖတ်လိုက်ရသောအခါ အတိုင်းမသိ ဝမ်းသာပီတိဖြစ်မိပါသည်။ အမြတ်ဆုံး ဇေတဒဂ်ရ အဂ္ဂသာဝက, မဟာသာဝကတို့၏ အကြောင်းအရာအတ္ထုပ္ပတ္တိတို့ကို စုစည်းရေးသား တင်ပြထားခြင်းဖြစ်ပါသည်။ မိမိအနေဖြင့် စာရေးသူအရှင့်အား ကျန်နေသော ဇေတဒဂ်ရ မဟာသာဝကများ၏ အကြောင်းအရာအတ္ထုပ္ပတ္တိတို့ကိုလည်း ဆက်လက်စုစည်းရေးသားပေးပါရန် တောင်းပန်လိုက်ပါသည်။

အရှင်နှင့် မိမိတို့သည် ရန်ကုန်မြို့၊ ဗဟန်း၊ မဟာဝိသုဒ္ဓါရုံ (ပါဠိတက္ကသိုလ်) ရွှေကျင်ကျောင်းတိုက်မှာ ရေစက်ဆုံခဲ့ကြပါသည်။ ထိုစဉ်က အရှင်သည် ရဟန်းငယ်လေးဘဝနှင့် အစိုးရ သာသနဓဇ ဓမ္မာစရိယဘွဲ့နှင့် အဘိဝံသဘွဲ့များ ရရှိထားပြီးသော စာချဆရာတော်လေး ဖြစ်နေပါပြီ။ မိမိကတော့ ဓမ္မာစရိယတန်း စလုံးရေစ ဘဝပါ။ မဟာဝိသုဒ္ဓါရုံ ပဓာနနာယက ဆရာတော်ထံမှာ သီလက္ခန်ကျမ်း၊ တိပိဋက ယောဆရာတော်ထံမှာ ပါရာဇိကဏ်ကျမ်းနှင့် အရှင့်ထံမှာ အဋ္ဌသာလိနီကျမ်း စာဝါများ လိုက်ရပါသည်။

အမှန်တော့ မိမိသည် အရှင့်ထက် အသက်အားဖြင့် (၂)လ ကျော်ကြီး၍ သိက္ခာအားဖြင့် (၄)ရက် ကြီးပါသည်။ ထို့ကြောင့် မဟာဝိသုဒ္ဓါရုံကျောင်းတိုက်နေသမျှ ညဦ့/နံနက်ဝတ်တက်သည့်အခါ မိမိနှင့်အရှင့်ကြားထဲမှာ အခြားပုဂ္ဂိုလ် မရှိခဲ့ပါ။ မိမိက အရှင့်ကို 'ဆရာ'ဟု ခေါ်ခဲ့၍ အရှင်က မိမိကို 'နောင်တော်'ဟုခေါ်ခဲ့ပါသည်။ အရှင်နှင့်မိမိတို့သည် 'ညီ ဆရာနှင့် နောင်တပည့်'ဖြစ်ခဲ့ကြပါသည်။ အချင်းချင်း အပြန်အလှန် ရိုသေလေးစားခဲ့ကြပါသည်။ မိမိသည် အရှင့်ကို ဆရာတစ်ဆူအဖြစ် နေ့စဉ်မေတ္တာပို့သခဲ့ပါသည်။ မိမိအနေဖြင့် အရှင့်အပေါ်မှာ ပုဂ္ဂိုလ်ခင်ပြီး တရားမင်ခဲ့သလို တရားမင်ပြီးလည်း ပုဂ္ဂိုလ်ခင်ခဲ့ပါသည်။ အရှင်သည် မိမိအတွက် ပရိယတ်ရော ပဋိပတ်ပါ စံပြပုဂ္ဂိုလ်ဖြစ်ပါသည်။

အရှင်၏ ဧတဒဂ်ရ အဂ္ဂသာဝက, မဟာသာဝကများ အကြောင်းကို ရေးသားတင်ပြထားပုံများသည် အလွန်ကောင်းမွန်လှပါသည်။ အဂ္ဂသာဝက, မဟာသာဝက အလောင်းတော်များအနေဖြင့် ထူးထူးခြားခြား မွန်မွန်မြတ်မြတ် ကုသိုလ်ကောင်းမှု ပြုပြီးမှ ဆုတောင်း ဆုပန်ခဲ့ပုံ၊ ပါရမီဖြည့်ခဲ့ပုံ၊ ဗုဒ္ဓခေတ်လူဖြစ်လာပုံ၊ ပါရမီဖြည့်စဉ်အခါက အကြောင်းကောင်းခဲ့၍ အကျိုးကောင်းခဲ့ပုံ၊ အကြောင်းမကောင်းခဲ့၍ အကျိုးမကောင်းခဲ့ပုံ၊ ဗုဒ္ဓသာသနာတော်အတွင်း ဝင်ရောက်ခဲ့ပုံ၊ တရားဓမ္မ ကျင့်ကြံ ကြိုးကုတ်ပွားများအားထုတ်သိမြင်ခဲ့ပုံ၊ သာသနာပြုခဲ့ပုံနှင့် ဧတဒဂ်ရ တစ်မိုးအောက်တစ်ယောက် ပုဂ္ဂိုလ်ကျော်ဖြစ်ခဲ့ပုံတို့ကို ဖတ်ရှုလေ့လာ ကြည်ညိုရသောအခါ သဒ္ဓါ, ဝီရိယ, သတိ, သမာဓိ, ပညာတရားများ တိုးပွားထက်သန်လာခဲ့ပါသည်။

ဘုရား တရား သံဃာ ရတနာသုံးပါးနှင့် ကံ ကံ၏ အကျိုးတို့ကို ယုံကြည်မှု သဒ္ဓါတရား တိုးပွားထက်သန်လာပါသည်။ မကောင်းမှု အကုသိုလ်များကို ကြိုးစားရှောင်ကြဉ်လိုမှုနှင့် ကောင်းမှုကုသိုလ်များကို ကြိုးစားအားထုတ်ပြုလုပ်လိုမှု ဝီရိယ တရားလည်း



တိုးပွားထက်သန်လာပါသည်။ ကိုယ်, ခံစားမှု, စိတ်, သဘောတရား လေးပါးအပေါ်မှာ စောင့်ကြည့်လိုမှုနှင့် ကောင်းမှုကုသိုလ်တရားတို့၌ မမေ့မလျော့နေလိုမှု သတိတရားလည်း တိုးပွားထက်သန်လာပါသည်။ စိတ်တည်ကြည်ငြိမ်သက်မှု သမာဓိတရားလည်း တိုးပွားထက်သန်လာပါသည်။

"ကောင်းကံကြောင့် ကောင်းကျိုးဖြစ်ပေါ်လာရသည်၊ ဆိုးကံကြောင့် ဆိုးကျိုးဖြစ်ပေါ်လာရသည်၊ ကံသာလျှင် အမိ၊ ကံသာလျှင် အဖ၊ ကံသာလျှင် ကိုယ်ပိုင်ဥစ္စာအစစ်ဖြစ်သည်"ဟု သိမြင်သော ကမ္မဿကတာ သမ္မာဒိဋ္ဌိဉာဏ်ပညာတရားလည်း တိုးပွားထက်သန်လာခဲ့ပါသည်။

အရှင်သည် စာရှုသူ မိမိတို့အတွက် ဧတဒဂ်ပုဂ္ဂိုလ်ကျော်များ အကြောင်းအရာနှင့်ပတ်သက်၍ အခက်အခဲမရှိ ဖတ်ရှု လေ့လာ ကြည်ညိုခွင့်ရအောင် မေတ္တာစေတနာကြီးမားစွာဖြင့် ကျမ်းဂန်များစွာတို့ကို ကြည့်ရှုလေ့လာ၍ စုဆောင်းရေးသား တင်ပြထားခြင်းဖြစ်ပါသည်။ အရှင်၏ စာပေအရာ လိမ္မာကျွမ်းကျင်လှစွာသော အသိအမြင် အတွေးအခေါ်ရှုထောင့် မြင်ထောင့်များဖြင့် တန်ဆာဆင် စီစဉ်ထားခြင်းလည်း ဖြစ်ပါသည်။

စာရှုသူများအနေဖြင့် ဤစာအုပ်ကို ဖတ်ရှုလေ့လာရသည့်အခါ သဒ္ဓါ, ဝီရိယ, သတိ, သမာဓိ, ပညာတရားများ တိုးပွားထက်သန် လာကြမည်မှာ အမှန်ပါ။ တစ်နည်းအားဖြင့် သဒ္ဓါဗိုလ်, ဝီရိယဗိုလ်, သတိဗိုလ်, သမာဓိဗိုလ်, ပညာဗိုလ်-ဟူသော မှန်ကန်မြင့်မြတ် စွမ်းအားဓာတ်အပြည့်အဝရှိသော ဗိုလ်များနှင့် ပေါင်းသင်းမိကြမှာပါ။

အားလုံး ဗိုလ်မှန် ဗိုလ်မြတ်တို့နှင့် ပေါင်းနိုင်ကြပါစေ။

**အရှင်နိမ္မလ (နတ်မောက်ဘုန်းနွယ်)**



# နိဒါန်းစကား

အမေရိကန်နိုင်ငံ၊ ကာလီဖိုးနီးယားပြည်နယ်၊ ဆန်ဖရန်ဆစ္စကိုဘေး ဧရိယာမှာရှိတဲ့ ထေရဝါဒဓမ္မအသင်းနဲ့ မြန်မာအမေရိကန်ဗုဒ္ဓဘာသာအသင်းတွေမှာ ၂၀၁၇/၁၈ ခုနှစ်တွေက ဇာတက်ရအရှင်မြတ်တွေအကြောင်းကို ဓမ္မသင်တန်းအနေနဲ့ ပို့ချဖြစ်ခဲ့ပါတယ်။ သင်တန်းမှတ်စုလေးတွေ မပျောက်ပျက်အောင်လည်း အပတ်စဉ်ကွန်ပျူတာစာစီထားခဲ့ပါတယ်။ ဓမ္မဘေရီဆရာတော်ကြီး ဟေးဝဒ်မြို့ မုဒိတာရွှေကျောင်းကိုရောက်လာတဲ့အခါ မိမိရိုက်ထားတဲ့ စာမူလေးတွေကို ဆက်ကပ်လိုက်ပါတယ်။ ဓမ္မဘေရီဆရာတော်က စာမူတစ်ချို့ ဖတ်ပြီးတာနဲ့ အဲဒီစာမူတွေကို မုဒိတာကျောင်းမှာပဲ ထားခဲ့ပါတယ်။

တစ်နေ့မှာတော့ မိမိနေတဲ့ မေတ္တာနန္ဒဝိဟာရ ဓမ္မရိပ်သာကို အလိုတော်ပြည့် ဓမ္မာစရိယတက္ကသိုလ်ရဲ့ ပါမောက္ခချုပ်ဆရာတော် ဘဒ္ဒန္တသုစိတ္တာဘိဝံသ အရှင်မြတ် ကြွလာပါတယ်။ ဆရာတော်က "ဟေ့ မောင်နေမိန်… မင်းရေးတဲ့ ဇာတက်ရပုဂ္ဂိုလ်တွေအကြောင်း စာမူတွေ ငါ ဖတ်ရတယ်ကွ။ ငါက မုဒိတာကျောင်းမှာ ဓမ္မဘေရီဆရာတော် နေသွားတဲ့ အခန်းမှာ အိပ်ရတော့ မင်းစာမူတွေ တွေ့တာနဲ့

ငါ ဖတ်မိလိုက်တာပါ။ မင်း ရေးတာ လူတွေအတွက် အတော် အကျိုးများတယ်ကွ၊ ခု ငါ ၁၅ ဦးစာ ဖတ်ရတယ်။ ဒီတော့ ဧတဒဂ်ရ ပုဂ္ဂိုလ်တွေအကြောင်း အကုန်ပြီးအောင် ရေးကွာ”လို့ အားပေး တိုက်တွန်းစကား မိန့်ကြားတော်မူခဲ့ပါတယ်။

ဆရာတော်ဦးသုစိတ္တနဲ့ မိမိတို့က မန္တလေး မစိုးရိမ်တိုက်သစ် မှာ ၁၉၈၅၊ ၁၉၈၆၊ ၁၉၈၇ ခုနှစ်တွေက အတူနေခဲ့ကြဖူးတယ်။ ဆရာတော်က တိုက်သစ်ရဲ့ နာယကဆရာတော်တစ်ပါးအနေနဲ့ စာချ ဆရာတော်ဖြစ်နေပြီး မိမိတို့က သကျသီဟ သာမဏေကျော်တန်း အတွက် စာလိုက်နေတာပါ။ ဆရာတော့်ဆီမှာ စာမလိုက်ခဲ့ဘူးပေမဲ့ ဓမ္မာစရိယတန်းရောက်တဲ့အခါ ဆရာတော်ပို့ချထားတဲ့ မှတ်စုစာအုပ် တွေကို အလေးထား ကြည့်ခဲ့ရပါတယ်။ စာချဘုန်းကြီး ဖြစ်ပြန်တော့ လည်း ဓမ္မာစရိယစာဝါတွေ ပို့ချတဲ့အခါ ဆရာတော် ထုတ်ထားတဲ့ ပို့ချချက်တွေကို အားကိုးအားထားပြုပြီး ပို့ချခဲ့ရပါတယ်။ မိမိတို့အပေါ် အရှိန်အဝါကြီးတဲ့ ဆရာတော်က မိမိရေးသားထားတာတွေ သဘောကျ ပြီး အားပေးတိုက်တွန်းစကား မိန့်ကြားလာတဲ့အခါ အတော်လေးကို ဝမ်းသာပီတိ ဖြစ်ခဲ့ရပါတယ်။ ဒါပေမဲ့ ဆရာတော်ကို ဆက်ရေးပါမယ် လို့ အာမမခံ ဖြစ်ခဲ့ပါဘူး။ ငြိမ်သက်တဲ့ အပြုံးကလေးနဲ့ပဲ နေခဲ့လိုက် ပါတယ်။

အလိုတော်ပြည့် ပါချုပ်ဆရာတော် အမေရိကား အနောက် ဖက်ခြမ်း၊ အရှေ့ဖက်ခြမ်းစုံအောင် ပဋ္ဌာန်းသမုပ္ပါဒ်သင်တန်းတွေ လိုက်လံ ပို့ချပြီး မြန်မာပြည် ပြန်ခါနီးမှာ မိမိနေတဲ့ မေတ္တာနန္ဒဝိဟာရ ဓမ္မရိပ်သာ က နှုတ်ဆက်တရားပွဲ ကျင်းပပေးလို့ ကျောင်းကို တစ်ခေါက် ကြွလာ ခဲ့ပြန်ပါတယ်။ ဆရာတော်က “မောင်နေမိန်···· ဧတဒဂ်ရပုဂ္ဂိုလ် တွေရဲ့ အကြောင်းကို အစအဆုံး ပြီးအောင် ရေးဖို့ ဒုတိယအကြိမ် လေးလေးနက်နက် တိုက်တွန်းပါတယ်။ ငါ ခုလို ထပ်တိုက်တွန်းတယ် ဆိုကတည်းက မင်း ရေးတာ ရှင်လူရဟန်းတွေအတွက် အကျိုးများလို့



ဆိုတာ သဘောပေါက်စေချင်တယ်” လို့ မိန့်တော်မူခဲ့ပြန်ပါတယ်။ ဒီတစ်ခါမှာတော့ ဆရာတော်ရဲ့ မေတ္တာစေတနာကို လေးစားတဲ့အနေနဲ့ “မှန်ပါ၊ တပည့်တော် ကြိုးစားပါ့မယ်ဘုရား” လို့ ကတိစကား လျှောက်ထားဖြစ်ခဲ့ပါတယ်။

တကယ်တော့ မိမိဟာ စာချစာသင်တာကိုပဲ အားသန်တာပါ။ စာရေးတဲ့ဖက် အားမသန်ပါဘူး။ သာသနာ့ဖခင်လည်းဖြစ် ကျေးဇူးရှင် ဆရာတစ်ဆူလည်းဖြစ်တဲ့ ဓမ္မဘေရီဆရာတော်နဲ့ ညီတော် အရှင် ရဝေနွယ်(အင်းမ)တို့က မိမိကို စာရေးဖို့ရာ တိုက်တွန်းနေတာ ကြာပါ ပြီ။ ဒါပေမဲ့လည်း စာရေးလေ့ ရေးထမရှိတော့ စာရေးဖို့ရာ စိတ်က မဝံ့မရဲ ဖြစ်နေမိတယ်။ ၂၀၁၇/၂၀၁၈ ဓမ္မသင်တန်းပို့ချရတဲ့အခါ မှာတော့ ကြိုးစားပြီး ရေးကြည့်မယ်လို့ စိတ်ဆုံးဖြတ်ချက်ချကာ စာတွေ ရေးခဲ့ပါတယ်။ တနင်္ဂနွေ အပတ်စဉ် ဓမ္မသင်တန်းသင်တဲ့ အခါတိုင်း ဒီစာမူတွေကို သင်တန်းသားတွေကိုလည်း ဝေတာမို့ သင်တန်းသားတွေထဲက မြန်မာအမေရိကန် ဗုဒ္ဓဘာသာအသင်းက အသင်းလူကြီး ဦးခင်မောင်ကျော်နဲ့ ဆန်ဖရန်ဆစ္စကိုက ဒကာမကြီး ဒေါ်မြင့်မြင့်သိန်းတို့က သင်တန်းမတက်ရတဲ့သူတွေအတွက် စာအုပ် ရိုက်နှိပ်ပြီး ဓမ္မဒါနပြုလိုပါကြောင်း လျှောက်ထားခဲ့ကြပါတယ်။

ဖော်ပြပါ အကြောင်းတွေကြောင့်ပဲ ရေးပြီးသား ၁၅ ပါးစာကို ပထမတွဲအဖြစ် အရင် ထုတ်ကြည့်ပါမယ်လေဆိုပြီး ပထမတွဲ ထုတ်ဝေ ဖို့ရန် ပြင်ဆင်ခဲ့ပါတယ်။ ဓမ္မဘေရီဆရာတော်က စာအုပ်ရဲ့ နာမည်ကို “ဗုဒ္ဓခေတ် တစ်မိုးအောက်တစ်ယောက် ပုဂ္ဂိုလ်ကျော်များ” လို့ အမည် သတ်မှတ်ပေးခဲ့ပါတယ်။ ဦးဇင်း ဦးဝါက စာအုပ်ရိုက်နှိပ်တဲ့ကိစ္စကို အစမှသည် အဆုံးတိုင်အောင် ကြိုးစားဆောင်ရွက်ပေးခဲ့ပါတယ်။ ညီတော် အရှင်ရဝေနွယ်က သရုပ်ဖော်ပန်းချီလည်း ထည့်လိုက်ရင် ကောင်းမယ်လို့ အကြံပေးတာနဲ့ ပန်းချီဆရာဒကာလေး ကိုလင်းဝဏ္ဏကို အပူလှမ်းကပ်ရပြန်တယ်။ သူကလည်း အားချင်းပဲ အသက်ဝင်လှတဲ့

ပန်းချီပုံတော်လေးတွေနဲ့ အားဖြည့်ပေးခဲ့ပါတယ်။ ဒါနဲ့ ၂၀၁၈-ခုနှစ်၊ အောက်တိုဘာလမှာ ပထမတွဲထုတ်ဖြစ်ခဲ့ပါတယ်။

ပထမတွဲ ထုတ်ဝေပြီးတဲ့အခါ ဖတ်ရှုရတဲ့ ဓမ္မကထိကရဟန်းတော်များ၊ ကမ္မဋ္ဌာန်းနည်းပြ ဆရာတော်များက ကျန်တဲ့ ဧတဒဂ်ရအရှင်မြတ်တွေရဲ့ အကြောင်းကိုလည်း ဆက်ရေးဖို့ မုဒိတာစကားတွေနဲ့ တိုက်တွန်းအားပေးခဲ့ကြပါတယ်။ ဓမ္မစာပေကို စိတ်ဝင်တစား ရှိကြတဲ့ ဒကာ၊ ဒကာမတွေကလည်း ဒုတိယအုပ် ဘယ်တော့ဖတ်ရမှာလဲ၊ ဆက်ထွက်မယ် မဟုတ်လားလို့ အဆက်မပြတ် မေးခဲ့ကြတယ်။ ညီအစ်ကိုရင်းတမျှ ခင်မင်လှတဲ့ နတ်မောက်မြို့၊ ဒီပင်္ကရာစာသင်တိုက်က တိုက်အုပ်ဆရာတော်လေး ဦးနိမ္မလကလည်း အခြားဧတဒဂ်ရပုဂ္ဂိုလ်မြတ်တွေ အကြောင်းကို ဆက်လက်ဖတ်ဖို့ မျှော်နေတဲ့အကြောင်း မကြာမကြာ လှမ်းပြောပါတယ်။

ခုလိုလေးစားရတဲ့ ဆရာတော်တွေ၊ ဒကာဒကာမတွေက အဆက်မပြတ် အားပေးကြတဲ့အတွက် ဒုတိယတွဲ ဆက်ထွက်နိုင်ဖို့ ကြိုးစားခဲ့ရပြန်ပါတယ်။ နွေရာသီနဲ့ ဝါတွင်းကာလတွေမှာ သာမဏေကျော်တန်းတွေနဲ့ ဓမ္မာစရိယတန်းတွေကို စာပေပို့ချပေးပြီး ဆောင်းတွင်းကာလမှာတော့ နတ်မောက်မြို့နယ်နဲ့ ပျော်ဘွယ်နယ်စပ်မှာရှိတဲ့ ဆရာတော်လေး ဦးတေဇရဲ့ ဓမ္မပီတိတောရကျောင်းလေးမှာ ဆောင်းခိုရင်း ဒုတိယတွဲဆက်ထွက်နိုင်ဖို့ စာတွေ ရေးခဲ့ပါတယ်။

ဧတဒဂ်ရအရှင်မြတ် ၁၅-ပါးစာ ရေးပြီးတဲ့အခါ နတ်မောက်၊ ဒီပင်္ကရာစာသင်တိုက်က ဆရာတော်လေး ဦးနိမ္မလဆီ အကြမ်းဖတ်ပေးဖို့ ပို့လိုက်ပါတယ်။ ဒီအခါ ဦးနိမ္မလက ဝမ်းမြောက်ဝမ်းသာစွာနဲ့ အမှာနိဒါန်းစာလေးပါ ရေးပြီးစာမူတွေကို ပြန်ပို့လာခဲ့ပါတယ်။

မိမိကြိုးစားရေးခဲ့တဲ့ အမှတ်စဉ် ၁၆ မှ အမှတ်စဉ် ၃၀ အထိ ဧတဒဂ်ရအရှင်မြတ် ၁၅ ပါးအကြောင်းကို "ဗုဒ္ဓခေတ် တစ်မိုးအောက်တစ်ယောက် ပုဂ္ဂိုလ်ကျော်များ (ဒုတိယတွဲ)" အဖြစ် စာဖတ်



သူတွေရဲ့ လက်ဝယ်ကို ပို့လိုက်ပါပြီ။ စာဖတ်သူတွေမှာ ရတနာသုံးပါးနဲ့ ပတ်သက်တဲ့ ကြည်ညိုသဒ္ဓါစိတ်တွေ ပိုပြီး တိုးပွားလာတယ်ဆိုရင် စာရေးသူ ရေးရကျိုးနပ်ပါပြီ။ ဆက်လက်ပြီးတော့လည်း ကျန်တဲ့ ပုဂ္ဂိုလ်ကျော်မြတ်တွေအကြောင်း ကြိုးစားပြီး ရေးသား ပူဇော်ပါ့မယ်လို့ ကတိပြုပါတယ်။

**အရှင်နေမိန္ဒာဘိဝံသ**

**(ဒုတိယနာယကဆရာတော်)**

**သိမ်တောင်ပရိယတ္တိစာသင်တိုက်**

**တောင်ကြီးမြို့၊ ရှမ်းပြည်နယ်။**

**(ပဓာနနာယကဆရာတော်)**

**မြို့ကန်ဦးပရိယတ္တိစာသင်တိုက်**

**ပျော်ဘွယ်မြို့။**



## ဝီရိယထက်သန်တဲ့အရှင် အထားဆုံး
## အာရဒ္ဓဝီရိယတေဒဂ်ရ
# အရှင်သောဏကောဠိဝိသမထေရ်

တရားအားထုတ်တဲ့အခါ ဣန္ဒြေညီမျှအောင် ထားနိုင်မှ အသိဉာဏ်ထူးကို ရနိုင်တာပါ။ သဒ္ဓါနဲ့ ပညာ၊ သမာဓိနဲ့ ဝီရိယ ညီမျှအောင် သတိနဲ့ ထိန်းပေးရပါတယ်။ သတိအထိန်းလွတ်သွားလို့ သဒ္ဓါလွန်ကဲပြီး ပညာနည်းသွားရင် တလွဲယုံတတ်တယ်၊ မယုံသင့်တဲ့ အရာတွေကို ယုံပြီး လမ်းလွဲသွားတတ်တယ်။ ပညာလွန်ကဲပြီး သဒ္ဓါ နည်းပြန်ရင်လည်း စဉ်းလဲကောက်ကျစ်တဲ့ဘက် ယိုင်သွားတတ်တယ်။ ဆေးမှားလို့ ဆေးကြောင့်ဖြစ်တဲ့ ရောဂါ အကုခက်သလိုပါပဲ။ သဒ္ဓါ နဲ့ ပညာ နှစ်ခု ညီမျှနေပါမှ ယုံသင့် ယုံထိုက်တဲ့အရာကို ယုံကြည်ပြီး ကောင်းမွန်မှန်ကန်စွာ ကျင့်နိုင်မှာ ဖြစ်ပါတယ်။

သမာဓိ နဲ့ ဝီရိယမှာလည်း သမာဓိက လွန်ကဲပြီး ဝီရိယက နည်းနေရင် ပျင်းရိလာတတ်ပါတယ်။ ဝီရိယ လွန်ကဲပြီး သမာဓိနည်း ရင်တော့ စိတ်ပျံ့လွင့်နေတတ်တယ်။ သမာဓိနဲ့ ဝီရိယညီမျှနေမှ အပ္ပနာ ဆိုက်ပြီး တရားထူး ရနိုင်မှာ ဖြစ်ပါတယ်။ ဒီအဓိပ္ပာယ်တွေကို အလွယ် တကူ မှတ်မိစေဖို့အတွက် တိပိဋကဓရ ယောဆရာတော်က ခုလို လင်္ကာ လေးတွေ သီကုံးထားပါတယ်။

၁။ သဒ္ဓါလွန်ကဲ၊ ပညာနည်း၊ တလွဲယုံတတ်သည်။
၂။ ပညာလွန်ကဲ၊ သဒ္ဓါနည်း၊ စဉ်းလဲ ကောက်ကျစ်သည်။
၃။ အငြိမ်လွန်ကဲ၊ လုံ့လနည်း၊ မှတ်စွဲ ပျင်းရိသည်။
၄။ လုံ့လလွန်ကဲ၊ အငြိမ်နည်း၊ စိတ်စွဲ ပျံ့လွင့်သည်။

သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာဆိုတဲ့ ဣန္ဒြေတွေကို

ညီမျှအောင် ထားနိုင်မှ တရားထူး ရနိုင်တယ်ဆိုတာကို အရှင်သောဏမထေရ်မြတ်အကြောင်းကြည့်ညီရတဲ့အခါ ရှင်းလင်းစွာ သိနိုင်မှာ ဖြစ်ပါတယ်။ ဒါကြောင့် အရှင်သောဏမထေရ်မြတ်အကြောင်း ကြည့်ညို ကြပါစို့။

အရှင်မြတ်ရဲ့ နာမည်အရင်းက သောဏပါ၊ ကောဠိဝိသ ဆိုတာက မျိုးနွယ်ရဲ့ အမည်နာမ ဖြစ်ပါတယ်။ နှစ်ခုပေါင်းပြီး အရှင်သောဏကောဠိဝိသမထေရ်လို့ ခေါ်တာဖြစ်ပါတယ်။ အရှင်မြတ်ရတဲ့ ဧတဒဂ်က အာရဒ္ဓဝီရိယ ဧတဒဂ်ပါ။ ဝီရိယထက်သန်စွာနဲ့ တရားအားထုတ်သူတွေထဲမှာ အသာဆုံး ပုဂ္ဂိုလ်လို့ အဓိပ္ပာယ်ရပါတယ်။ အခြားရဟန်းတွေမှာတော့ ဝီရိယနည်းလို့ ဝီရိယကို တိုးတိုးပြီး အားထုတ်ကြရတယ်။ အရှင်သောဏကတော့ ဝီရိယလွန်နေလို့ လျှော့ပြီး အားထုတ်ခဲ့ရတယ်။ မြတ်စွာဘုရားရှင်ရဲ့ 'မလျှော့မတင်း၊ စောင်းကြိုးညင်း'ဆိုတဲ့ ဝီဏောပမာ-စောင်းဥပမာပြ တရားတော်ကို နာလိုက်ရတဲ့အတွက် လွန်ကဲနေတဲ့ ဝီရိယကို လျှော့ပြီး သမာဓိနဲ့ ညီအောင် ညှိအားထုတ်လိုက်တဲ့အခါမှ အရှင်သောဏမထေရ် တရားထူးရခဲ့တာ ဖြစ်ပါတယ်။

## (က) အတိတ်ဘဝ ပါရမီ နဲ့ ဆုတောင်း

အရှင်သောဏကောဠိဝိသမထေရ်မြတ် အလောင်းတော်ဟာ အတိတ်ကာလ ပဒုမုတ္တရ မြတ်စွာဘုရားရှင်လက်ထက်တော်က သူဌေးမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူ့ရဲ့ နာမည်ကိုတော့ မိဘတွေက သိရီဝဍ္ဎကုမာရ (သိရီဝဍ္ဎလုလင်)လို့ နာမည်ပေးခဲ့ကြတယ်။ သိရီဝဍ္ဎ လုလင်ဟာ အရွယ်ရောက်ပြီးတဲ့နောက် ရှေးမထေရ်လောင်းများနည်းတူ မြတ်စွာဘုရားကျောင်းတော် တရားသွားရောက် နာယူတဲ့အခါ ပဒုမုတ္တရ မြတ်စွာဘုရားရှင်က တပည့်ရဟန်းတစ်ပါးကို ဝီရိယထက်သန်တဲ့အရာ



အသာဆုံး ဧတဒဂ်အရာထား ချီးမြှောက်တာကို ဖူးမြင်လိုက်ရတာနဲ့ 'ငါလည်းပဲ နောင်အနာဂတ်မှာ ဒီရဟန်းလို ပုဂ္ဂိုလ်မျိုး ဖြစ်ချင်လိုက်တာ'လို့ စိတ်ဆန္ဒတွေ ဖြစ်ပေါ်လာခဲ့ပါတယ်။ သိရီဝဍ္ဎဟာ တရားပွဲအပြီးမှာ မြတ်စွာဘုရားရှင်ကို ပင့်ဖိတ်ပြီး ခုနစ်ရက်တိုင်တိုင် ကြီးကျယ်တဲ့အလှူဒါန ပြုလုပ်ကာ ရှေးမထေရ်လောင်းများ နည်းတူ အာရဒ္ဓဝီရိယဧတဒဂ်ရဖို့ရန်အတွက် ဆုပန်ခဲ့ပါတယ်။ ပဒုမုတ္တရာဘုရားရှင်ဟာ သိရီဝဍ္ဎရဲ့ ဆုတောင်းပြည့်စုံမှာကို မြင်တော်မူတဲ့အတွက် ရှေးမထေရ်လောင်းများကို မိန့်တော်မူတဲ့နည်းတူ ဗျာဒိတ်စကား မိန့်ကြားပြီး ကျောင်းတော်ကို ပြန်ကြွသွားခဲ့ပါတယ်။

သိရီဝဍ္ဎသူဌေးလည်း အသက်ထက်ဆုံး ကုသိုလ်ကောင်းမှုပြုလုပ်ခဲ့ပြီး လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ရင်းက ကမ္ဘာတစ်သိန်း လွန်မြောက်လို့ ဒီဘဒ္ဒကမ္ဘာမှာ ကဿပမြတ်စွာဘုရား ပရိနိဗ္ဗာန်စံဝင်တော်မူပြီး အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရား ပွင့်တော်မမူမီ ကာလတစ်ခုမှာ ဗာရာဏသီပြည်က မျိုးနွယ်တစ်ခုမှာ ပဋိသန္ဓေတည်နေခဲ့ပါတယ်။ ဒီအမျိုးကောင်းသားလေးဟာ တစ်နေ့မှာတော့ သူ့ရဲ့ သူငယ်ချင်းတွေနဲ့အတူ ဂင်္ဂါမြစ်မှာ ရေကစားပါတယ်။ အဲဒီအချိန်မှာ ဟောင်းနွမ်းနေတဲ့သင်္ကန်း ဝတ်ရုံထားတဲ့ ပစ္စေကဗုဒ္ဓါအရှင်မြတ်တစ်ပါးဟာ 'ဗာရာဏသီကို အမှီပြုပြီး ဂင်္ဂါမြစ်ကမ်းနားမှာ သစ်ရွက်မိုးကျောင်းလေး ဆောက်ကာ ဝါဆိုဝါကပ်မယ်'ဆိုတဲ့အတွေးနဲ့ ဂင်္ဂါမြစ်ရေနဲ့အတူ မျောပါလာတဲ့ သစ်တုံးတွေ၊ နွယ်ကြိုးတွေကို ဆယ်ယူနေပါတယ်။ အမျိုးကောင်းသားလည်း သူငယ်ချင်းတွေနဲ့အတူ ပစ္စေကဗုဒ္ဓါအရှင်မြတ်ထံ သွားရောက်ကာ ရှိခိုးကန်တော့ပြီးနောက် "အရှင်ဘုရား·· ဘာလုပ်နေတာပါလဲဘုရား"လို့ မေးလျှောက်ပါတယ်။ ပစ္စေကဗုဒ္ဓါအရှင်မြတ်က "အို··· အမျိုးကောင်းသား၊ ဝါဆို ဝါကပ်

ရက် နီးလာပြီဆိုတော့ ရှင်ရဟန်းတွေအတွက် နေစရာ ကျောင်းရှိဖို့ လိုအပ်တယ်လေ''လို့ ပြန်လည် မိန့်ကြားခဲ့ပါတယ်။

ဒီအခါ အမျိုးကောင်းသားက ''အရှင်ဘုရား... ဒီနေ့ တစ်ရက်တော့ သည်းခံစောင့်ဆိုင်းပါဦး ဘုရား၊ တပည့်တော် မနက်ဖြန် ကျရင် အရှင်ဘုရားအတွက် နေစရာကျောင်း စီမံဆောက်လုပ်ပေးပါ မယ်ဘုရား''လို့ လျှောက်ထားလိုက်ပါတယ်။ ပစ္စေကဗုဒ္ဓါအရှင်မြတ် ဟာ ဒီအမျိုးကောင်းသားကို ချီးမြှောက်လိုတဲ့စိတ်နဲ့ ကြွလာခဲ့တာဖြစ်လို့ သူ့ရဲ့ လျှောက်ထားချက်ကို လက်ခံတော်မူခဲ့ပါတယ်။ အမျိုးကောင်း သားဟာ ပစ္စေကဗုဒ္ဓါအရှင်မြတ် လက်ခံတော်မူတာကို သိပြီးတဲ့နောက် အိမ်ပြန်သွားပြီး နောက်တစ်နေ့မှာ ဆွမ်း၊ ခဲဖွယ်တွေ စီမံပြင်ဆင်ကာ ပစ္စေကဗုဒ္ဓါအရှင်မြတ် ဆွမ်းခံကြွလာမှာကို စောင့်မျှော်နေခဲ့ပါတယ်။ ပစ္စေကဗုဒ္ဓါအရှင်မြတ်လည်း 'ဒီနေ့ ဘယ်မှာ ဆွမ်းခံရမလဲ'လို့ ဆင်ခြင်လိုက်တဲ့အခါ အဲဒီအမျိုးကောင်းသား ဆွမ်းလောင်းဖို့ ပြင်ဆင် နေတာကို သိမြင်တဲ့အတွက် သူ့ရဲ့အိမ်တံခါးဝဆီ ဆွမ်းခံကြွတော်မူခဲ့ ပါတယ်။

အမျိုးကောင်းသားဟာ ပစ္စေကဗုဒ္ဓါအရှင်မြတ် ကြွလာတာကို မြင်လိုက်တဲ့အခါ အလွန်ချစ်ခင်မြတ်နိုးစွာနဲ့ သပိတ်ကို လှမ်းယူကာ ဆွမ်းလောင်းလှူပြီးတဲ့နောက် ''အရှင်ဘုရား၊ ဒီဝါတွင်း သုံးလပတ် လုံး တပည့်တော်အိမ်တံခါးဝကိုပဲ ဆွမ်းအလှူခံ ကြွတော်မူပါဘုရား'' လို့ ပင့်ဖိတ်လျှောက်ထားပြီး ကြွမယ်ဆိုတဲ့ပဋိညာဉ်ဝန်ခံစကား ရယူခဲ့ ပါတယ်။ ပစ္စေကဗုဒ္ဓါအရှင်မြတ် ဆွမ်းစားခြင်း ဆွမ်းကိစ္စပြီးလို့ ပြန်ကြွသွားတဲ့အခါ အမျိုးကောင်းသားဟာ သူ့ရဲ့သူငယ်ချင်းတွေနဲ့အတူ ပစ္စေကဗုဒ္ဓါ အရှင်မြတ်နေတဲ့ ဂင်္ဂါမြစ်ကမ်းနားဆီ သွားရောက်ခဲ့ပြီး ပစ္စေကဗုဒ္ဓါအရှင်မြတ် သီတင်းသုံးဖို့ရာ သစ်ရွက်မိုးကျောင်း၊ စင်္ကြံ၊ ညဥ့်သန့်စင်ရာဌာနနဲ့ နေ့သန့်စင်ရာဌာနတွေကို တစ်ရက်နဲ့အပြီး ဆောက်လုပ်လှူဒါန်းခဲ့ပါတယ်။



ပစ္စေကဗုဒ္ဓါအရှင်မြတ် အဲဒီသစ်ရွက်မိုးကျောင်းထဲ ဝင်တဲ့ အခါမှာပဲ ဒီအမျိုးကောင်းသားဟာ နွားချေးတွေ လိမ်းကျံထားတဲ့ မြေပြင်မှာ ပစ္စေကဗုဒ္ဓါအရှင်မြတ်ရဲ့ ခြေထောက်မှာ ရွှံ့တွေ မပေကျံ စေလိုတဲ့ရည်ရွယ်ချက်နဲ့ သူ့ရဲ့ အဖိုးတစ်သိန်းတန် ကမ္ဗလာနီခြုံထည်ကို ခြေသုတ်အခင်းအဖြစ် ခင်းပြီး လှူဒါန်းလိုက်ပါတယ်။ အဲဒီအခါမှာ ကမ္ဗလာနီရဲ့ အရောင်အဆင်းနဲ့ ပစ္စေကဗုဒ္ဓါအရှင်မြတ်ရဲ့ ကိုယ်ရောင် တော်အဆင်းဟာ တစ်ထပ်တည်း ထပ်တူထပ်မျှ တူနေတာကို ဖူးမြင် လိုက်ရတဲ့အတွက် အမျိုးကောင်းသားဟာ အလွန်ကို ကြည်ညိုတဲ့ စိတ်တွေ ဖြစ်ပေါ်လာပြီး ''အရှင်ဘုရားတို့ နင်းလိုက်တဲ့ အချိန်ကစပြီး ဒီကမ္ဗလာနီရဲ့ အရောင်အဆင်းဟာ ပိုပြီး အလွန်ပဲ လှပတင့်တယ်ခဲ့ ပါတယ်၊ အဲဒီနည်းတူပဲ ဖြစ်လေရာ ဘဝတိုင်း ဘဝတိုင်းမှာ တပည့် တော်ရဲ့ လက်ခြေတွေရဲ့ အရောင်အဆင်းဟာ လယ်ခေါင်ရန်းပန်းရဲ့ အရောင်အဆင်းလို နီမြန်းတဲ့အရောင်အဆင်း ဖြစ်ပါစေ၊ ကိုယ်အသား အရေ ကိုယ်အတွေ့ဟာလည်း အကြိမ်တစ်ရာ ဖတ်ထားတဲ့ ဝါဂွမ်း လွှာလို နူးနူးညံ့ညံ့လေး ဖြစ်ပါစေ''လို့ ဆုတောင်းလိုက်ပါတယ်။ ဒီအမျိုးကောင်းသားဟာ ဝါတွင်း သုံးလလုံးလုံး ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို ပြုစုလုပ်ကျွေးခဲ့ပြီး ဝါကျွတ်လို့ ပဝါရဏာပြုပြီးတဲ့အခါ တိစီဝရိတ်သင်္ကန်းကို လှူဒါန်းခဲ့ပါတယ်။ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ဟာ သပိတ်၊ သင်္ကန်း ပြည့်စုံတော်မူပြီးနောက် ဟိမဝန္တာက ဂန္ဓမာဒန တောင်ကိုပဲ ပြန်ကြွသွားတော်မူခဲ့တယ်။

## (ခ) ပစ္စုပ္ပန်ဖြစ်ရပ် အတ္တုပ္ပတ်

ဒီအမျိုးကောင်းသားလည်း နတ်ပြည်၊ လူ့ပြည်တွေမှာ စုန်ချည် ဆန်ချည် ကျင်လည်ရင်းက အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရားရှင် လက်ထက်တော် ရောက်တဲ့အခါ ကာဠစမ္ပာမြို့က ဥပသေဋ္ဌိ သူဌေး

အိမ်မှာ ပဋိသန္ဓေ တည်နေခဲ့ပါတယ်။ ဒီအမျိုးကောင်းသား ပဋိသန္ဓေ တည်နေတဲ့အချိန်ကစပြီး ဥပသေဋ္ဌိ သူဌေးအိမ်ကို လက်ဆောင်ပစ္စည်းတွေ ထောင်ပေါင်းများစွာ ရောက်လာခဲ့ပါတယ်။ ဖွားမြင်တဲ့နေ့မှာလည်း ကာဠစမ္ပာတစ်မြို့လုံး ပူဇော်မှုတွေ၊ ရိုသေသက္ကာရပြုမှုတွေနဲ့ ဖုံးလွှမ်းသွားခဲ့ပါတယ်။ နာမည်ပေးတဲ့ နေ့မှာတော့ မိဘတွေက ''ငါတို့ရဲ့သားဟာ သူ့နာမည် သူကိုယ်တိုင် ယူပြီး လာခဲ့တယ်၊ ငါတို့သားလေးရဲ့ ခန္ဓာကိုယ်အသားအရေ အရောင်အဆင်းဟာလည်း နီမြန်းတဲ့ ရွှေရည်တွေ သွန်းဖျန်းထားသလိုပဲ'' လို့ ပြောဆိုကြကာ 'သောဏလုလင်'လို့ နာမည်ပေးခဲ့ကြတယ်။ သောဏလုလင်ကို ပြုစုဖို့အတွက် အထိန်းတော် အယောက် ခြောက်ဆယ်ကို ခန့်ထားပြီး နတ်သားတစ်ယောက်လို ပြုစုယုယ စောင့်ရှောက်စေခဲ့ကာ ချမ်းသာစွာ ကြီးပြင်းစေခဲ့ပါတယ်။

သောဏသူဌေးသားအတွက် အစာအာဟာရ စီမံပုံကိုလည်း ဗဟုသုတအဖြစ် ဖော်ပြပါ့မယ်။ ပထမဦးဆုံးအနေနဲ့ အဲဒီခေတ်သုံး အတိုင်းအတာအရ မင်းပယ် ခြောက်ပယ်ရှိတဲ့ လယ်မြေကို ထွန်ယက် စိုက်ပျိုးစေပြီးတဲ့အခါ နွားနို့ရေ၊ နံ့သာရေနဲ့ ရိုးရိုးရေဆိုပြီး ရေသုံးမျိုးနဲ့ သလေးကောက်စပါးပင်တွေကို ကြီးပြင်းစေပါတယ်။ လယ်အကြား ရေသွင်းမြောင်းတွေထဲကိုလည်း နွားနို့ရေ၊ နံ့သာရေ အိုးပေါင်း များစွာကို လောင်းထည့်ကြတယ်။ သလေးစပါးနှံတွေ ထွက်လာပြီး နို့နှစ်ရည်တည်တဲ့အခါ ကျေးငှက်၊ ပိုးမွှားတွေရဲ့ ရန်ကို ကာကွယ်ဖို့နဲ့ ကောက်စပါးတွေ နူးညံ့စေဖို့အတွက် လယ်ကွက်တစ်ခုလုံးကို အတွင်းရော အပြင်ပါ တိုင်တွေစိုက်၊ အပေါ်က ထုပ်တန်းတွေတင်၊ အမိုးအကာတွေ လုံလုံခြုံခြုံ ကာရံစေပြီး အပြင်ကနေ စောင့်ကြရတယ်။

ကောက်စပါးတွေ မှည့်ရင့်တဲ့အခါ စပါးထည့်သိုလှောင်ထားမယ့် စပါးကျီကို နံ့သာလေးမျိုးနဲ့ လိမ်းကျံပြီး အပေါ်ယံမှာလည်း



ကောင်းမြတ်တဲ့နံ့သာတွေနဲ့ ထုံမွှမ်းထားကြတယ်။ အဲဒီနောက် အလုပ်သမားတွေဟာ လယ်ထဲဆင်းကာ သလေးစပါးနှံတွေကို အညှာကနေ ရိတ်ဖြတ်ပြီး လက်တစ်ဆုပ်စာ တစ်ဆုပ်စာလောက် ကြိုးနဲ့ထုံးဖွဲ့ကာ အခြောက်လှန်းကြရတယ်။ အခြောက်ခံပြီးတဲ့ စပါးနှံတွေကို စပါးကျီထဲ ထည့်သိမ်းတဲ့အခါ စပါးကျီအောက်ဆုံးအခြေမှာ နံ့သာတစ်ထပ်ခင်းပြီး အဲဒီအပေါ်မှာမှ စပါးနှံ အခြောက်တွေ စီထည့်ရတယ်။ ဒီနည်းအတိုင်း နံ့သာတစ်ထပ်၊ စပါးနှံတစ်ထပ်နဲ့ စပါးကျီ ပြည့်အောင် စီထည့်ပြီးတဲ့အခါ အဲဒီစပါးကျီကို သေချာပိတ်ထားလိုက်တယ်။

သုံးနှစ်ပြည့်တဲ့အခါမှ စပါးကျီကို ဖွင့်ကြပါတယ်။ စပါးကျီကို ဖွင့်လိုက်တာနဲ့ တစ်မြို့လုံး အလွန်မွှေးကြိုင်တဲ့ရနံ့တွေ သင်းသွားတယ်။ သလေးစပါးတွေ မောင်းထောင်း ကြိတ်ခွဲ ဆန်ဖွပ်တဲ့အခါ ဖွဲကြမ်း ဖွဲနုတွေကို အရက်သမားတွေက ဝယ်ယူသွားကြပြီး အခိုင်းအစေ အလုပ်သမားတွေက ဆန်ကွဲ ဆန်ကျိုးတွေကို ယူသွားကြတယ်။ သောဏသူဌေးသားအတွက်တော့ သလေးဆန်ရင်း ဆန်သားတွေကိုပဲ ရွေးယူကြရပါတယ်။ ထမင်းချက်တဲ့အခါ သလေးစပါးဆန်တွေကို ရွှေဆန်ဆေးတောင်းထဲမှာ အကြိမ်များစွာ ရေဆေး စစ်ထားပြီးမှ ပွက်ပွက်ဆူနေတဲ့ ရေနွေးအိုးထဲ တစ်ကြိမ်လောက် ထည့်ပြီး ဆယ်ယူကြရတယ်။ အကြာကြီး ထည့်ချက်နေစရာ မလိုပါဘူး။ ရေနွေးအိုးထဲက ဆယ်ပြီးလိုက်တာနဲ့ သလေးထမင်းတွေဟာ မြတ်လေးပန်းလို ဖြူဖွေးနေတော့တာပဲ။ အဲဒီ ထမင်းကိုမှ သောဏသူဌေးသားဆီ ယူသွားပေးရတာပါ။ အေးမသွားအောင် နို့ဃနာထမင်းပူပူနွေးနွေး ထည့်ထားတဲ့ အိုးပေါ်မှာ အဲဒီသလေးထမင်းကို တင်ပြီးမှ သောဏသူဌေးသားဆီ ပို့ပေးရတာပါ။

သောဏသူဌေးသားဟာ ဒီ သလေးထမင်း ပူပူနွေးနွေးကို သူ အလိုရှိသလောက် စားပါတယ်။ အဲဒီနောက်တော့ ပါးစပ်ဆေး၊

လက်ဆေးဖို့အတွက် နံ့သာထုံထားတဲ့ ရေကို စီမံပေးကြရတယ်။ ခံတွင်းနဲ့ သင်းကြိုင်နေစေဖို့အတွက် လေးညှင်း၊ နှယ်ချို၊ ကွမ်းစတာတွေကိုလည်း ဆက်သကြရတယ်။ သူဌေးသား သွားတဲ့နေရာတိုင်းမှာလည်း ကောင်းမွန်ပြီး ဆန်းကြယ်လှပတဲ့ အခင်းတွေ ခင်းပေးကြရတယ်။ သူဌေးသားရဲ့ လက်ဖဝါးပြင်နဲ့ ခြေဖဝါးပြင်တွေဟာ လယ်ခေါင်ရန်းပန်းအဆင်းလို နီမြန်းနေပြီး သူ့ရဲ့ အသားအရေတွေဟာလည်း အလွန်နူးညံ့အောင် အကြိမ်တစ်ရာလောက် ဖတ်ထားတဲ့ ဝါဂွမ်းလွှာလေးလို နူးညံ့ပါတယ်။ ဒါတင်မက သူ့ရဲ့ ခြေဖဝါးပြင်မှာတောင် အမွေးနုလေးတွေ အစီအရီ ပေါက်နေတာပါ။ သောဏသူဌေးသားလေးဟာ အဲဒီလောက်အထိ နူးညံ့သိမ်မွေ့တဲ့သူ ဖြစ်ပါတယ်။ သူက တစ်ယောက်ယောက်ကို စိတ်ဆိုးရင် "သင် သတိထားနော်၊ ငါ မြေကြီးပေါ် ခြေထောက်နဲ့ နင်းလိုက်ရမလား" လို့ ကြိမ်းမောင်းပြောဆိုတတ်ပါတယ်။ သောဏသူဌေးသားလေး အရွယ်ရောက်တဲ့အခါ သူ့အတွက် နွေ၊ မိုး၊ ဆောင်း ဥတုသုံးလီ မျှညီတဲ့ ပြာသာဒ်သုံးဆောင် ဆောက်လုပ်ပေးပြီး ကချေသည်တွေ၊ ပြုစုပေးမယ့် မောင်းမအခြွေအရံတွေကိုလည်း စီမံပေးထားပါတယ်။ သူဟာ နတ်သားပမာ အလွန်ကြီးကျယ်တဲ့ စည်းစိမ်တွေကို ခံစားပြီး နေရတာပါ။

အဲဒီနောက်တော့ အကျွန်ုပ်တို့ မြတ်စွာဘုရား ဘုရားအဖြစ်သို့ ရောက်တော်မူပြီးလို့ တရားဦး ဓမ္မစကြာ ဟောတော်မူပြီးနောက် ရာဇဂြိုဟ်ပြည်ကို ရောက်ရှိ သီတင်းသုံးနေတဲ့အချိန် ရာဇဂြိုဟ်ပြည့်ရှင် ဘုရင်ဗိမ္ဗိသာရက သောဏသူဌေးသားရဲ့ ခြေဖဝါးမှာ အမွေးနုလေးတွေ ပေါက်နေတာကို ကြည့်ချင်တာနဲ့ သောဏသူဌေးသားလေး အပါအဝင် နယ်မှာရှိတဲ့ ရွာသူကြီးပေါင်း ရှစ်သောင်းကို ခေါ်ယူတွေ့ဆုံပါတယ်။ ဗိမ္ဗိသာရမင်းတရားလည်း သောဏသူဌေးသားရဲ့ ခြေဖဝါးအပြင်မှာ မွေးညင်းနုလေးတွေ ပေါက်နေတာကို တွေ့မြင်ပြီး



တဲ့နောက် သောဏသူဌေးသား အမှူးပြုတဲ့ ရွာသူကြီး ရှစ်သောင်းကို ဒီဘဝကြီးပွားတိုးတက်ကြောင်း အဆုံးအမတွေ ပေးခဲ့ပြီး မြတ်စွာဘုရားရှင်အထံ ဆည်းကပ်ခစား သွားကြဖို့နဲ့ မြတ်စွာဘုရားက တမလွန်ကြီးပွားကြောင်းတရားတွေနဲ့ ဆုံးမတော်မူလိမ့်မှာ ဖြစ်တဲ့အကြောင်း အကြံပေးတိုက်တွန်းစကား ပြောကြားကာ မြတ်စွာဘုရားအထံ သွားဖို့ တိုက်တွန်းလိုက်ပါတယ်။

သောဏသူဌေးသားလည်း ရွာသူကြီး ရှစ်သောင်းနဲ့အတူ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားနာရတဲ့အတွက် သဒ္ဓါတရားဖြစ်ပေါ်လာကာ ရှင်ရဟန်းပြုခွင့် တောင်းခဲ့ပါတယ်။ မြတ်စွာဘုရားရှင်က သောဏသူဌေးသားလေးကို မိဘတွေဆီ ရှင်ရဟန်းပြုဖို့ ခွင့်ပြုချက်တောင်းခိုင်းလိုက်ပြီးနောက် ရှင်ပြုပေးဖို့အတွက် ရဟန်းတစ်ပါးကို တာဝန်ပေးလိုက်ပါတယ်။ သောဏသူဌေးသားဟာ အဲဒီရဟန်းထံမှာ ရှင်ရဟန်းအဖြစ်ကို ရခဲ့ပါတယ်။ အရှင်သောဏ ရဟန်းဖြစ်ပြီးတဲ့နောက် ရာဇဂြိုဟ်မှာပဲ သီတင်းသုံးနေတဲ့အခါ ဆွေမျိုးသားချင်းတွေ၊ မိတ်ဆွေ သူငယ်ချင်းတွေက လှူဖွယ်ပစ္စည်းမျိုးစုံနဲ့ လာရောက် ပူဇော်ကန်တော့ကြတယ်။ နောက်ပြီး အရှင်သောဏရဲ့ ရုပ်ဆင်းအင်္ဂါကြည်ညိုဖွယ်ရာ ကောင်းပုံကို ချီးကျူးပြောဆိုကြတယ်။ သူတို့တင်မက အခြားလူတွေပါ အရှင်သောဏကို လာရောက် ဖူးမြော်ကြတယ်။ ဒီအခါ အရှင်သောဏက 'ငါ့ဆီ လူတွေ အများကြီး လာနေကြတယ်၊ သမထကမ္မဋ္ဌာန်း ဝိပဿနာကမ္မဋ္ဌာန်း ဘယ်လိုလုပ် စီးဖြန်းနိုင်မလဲ၊ ငါ မြတ်စွာဘုရားထံမှာ ကမ္မဋ္ဌာန်းတရား သင်ယူပြီး ယင်းတိုက်တောသုသာန်မှာ တရားအားထုတ်ရရင် ကောင်းမှာပဲ၊ သုသာန်ဆိုတာ စက်ဆုပ်စရာ ကောင်းတဲ့အရပ်ပဲ ဆိုပြီး လူတွေ မလာကြဘူး၊ ဒီလိုဆိုရင် ငါ့ရဲ့ ရဟန်းကိစ္စ အပြီးတိုင် ရောက်နိုင်လိမ့်မယ်' လို့ အတွေးအကြံ ဖြစ်ပေါ်လာပြီး မြတ်စွာဘုရားထံမှာ ကမ္မဋ္ဌာန်းအားထုတ်နည်း

သင်ယူကာ ယင်းတိုက်တောမှာ သွားပြီး ရဟန်းတရား အားထုတ်ဖို့ ကြိုးစားပါတယ်။

ဒီအခါ 'ငါ့ရဲ့ ကိုယ်ခန္ဓာဟာ အလွန့်ကိုပဲ သိမ်မွေ့နူးညံ့တယ်၊ သက်သောင့်သက်သာ ချမ်းချမ်းသာသာလေးနဲ့တော့ မဂ်ဖိုလ်ချမ်းသာကို ရဖို့ဆိုတာ မဖြစ်နိုင်ဘူး၊ ခန္ဓာကိုယ်ကို ပင်ပန်းခံပြီးတော့ပဲ ရဟန်းတရား အားထုတ်မှ သင့်တော်မယ်'လို့ စဉ်းစားမိပြီး ရပ်တာရယ်၊ စင်္ကြံသွားတာရယ် ဒီဣရိယာပုတ်နှစ်မျိုးကိုပဲ အဓိဋ္ဌာန်ဆောက်တည်ကာ ရဟန်းတရားကို အားထုတ်ပါတယ်။ ထိုင်တာ၊ လျောင်းတာတောင် မပြုလုပ်တော့ပါဘူး။ အရှင်သောဏရဲ့ အလွန်နူးညံ့သိမ်မွေ့တဲ့ ခြေဖဝါးပြင်ရဲ့ အစွန်းအနားတွေကနေ အဖု အဖုတွေ ထွက်လာပြီး ပေါက်ကွဲကုန်တော့တယ်။ စင်္ကြံတစ်ခုလုံး သွေးခြင်းခြင်း နီသွားတော့တာပဲ။ ခြေထောက်တွေ အဖုထလို့ မလျှောက်နိုင်တဲ့အခါ ဒူးခေါင်းနဲ့ လက်တွေထောက်ပြီး လေးဖက်ထောက်အနေအထားနဲ့ စင်္ကြံလျှောက် ရဟန်းတရား ကြိုးစားအားထုတ်ပြန်တယ်။

အဲဒီလို ဝီရိယကို ခိုင်မြဲစွာထားပြီး အားထုတ်ပေမယ့်လည်း အရောင်အလင်း နိမိတ်လေးလောက်ကိုတောင်မှ ဖြစ်စေဖို့ရန် မတတ်နိုင်တဲ့အတွက် 'ငါမှတစ်ပါး အခြားသူတစ်ယောက် ဝီရိယတင်းတင်းနဲ့ အားထုတ်တယ်ဆိုရင်လည်း ငါ အခု အားထုတ်တာလောက်ပဲ ဖြစ်မှာပါ၊ ဒီ့ထက်တော့ မပိုနိုင်ပါဘူး၊ ငါ အဲဒီလို အပြင်းအထန် ကြိုးစားအားထုတ်ပေမယ့်လည်း မဂ်ဉာဏ်ကိုလည်း ဖြစ်စေဖို့ရန် မစွမ်းနိုင်ခဲ့၊ ဖိုလ်ဉာဏ်ကိုလည်း ဖြစ်စေဖို့ရန် မစွမ်းနိုင်ခဲ့၊ ငါဟာ တကယ်တော့ ဥဃ္ဃဋိတညူပုဂ္ဂိုလ်လည်း မဟုတ်လောက်ဘူး၊ ဝိပဉ္စိတညူပုဂ္ဂိုလ်၊ နေယျပုဂ္ဂိုလ်လည်း မဟုတ်လောက်ဘူး၊ ပဒပရမပုဂ္ဂိုလ်ပဲ ဖြစ်ရမယ်၊ ငါ့အတွက် ရဟန်းဘဝနဲ့နေလို့ ဘာအကျိုးရှိမလဲ၊ လူထွက်ပြီး လောကစည်းစိမ်တွေ ခံစားတော့မယ်၊ ကောင်းမှုတွေကိုလည်း ပြုတော့မယ်' လို့ တွေးတောကြံစည်နေခဲ့တယ်။



(ဥဃ္ဃဋိတညူပုဂ္ဂိုလ်ဆိုတာ တစ်ဂါထာလောက် တရားတော်ကို အကျဉ်းနာရုံနဲ့ သစ္စာလေးပါးသိပြီး တရားထူး ရတဲ့သူကို ဆိုလိုတာဖြစ်ပါတယ်။ အနက်အဓိပ္ပာယ်အကျယ်တဝင့်ဟောပြမှ သစ္စာလေးပါး သိတဲ့ပုဂ္ဂိုလ်ကျတော့ ဝိပဉ္စိတညူ ပုဂ္ဂိုလ်လို့ ခေါ်ပါတယ်။ နေယျပုဂ္ဂိုလ် ဆိုတာကတော့ တရားတော်ကို အကျဉ်းလည်း သင်ယူ၊ အကျယ်တဝင့်လည်း နာယူမှတ်သားရုံတင်မက ကျင့်လည်းကျင့်၊ မိတ်ဆွေကောင်းထံလည်း ချဉ်းကပ်မေးမြန်းမှ တရားရတဲ့သူကို ခေါ်တာဖြစ်ပြီး တရားကို အကျယ်တဝင့် များစွာ နာယူ၊ ရွတ်အံ သရဇ္ဈာယ်၊ နှုတ်ငုံဆောင်၊ ပို့ချပေမယ့် ဒီဘဝမှာ သစ္စာလေးပါး မသိနိုင် တဲ့သူဆိုရင်တော့ ပဒပရမပုဂ္ဂိုလ် လို့ ခေါ်ပါတယ်။)

အရှင်သောဏ အဲဒီလို လူထွက်ဖို့ ကြံစည်နေတဲ့အချိန် မြတ်စွာဘုရားရှင်ဟာ သူ့ရဲ့ အကြံကို သိတော်မူတဲ့အတွက် ညနေပိုင်းအချိန်မှာ ရဟန်းသံဃာတွေ ခြံရံပြီး အရှင်သောဏမထေရ် ရှိရာကို ကြွတော်မူခဲ့ပါတယ်။ ဒီအခါ အရှင်သောဏရဲ့ သွေးတွေ စွန်းထင်နေတဲ့ စင်္ကြံကို မြင်တော်မူတဲ့အတွက် အရှင်သောဏကို စောင်းဥပမာ ပေးပြီး ခုလို တရားဟောတော်မူခဲ့ပါတယ်။

**မလျော့, မတင်း စောင်းကြိုး ညင်း**

**(မြတ်စွာဘုရား)** ။ သောဏ၊ ယခု ငါ မေးတာကို သင်ဘယ်လို ထင်ပါသလဲ၊ သင်ဟာ လူ့ဘဝတုန်းက စောင်းတီး ကျွမ်းကျင်တယ် မဟုတ်လား။

**(အရှင်သောဏ)** ။ မှန်ပါ… ကျွမ်းကျင်ပါတယ် ဘုရား။

**(မြတ်စွာဘုရား)** ။ သောဏ၊ တကယ်လို့ စောင်းကြိုးတင်းလွန်းနေရင် စောင်းသံ သာယာပါဦးမလား၊ တီးရတာကော အဆင်ပြေပါဦးမလား။

**(အရှင်သောဏ)** ။ အရှင်ဘုရား··· အသံလည်း မသာယာတော့သလို တီးလို့လည်း အဆင်မပြေတော့ပါ ဘုရား။

**(မြတ်စွာဘုရား)** ။ သောဏ··· စောင်းကြိုးက တော်တော်လေး လျှော့နေရင်ရောကွာ။

**(အရှင်သောဏ)** ။ အရှင်ဘုရား··· စောင်းကြိုးက အတော်လေး လျော့နေရင်လည်း အသံလည်း မသာ၊ တီးလို့လည်း မဖြစ်တော့ပါ ဘုရား။

**(မြတ်စွာဘုရား)** ။ သောဏ၊ ဒါဆိုရင် စောင်းကြိုးက တင်းလည်း မတင်းလွန်း၊ လျော့လည်း မလျော့လွန်း၊ အနေတော်ရှိနေရင်ကော ဘယ်လိုလဲ၊ အသံလည်းသာ၊ တီးရတာကော အဆင်ပြေပါရဲ့လား။

**(အရှင်သောဏ)** ။ မှန်ပါ၊ စောင်းကြိုးက အနေတော်ဆိုရင်တော့ အသံလည်း သာယာပြီး တီးရတာလည်း အဆင်ပြေပါတယ် ဘုရား။

**(မြတ်စွာဘုရား)** ။ သောဏ၊ ဒီ့အတူပဲပေါ့၊ ဝီရိယလွန်ကဲနေရင် ဥဒ္ဓစ္စဖြစ်ပြီး စိတ်ပျံ့လွင့်နေတတ်တယ်၊ ဝီရိယလျော့နည်းနေပြန်ရင်လည်း ကောသဇ္ဇဖြစ်ပြီး အပျင်းဖက်လာတတ်တယ်၊ ဒါကြောင့် ဝီရိယနဲ့ သမာဓိကို ညီအောင် ထားရတယ်၊ (သဒ္ဓါနဲ့ ပညာကိုလည်း တစ်ခုနဲ့ တစ်ခု အပြန်အလှန် ထိန်းပေးရတယ်၊ အဲဒီလို ထိန်းညှိပေးတာက သတိရဲ့ တာဝန်ပေါ့၊) သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာဆိုတဲ့ ဣန္ဒြေငါးမျိုးကို ညီမျှအောင်ထားပြီး ကျင့်ရတယ်၊ အဲဒီလို ဣန္ဒြေငါးမျိုး ညီမျှလာပြီဆိုရင် မျက်နှာရိပ်ပမာ ဖြစ်ပေါ်လာတဲ့ သမထ, ဝိပဿနာနိမိတ်၊ မဂ်နိမိတ်၊ ဖိုလ်နိမိတ်တွေကို ရအောင် ယူပါလော့၊

**(အရှင်သောဏ)** ။ကောင်းပါပြီ အရှင်ဘုရား။

အရှင်သောဏမထေရ်ကို ငယ်စဉ်အခါတုန်းက မိဘတွေက အခြားအတတ်တွေ သင်ပေးရင် ပင်ပန်းနေလိမ့်မယ်၊ စောင်းတီး အတတ်ကတော့ ထိုင်နေရင်း သက်သောင့်သက်သာ သင်လို့ ရတယ် ဆိုတဲ့အတွေးနဲ့ စောင်းအတတ်ကို သင်ကြားစေခဲ့တယ်။ ဒါကြောင့် အရှင်သောဏမထေရ်ဟာ စောင်းတီး ကျွမ်းကျင်ခဲ့တာပါ။ မြတ်စွာဘုရားရှင်ကလည်း အရှင်သောဏ ကျွမ်းကျင်တဲ့ စောင်းကို ဥပမာပေးပြီး ဆုံးမရရင် အလွယ်တကူ တရားသဘောပေါက်နိုင်တယ်ဆိုတာ သိတော်မူတဲ့အတွက် ဒီ စောင်းဥပမာပြ တရားတော်ကို ဟောတော်မူခဲ့တာဖြစ်ပါတယ်။



မြတ်စွာဘုရားရှင်ဟာ အရှင်သောဏမထေရ်ကို စောင်းဥပမာပြ တရားနဲ့ ဆုံးမတော်မူပြီး ဂိဇ္ဈကုဋ်တောင်ကို ကြွသွားတော်မူခဲ့ပါတယ်။ အရှင်သောဏမထေရ်လည်း မြတ်စွာဘုရားဆုံးမတော်မူတဲ့အတိုင်း ကျင့်ကြံအားထုတ်လိုက်တာ ကိလေသာအာသဝေါကုန်ခန်း ရဟန္တာအဖြစ်သို့ ရောက်တော်မူခဲ့ပါတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ သံဃာ့ပရိသတ်စုံညီတဲ့အချိန် အရှင်သောဏမထေရ်ကို ထက်သန်တဲ့ဝီရိယရှိသူတွေထဲမှာ အသာဆုံး ဧတဒဂ်အရာ ထားပြီး ချီးမြှောက်တောမူခဲ့ပါတယ်။

## (ဂ) အရှင်မြတ် ဟောကြားသည့် အဆုံးအမတရားတော်

အရှင်သောဏမထေရ်ကိုယ်တိုင် ဟောခဲ့တဲ့ အဆုံးအမတရားတွေကို ထေရဂါထာပါဠိတော်မှာ မှတ်တမ်းတင်ထားပါတယ်။ အရှင်မြတ် ဟောကြားဆုံးမတဲ့အတိုင်း လိုက်နာကျင့်ကြံ အားထုတ်နိုင်ဖို့အတွက် အဲဒီထေရဂါထာပါဠိတော်ကနေ ကောက်နုတ်ဖော်ပြပါ့မယ်။ အနှစ်မရှိတဲ့ ကျူပင်ပမာ မာန်မာနတွေနဲ့ ထောင်လွှားနေမယ်၊ မေ့မေ့လျော့လျော့ ပေါ့ပေါ့ဆဆ နေမယ်၊ ပြင်ပအာရုံတွေအပေါ် တပ်မက်မှုတွေ အားကြီးနေမယ်ဆိုရင်တော့ သီလ၊ သမာဓိ၊ ပညာတွေ ပြည့်စုံမှာ မဟုတ်ဘူး။

ကိုယ်လုပ်သင့်တဲ့အလုပ်တွေကို စွန့်ပယ်ထားပြီး မလုပ်ရမယ့် အလုပ်တွေကို လုပ်နေရင်တော့ ကိလေသာ အာသဝေါတရားတွေ တိုးပွားနေမှာပဲ။

ကာယာနုပဿနာ လို့ခေါ်တဲ့ ကာယဂတာသတိကမ္မဋ္ဌာန်းကို အမြဲမပြတ် အားထုတ်နေရင်တော့ မလုပ်သင့်တဲ့ အလုပ်တွေကို မလုပ်ဖြစ်တော့ဘဲ လုပ်သင့် လုပ်ထိုက်တာကို သတိမပြတ် အားထုတ်နေခြင်းပဲ ဖြစ်တယ်။ ဒီလို သတိနဲ့ သမ္ပဇဉ်မြဲနေတဲ့သူမှ ကိလေသာ အာသဝေါတရားတွေ ချုပ်ငြိမ်းမှာ ဖြစ်တယ်။

မြတ်စွာဘုရားရှင်က မဇ္ဈိမပဋိပဒါ အကျင့်လမ်းဆိုတဲ့ အဖြောင့်လမ်းကို ညွှန်ပြနေတဲ့အခါ နောက်မဆုတ်ဘဲ ရှေ့သို့သာ သွားပါလော့။ ဒီလမ်းကို မလျှောက်မိရင် အပါယ်လေးပါး ရောက်နိုင်တယ်ဆိုတာ ကိုယ့်ကိုယ်ကိုယ် သတိပေးဆုံးမပြီး နိဗ္ဗာန်ရတဲ့အထိ ကျင့်ဆောင်ပါလော့။

ငါဟာ ဝီရိယစာတ် အပြင်းအထန်ထားပြီး အားထုတ်တဲ့အခါ မြတ်စွာဘုရားရှင်က ငါ့ကို ဝီဏောပမ – စောင်းဥပမာ ပေးပြီး တရားဟောတော်မူခဲ့တယ်။ ငါဟာ မြတ်စွာဘုရား စကားတော်ကို နားထောင်ပြီး ကျင့်ကြံအားထုတ်ခဲ့တဲ့အတွက် ဝိဇ္ဇာသုံးပါး ရပြီး ရဟန္တာဖြစ်ခဲ့တယ်။

ကိလေသာတွေကနေ လွတ်မြောက်ပြီးလို့ ငြိမ်းအေးတဲ့စိတ် ရှိတဲ့ ရဟန္တာပုဂ္ဂိုလ်မှာ ကျင့်ပြီးသားကို ပွားစရာ မရှိတော့သလို နောက်ထပ် ကျင့်စရာလည်း မရှိတော့။ တစ်ခဲနက် ကျောက်အတိ ပြီးတဲ့ တောင်ကြီးကို အရပ်လေးမျက်နှာက တိုက်လာတဲ့လေတွေဟာ မတုန်လှုပ်စေနိုင်သလို ကောင်းမြတ်တဲ့ ဣဋ္ဌာရုံတွေနဲ့ ဆိုးဝါးလှတဲ့ အနိဋ္ဌာရုံတွေက ရဟန္တာပုဂ္ဂိုလ်ရဲ့စိတ်ကို မတုန်လှုပ်စေနိုင်။



**နိဂုံး**

အရှင်သောဏမထေရ်မြတ်အကြောင်း ကြည်ညိုရတဲ့အတွက် မိမိတို့ နေ့စဉ်ဘဝထဲမှာ ‘မလျော့၊ မတင်း စောင်းကြိုးညင်း’ ဆိုတဲ့ ဥပမာအတိုင်း ကျင့်သုံးနိုင်အောင် ကြိုးစားရမှာ ဖြစ်ပါတယ်။ ဒီစောင်း ဥပမာကို အကြောင်းပြုပြီး ဖြစ်ပေါ်လာတဲ့ ‘လျော့လွန်းတော့လည်း ပတ်တတ်တယ်၊ တင်းလွန်းတော့လည်း ပြတ်တတ်တယ်’ ဆိုတဲ့ မြန်မာစကားပုံကိုလည်း ဘဝမှာ အဆင်ပြေပြေ အေးအေးချမ်းချမ်း နေလိုသူတွေအနေနဲ့ မေ့ထားလို့ မဖြစ်ပါဘူး။ နောက်ပြီး အရှင်မြတ် ဆုံးမတဲ့အတိုင်း မလုပ်သင့် မလုပ်ထိုက်တာတွေနဲ့ အချိန်ကုန်မခံဘဲ လုပ်သင့်လုပ်ထိုက်တဲ့ ကိုယ့်ကိစ္စတွေကို ဣန္ဒြေညီမျှစွာ ထိန်းပြီး ကျင့်သုံးနိုင်ကြသဖြင့် ဣဋ္ဌ၊ အနိဋ္ဌအာရုံတွေကြောင့် မတုန်လှုပ်ရတဲ့ သူတွေ ဖြစ်ကြပါစေလို့ ဆုတောင်းရင်း ဒီတစ်ပတ်သင်တန်းကို နိဂုံးချုပ်လိုက်ပါတယ်။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်ပါဠိတော်၊ အဋ္ဌကထာ၊ ပထမတွဲ။
၂။ အပဒါန်ပါဠိတော်၊ ၊အဋ္ဌကထာ။
၃။ ထေရဂါထာပါဠိတော်၊ အဋ္ဌကထာ။
၄။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း။



### ချိုသာတဲ့ တရားစကား ဟောပြောသည့်အရာ အသာဆုံး

### ကလျာဏဝါက္ကရဏ ဧတဒဂ်ရ

## အရှင်သောဏကုဋိကဏ္ဏမထေရ်

မြတ်စွာဘုရားက 'ဒီဃော ဗာလာန သံသာရော - သစ္စာတရား မသိသေးတဲ့ လူမိုက်တွေအတွက် သံသရာခရီးဟာ ရှည်နေဦးမှာပဲ' လို့ ဟောခဲ့တယ်။ သစ္စာတရား သိမြင်သွားရင်တော့ လူလိမ္မာဖြစ်ပြီ၊ သံသရာခရီး မရှည်တော့ဘူးလို့ ဆိုလိုတာပါ။ ဟုတ်ပါတယ်၊ ဒီသဘောကို အရှင်သောဏ မထေရ်ရဲ့ အကြောင်းအတ္ထုပ္ပတ္တိက သက်သေခံ ဖော်ပြနေပါတယ်။

သံသရာ ကျင်လည်နေရတဲ့ သူတွေအတွက် သံသရာလည်နေရသရွေ့တော့ ဆင်းရဲဒုက္ခမျိုးစုံ အဖုံဖုံ မကြုံချင်လည်း ဆုံနေရမှာပါပဲ၊ မလိုချင်တာတွေကို မလိုချင်လည်း ရနေမှာပါပဲ၊ ကိုယ်မဖြစ်ချင်တာတွေဟာ မဖြစ်ချင်လည်း ဖြစ်နေမှာပါပဲ။ ဒါတွေဟာ သံသရာလည်နေရတဲ့အတွက်ကြောင့် ဖြစ်ပါတယ်။ သစ္စာလေးပါး သိမြင်ပြီး ရဟန္တာ ဖြစ်ပြီဆိုရင်တော့ သံသရာအလည် ရပ်သွားပါပြီ၊ သံသရာလည်သူတွေ ကြုံတွေ့ရတဲ့ ဒုက္ခအပူမီး မှန်သမျှ လုံးဝချုပ်ငြိမ်းပြီး ထာဝရငြိမ်းချမ်း သွားပါပြီ။ ဒီတော့ သံသရာဝဋ်က လွတ်ပြီး ထာဝရ

ငြိမ်းချမ်းချင်တယ်ဆိုရင် သံသရာလည်ရတဲ့ အပြစ်နဲ့ သံသရာပြတ်တဲ့အတွက် ရရှိတဲ့ အကျိုးအာနိသင် ဒီနှစ်ခုကို ကောင်းကောင်း နှိုင်းယှဉ်မြင်တတ်ဖို့က အထူး အရေးကြီးလှပါတယ်။

ဒီအမြင်ကို အရှင်သောဏမထေရ် ကောင်းကောင်းကြီး မြင်ခဲ့တဲ့အတွက် သံသရာပြတ်ကြောင်း တရားကို ရှာဖွေ အားထုတ်ဖို့ စိတ်ဝင်စားခဲ့တယ်၊ စိတ်ဝင်စားတဲ့အတိုင်းလည်း ဆရာကောင်းဖြစ်တဲ့ အရှင်မဟာကစ္စည်း မထေရ် အကူအညီနဲ့ သစ္စာတရားကို သိမြင်ဖို့ ကြိုးစားအားထုတ်ခဲ့တယ်။ ဒါကြောင့် အရှင်မြတ်ဟာ သံသရာဝဋ်ကနေ အပြီးတိုင် လွတ်ငြိမ်းသွားခဲ့ပါတယ်။

ထာဝရအေးငြိမ်းမှုကို ရလိုသူတွေအတွက် သံသရာလည်ရတဲ့ ဒုက္ခ နဲ့ သံသရာပြတ်ရတဲ့ သုခ နှစ်ခုကို နှိုင်းယှဉ်တတ်ဖို့ အရေးကြီးပုံကို မီးမောင်းထိုး ဖော်ပြနေတဲ့ အရှင်သောဏမထေရ်ရဲ့ အကြောင်းကို ကြည့်ညိုကြပါမယ်။

## အရှင်မြတ်ရရှိတဲ့ ဧတဒဂ် နဲ့ အရှင်မြတ်ရဲ့ အမည်နာမ အဓိပ္ပာယ်

အရှင်သောဏဟာ မြတ်စွာဘုရား သီတင်းသုံးတဲ့ ဂန္ဓကုဋီကျောင်းတော်မှာ ဘုရားရှင် ခွင့်ပြုချက်နဲ့ တစ်ညတာ သီတင်းသုံးခွင့်ရခဲ့ပြီး ဘုရားရှင်ရဲ့ တိုက်တွန်းမှုနဲ့ ဘုရားရှင်ကို ချိုမြိန်အေးချမ်းတဲ့ အသံနဲ့ တရားစကား ရွတ်ဆိုလျှောက်ထား ဟောကြားခဲ့ရပါတယ်။ တရားတော် ရွတ်ဆိုအပြီးမှာ မြတ်စွာဘုရားက သာဓုခေါ်ဆို ကောင်းချီးပေးတော်မူခဲ့ပါတယ်။ ဒါကြောင့် အရှင်သောဏဟာ ချိုသာသော တရားစကား ဟောပြောသူတွေထဲမှာ အသာဆုံး ပုဂ္ဂိုလ် ဖြစ်ခဲ့တာပါ။ အရှင်မြတ်ရဲ့ အမည်နာမ အပြည့်အစုံက 'အရှင်သောဏ ကုဋိကဏ္ဏ' ဖြစ်ပါတယ်။ သောဏ ဆိုတာက အရှင်မြတ်ရဲ့ မိဘတွေ မှည့်ခေါ်ခဲ့တဲ့ နာမည်ရင်းဖြစ်ပြီး ကုဋိကဏ္ဏ ဆိုတာက လူ့ဘဝတုန်းက တစ်ကုဋေတန်တဲ့ နားတန်ဆာကို ပန်ဆင်လေ့ရှိတဲ့အတွက် ရတဲ့ အမည်



နာမ ဖြစ်ပါတယ်။ နှစ်ခုပေါင်းပြီး အရှင်သောဏ ကုဋိကဏ္ဏ ရယ်လို့ နာမည်တွင်ခဲ့တာ ဖြစ်ပါတယ်။

## (က) အရှင်မြတ်ရဲ့ ရှေးကောင်းမှုနဲ့ ဆုတောင်း

အရှင်သောဏမထေရ်ဟာ လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကာလ ပဒုမုတ္တရဘုရားရှင် လက်ထက်တော်အခါ ဟံသာဝတီမင်းနေပြည်မှာ ပြည့်စုံကြွယ်ဝတဲ့ သူဌေး ဖြစ်ခဲ့ပါတယ်။ အရှင်မြတ်အလောင်း သူဌေးဟာ တစ်နေ့မှာတော့ ရဟန္တာတစ်သိန်း ခြံရံပြီး ဟံသာဝတီမင်းနေပြည်တော်ကို ကြွတော်မူလာတဲ့ ပဒုမုတ္တရ မြတ်စွာဘုရားရှင်ကို ဖူးတွေ့လိုက်ရပြီး ကြည်ညိုသဒ္ဒါစိတ်တွေ ဖြစ်ခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရား မြို့ထဲကို ဝင်လာတာနဲ့ ရတနာမျိုးစုံကနေ အရောင်တွေ တလက်လက် ထူးခြားစွာ ထွက်ပေါ်လာခဲ့ပါတယ်၊ နောက်ပြီး ကြွေးကြော်သံတွေလည်း အလိုလို တစ်ခဲနက် မြည်ဟည်း ထွက်ပေါ်လာတဲ့ အပြင် မြို့ထဲမှာရှိတဲ့ စည်တွေ၊ တူရိယာတွေလည်း ဘယ်သူမှ မတီးရဘဲ အလိုလို စည်သံ၊ တူရိယာသံတွေ ထွက်ပေါ်ခဲ့ကြပါတယ်။ ဒီလို ထူးခြားချက်တွေကို ကြည့်ပြီး အရှင်မြတ်လောင်း သူဌေးမှာ 'သြော်… ဘုရားရှင်တွေရဲ့ ဘုန်းတော်တွေဟာ အံ့သြထူးဆန်းပါပေစွ၊ စိတ် စေတနာမရှိ၊ သက်မဲ့ဖြစ်တဲ့ စည်တွေ၊ တူရိယာတွေတောင်မှ အလိုလို မြည်သံတွေ ထွက်ပေါ်လာပါပေတယ်' လို့ အံ့သြဝမ်းသာ ကြည်နူးတဲ့ စိတ်တွေ မပြတ် ဖြစ်ပေါ်နေခဲ့ပါတယ်။

နောက်ပိုင်းမှာ အခြား မြို့သူမြို့သားတွေနဲ့အတူ ကျောင်းတော်ကို သွားရောက်ပြီး တရားတော် နာယူနေစဉ်မှာပဲ ပဒုမုတ္တရ ဘုရားရှင်က ရဟန်းတစ်ပါးကို အသံချိုသာစွာနဲ့ တရားစကား ဟောပြောသည့်အရာ အသာဆုံး ဧတဒဂ်အရာ ထားပြီး ချီးမြှောက်တာကို မြင်တွေ့လိုက်တဲ့အတွက် အရှင်မြတ်လို ဧတဒဂ်ရချင်တဲ့ အားကျစိတ်တွေ ဖြစ်ခဲ့ပါတယ်။ ဒါနဲ့ အရှင်မြတ်လောင်း သူဌေးဟာ ပဒုမုတ္တရ

မြတ်စွာဘုရားအမှူးရှိတဲ့ ရဟန်းတော်တစ်သိန်းကို အိမ်ပင့်ကာ ခုနစ်ရက်တိုင်တိုင် မဟာဒါန အလှူကြီး ပေးလှူပြီး “မြတ်စွာဘုရား၊ အရှင်ဘုရားတို့ဟာ လွန်ခဲ့တဲ့ ခုနစ်ရက်က ရဟန်းတစ်ပါးကို အသံချိုသာစွာနဲ့ တရားဟောတဲ့အရာ အသာဆုံး ပုဂ္ဂိုလ်အဖြစ် ဧတဒဂ်အရာ ထားတော်မူခဲ့ပါတယ် ဘုရား၊ တပည့်တော်လည်း ယခု ထူးကဲစွာ ပြုလုပ်ရတဲ့ ကောင်းမှုကုသိုလ်ရဲ့ အကျိုးအနေနဲ့ နောင် အနာဂတ်တစ်ဆူသော ဘုရားရှင်ရဲ့ သာသနာတော်မှာ ထိုအရှင်အမြတ်လို ပုဂ္ဂိုလ်ဖြစ်ရပါလို၏ ဘုရား” လို့ ဆုတောင်းခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားရှင်လည်း အရှင်မြတ်လောင်း သူဌေးရဲ့ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို အနာဂတံသဉာဏ်တော်နဲ့ မြင်တော်မူတဲ့အတွက် “သင်ဟာ နောင် အနာဂတ် ဂေါတမဘုရားရှင်ရဲ့ သာသနာတော်မှာ အသံချိုသာစွာနဲ့ တရားစကား ဟောတဲ့အရာ အသာဆုံး ပုဂ္ဂိုလ် ဖြစ်လိမ့်မယ်” လို့ ဗျာဒိတ်စကား မိန့်ကြားတော်မူကာ ကျောင်းတော်ကို ပြန်ကြွသွားတော်မူခဲ့ပါတယ်။

**ဝိပဿီမြတ်စွာဘုရားရှင် လက်ထက် ကောင်းမှုပြုပုံနဲ့ သာသနာပကာလ ကောင်းမှုပြုခဲ့ပုံ**

အရှင်မြတ်လောင်း သူဌေးဟာ ပဒုမုတ္တရမြတ်စွာဘုရားရှင် လက်ထက်မှာ အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကောင်းမှုကုသိုလ်တွေ ဆည်းပူးအားထုတ်ခဲ့ပြီး လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ရင်းက ဝိပဿီမြတ်စွာဘုရားလက်ထက်တော် ရောက်လာတဲ့အခါ သာသနာ့ဘောင် ဝင်ရောက် ရဟန်းပြုခဲ့ပါတယ်။ အဲဒီဘဝမှာ ရဟန်းသီလကို ပြည့်စုံစွာ ဖြည့်ကျင့်အားထုတ်ခဲ့ပြီး သီတင်းသုံးဖော် ရဟန်းတစ်ပါးအတွက် ကိုယ်တိုင် သင်္ကန်းချုပ်ပြီး လှူဒါန်းခဲ့ပါတယ်။ အဲဒီကနေ သံသရာ ကျင်လည်ရင်းက ဘုရားမပွင့်တဲ့ ခေတ်ကာလ သာသနာပအခါ ဗာရာဏသီပြည်မှာ စက်ချုပ်သမားဖြစ်ခဲ့ပြီး



ပစ္စေကဗုဒ္ဓါ အရှင်မြတ်တစ်ပါးရဲ့ သင်္ကန်းထောင့်စွန်း စုတ်ပြဲနေတာကို ကောင်းမွန်စွာ ချုပ်စပ်ပြီး လှူဒါန်းပေးခဲ့ပါတယ်။

**(ခ) နောက်ဆုံးဘဝဇာတ်ကြောင်း နဲ့ ရဟန်းပြုတော်မူပုံ**

အရှင်မြတ်အလောင်းဟာ ထိုထိုဘဝတွေမှာ ယခုလို ပါရမီကောင်းမှုတွေ ဖြည့်ဆည်းပူးခဲ့ပြီး အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရား ပွင့်တော်မမူခင်မှာဘဲ နတ်ပြည်ကနေ စုတေကာ အဝန္တိတိုင်း၊ ကုရရဃရမြို့က ကာဠိ အမည်ရှိတဲ့ သူဌေးကတော်ရဲ့ ဝမ်းကြာတိုက်မှာ ပဋိသန္ဓေ နေခဲ့ပါတယ်။ ကာဠိ သူဌေးကတော်ဟာ ကိုယ်ဝန်ရင့်လာတဲ့အခါ သန္ဓေသား ဖွားမြင်ဖို့အတွက် ရာဇဂြိုဟ်ပြည်က မိဘတွေအိမ် ပြန်လာခဲ့ပါတယ်။

**ထူးဆန်းတာရရင် အချစ်ဆုံးသူတွေကို သတိရ**

အဲဒီအချိန်မှာပဲ အကျွန်ုပ်တို့ရဲ့ မြတ်စွာဘုရားရှင်ဟာ ဘုရားအဖြစ်သို့ ရောက်တော်မူပြီးလို့ ဗာရာဏသီပြည်က ဣသိပတန အမည်ရတဲ့ မိဂဒါဝုန်တောမှာ ဓမ္မစကြာတရား ဟောတော်မူနေပါတယ်။ ဓမ္မစကြာတရားဟောတော်မူတဲ့ မိဂဒါဝုန်တောမှာ စကြဝဠာတိုက်တစ်သောင်းက နတ်တွေ၊ ဗြဟ္မာတွေ တရားနာ လာခဲ့ကြပါတယ်။ အဲဒီနတ်တွေထဲမှာ ယက္ခနတ်စစ်သူကြီး နှစ်ကျိပ် ရှစ်ယောက် စာရင်းဝင် သာတာဂိရနတ်မင်းဟာ မြတ်စွာဘုရားရဲ့ ဓမ္မစကြာ တရားနာယူရင်း သောတာပတ္တိဖိုလ်ဆိုက်ရောက်ပြီး သောတာပန်အရိယာ ဖြစ်ခဲ့ပါတယ်။ သာတာဂိရနတ်မင်းဟာ တရားထူး ရပြီးတာနဲ့ လောကမှာ အကောင်းဆုံးအစားအစာကို စားရရင် အချစ်ဆုံးသူတွေကို သတိရတတ်တယ် ဆိုတာလိုမျိုးပဲ ‘ဒီလောက် အလွန်ကောင်းမြတ်တဲ့ တရားတော်ကို ငါ့သူငယ်ချင်း ဟေမဝတ နတ်မင်း နာကော နာရရဲ့လား

မသိဘူး’ လို့ တွေးပြီး သူ့ သူငယ်ချင်း ဟေမဝတနတ်မင်းကို သတိရလိုက်တယ်။

ဒါနဲ့ သာတာဂိရနတ်မင်းဟာ တရားနာ ပရိသတ်တွေထဲ ရှာကြည့်လိုက်တဲ့အခါ သူ့သူငယ်ချင်း ဟေမဝတနတ်မင်းကို မတွေ့တာနဲ့ ‘သြော်… ဧကေန်စင်စစ်တော့ ငါ့သူငယ်ချင်း လောကမှာ ရတနာသုံးပါး ပေါ်ထွန်းနေပြီဆိုတာကို သိသေးဟန် မတူဘူး၊ ငါ သွားပြီး မြတ်စွာဘုရားရဲ့ ဂုဏ်ကျေးဇူးတွေကိုလည်း ပြောပြမယ်၊ ငါ သိမြင်ခဲ့တဲ့ တရားထူးကိုလည်း အသိပေးမယ်’ ဆိုပြီး သူ့ရဲ့ ရံရွေတော် ပရိသတ်တွေနဲ့အတူ ရာဇဂြိုဟ်မြို့ရဲ့ ကောင်းကင်ယံထက်ကနေ ဟေမဝတနတ်မင်းထံ သွားခဲ့ပါတယ်။

## ကာဠီ သူဌေးကတော်ကြီးအိမ်အထက်မှာ နတ်မင်းနှစ်ပါး ဆုံတွေ့ကြပုံ

ဟေမဝတနတ်မင်းလည်း ယူဇနာသုံးထောင်ရှိတဲ့ ဟိမဝန္တာတောင်မှာ အချိန်အခါမဟုတ်ဘဲ ထူးဆန်းစွာ ပန်းတွေ ပွင့်နေတာကို တွေ့မြင်ရတဲ့အတွက် ‘ငါ့သူငယ်ချင်း သာတာဂိရနတ်မင်းနဲ့အတူ ဟိမဝန္တာပျော်ပွဲသဘင် ဆင်နွှဲပြီး ပျော်ကြမယ်’ ဆိုတဲ့ အကြံနဲ့ သူ့အခြံအရံ နတ်ပရိသတ်တွေနဲ့အတူ ရာဇဂြိုဟ်မြို့အထက် ကောင်းကင်ယံကနေပဲ သာတာဂိရနတ်မင်းထံ ထွက်လာခဲ့ပါတယ်။ နတ်စစ်သူကြီး နှစ်ဦးလုံးဟာ ရာဇဂြိုဟ်က ကာဠီသူဌေးကတော်ကြီးရဲ့ နေအိမ်တိုက်ခန်းအထက် ကောင်းကင်ယံမှာပဲ ဆုံတွေ့မိခဲ့ကြတယ်။ ဒီအခါ သာတာဂိရနတ်မင်းက ဟေမဝတနတ်မင်းကို “ဘယ်သွားမလို့လဲ” လို့ မေးပါတယ်။ ဟေမဝတနတ်မင်းက “ဟိမဝန္တာတောင်မှာ ပန်းတွေ ထူးထူးဆန်းဆန်း ပွင့်နေလို့ သင်နဲ့အတူ ပျော်ပွဲသဘင် ဆင်ယင်ပြီး ပျော်ရရင် ကောင်းမှာပဲလို့ တွေးမိတာနဲ့ သင့်ဆီ ထွက်လာတာပဲ” လို့ ဖြေလိုက်ပြီး “အသင်ကကော ဘယ်ကို သွားမလို့လဲ” လို့ သာတာဂိရနတ်မင်းကို ပြန်မေးလိုက်တယ်။



ဒီအခါ သာတာဂိရနတ်မင်းက “ငါလည်း သင့်ဆီကို လာခဲ့တာပဲ၊ လာရင်းအကြောင်းကတော့ ဟိမဝန္တာ တစ်တောင်လုံး ပန်းတွေ အချိန်မဲ့ အခါမဲ့ ဘာကြောင့် ပွင့်တယ်ဆိုတာ သူငယ်ချင်း မသိဘူး မဟုတ်လား၊ ဒီမယ် သူငယ်ချင်း၊ သုဒ္ဓေါဒနမင်းကြီးရဲ့သားဖြစ်တဲ့ သိဒ္ဓတ္ထမင်းသားဟာ လောကဓာတ် တိုက်တစ်သောင်းကို တုန်လှုပ်စေပြီး သဗ္ဗညုဘုရားအဖြစ်သို့ ရောက်တော်မူခဲ့ပြီ၊ သူက ခု စကြဝဠာတိုက်တစ်သောင်းက နတ်တွေ၊ ဗြဟ္မာတွေရဲ့ အလယ်မှာ တရားဦး ဓမ္မစကြာတရား ဟောတော်မူနေတယ်၊ ဒီအကြောင်းကို သူငယ်ချင်း မသိဘူး မဟုတ်လား၊ သင်ဟာ ပန်းတွေ ထူးထူးဆန်းဆန်း ပွင့်နေတယ်ဆိုတာလောက်ပဲ သိတာ၊ အခါမဲ့ပွင့်လာတဲ့ ပန်းတွေက ဒီ ယောက်ျားမြတ်ကို ပူဇော်တဲ့အနေနဲ့ ပွင့်နေတာ သူငယ်ချင်း။” လို့ အကျယ်တဝင့် ရှင်းပြတယ်။ ဟေမဝတနတ်မင်းက “သူငယ်ချင်း‥ ပန်းတွေ ပွင့်တာ ရှိပါစေတော့၊ အသင်ကော အဲဒီမြတ်စွာဘုရားကို မျက်စိနဲ့ ကိုယ်တိုင်ကိုယ်ကျ ဖူးတွေ့ပြီးပြီလား” လို့ ပြန်မေးပါတယ်။ ဒီအခါ သာတာဂိရနတ်မင်းက “အေး ငါကိုယ်တိုင် မြတ်စွာဘုရားကို ဖူးတွေ့ပြီးပြီ၊ တရားလည်း နာပြီးပြီ၊ မသေရာတရားဖြစ်တဲ့ အမြိုက်နိဗ္ဗာန် အမြိုက်အရသာကိုလည်း သောက်သုံးပြီးပြီ၊ ဒါကြောင့် ငါဟာ ဒီ အမတဓမ္မ ဖြစ်တဲ့ မသေရာတရားကို သင့်ကိုလည်း သိမြင်စေချင်တဲ့အတွက် ငါ သင့်ဆီ လာခဲ့တာပဲ” လို့ သူလာခဲ့ရတဲ့ အကြောင်းကို ရှင်းပြပါတယ်။

## ကာဠီသူဌေးကတော် နတ်မင်းနှစ်ပါးစကား နားထောင်ရင်း တရားထူးရ

သာတာဂိရ နဲ့ ဟေမဝတ နတ်မင်းနှစ်ပါးတို့ရဲ့ အပြန်အလှန် စကားပြောဆို ဆွေးနွေးနေတဲ့ အသံကို ကာဠီသူဌေးကတော်ကြီး ကြားလိုက်ရတယ်ဆိုရင်ပဲ အိပ်ရာကနေ ထထိုင်ကာ ‘ ဒီ အသံဟာ

အထက်ကလာတဲ့ အသံပဲ၊ အောက်က လာတဲ့ အသံ မဟုတ်ဘူး၊ ဧကန္တ‥ နတ်တွေ စကားပြောတဲ့ အသံ ဖြစ်မယ်’ လို့ တွေးပြီး နတ်မင်းနှစ်ပါးပြောနေတဲ့ အသံကို နားစိုက်ထောင်နေလိုက်တယ်။ ဆက်ပြီး ဟေမဝတနတ်မင်းက မြတ်စွာဘုရားရဲ့ ကိုယ်အကျင့်၊ အသက်မွေးမှု၊ စိတ်အကျင့်တွေနဲ့ ပတ်သက်ပြီး သာတာဂိရနတ်မင်းကို မေးပါတယ်။ သာတာဂိရနတ်မင်းကလည်း ဟေမဝတ နတ်မင်း မေးသမျှ မြတ်စွာဘုရားနဲ့စပ်ဆိုင်တဲ့ ကြည်ညိုဖွယ်ရာဂုဏ်ရည်တွေကို အကျယ်တဝင့် ဖြေပြပါတယ်။ သာတာဂိရ နတ်မင်းရဲ့ အဖြေအဆုံးမှာ ဟေမဝတနတ်မင်းဟာ သာတာဂိရနတ်မင်း ဟောတဲ့ ဒေသနာတော်မှာ ဉာဏ်နဲ့ စူးစိုက်ပြီး နာတဲ့အတွက် သောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်ပြီး သောတာပန်အရိယာပုဂ္ဂိုလ် ဖြစ်ခဲ့ပါတယ်။

ဒီအချိန်မှာ ကာဠီ သူဌေးကတော်လည်း သာတာဂိရနတ်မင်းက ဟေမဝတ နတ်မင်းအတွက် ပြောဟောနေကြတာကို စိတ်စိုက် နာရင်းက သူတစ်ပါးအတွက် ပြင်ထားတဲ့ ထမင်းပွဲကို ဝင်စားလိုက်ရတဲ့သူလို သောတာပတ္တိဖိုလ် ဆိုက်ရောက်ပြီး သောတာပန် အရိယာ ပုဂ္ဂိုလ်ထူး ဖြစ်သွားခဲ့ပါတယ်။ မြတ်စွာဘုရားကို တစ်ခါမှ မဖူးရသေးဘဲ တစ်ဆင့်ကြား တရားစကား နာရင်းနဲ့ တရားထူး ရခဲ့တာပါ။ ဒါကြောင့် ကာဠီ သူဌေးကတော်ဟာ အမျိုးသမီးတွေ အားလုံးထဲမှာ ပထမဆုံး သစ္စာလေးပါး သိပြီး သောတာပန်ဖြစ်ခဲ့တဲ့ အမျိုးသမီး ပုဂ္ဂိုလ်ထူး ဖြစ်ပါတယ်။ သောတာပန်ဖြစ်တဲ့ အဲဒီညမှာ ကာဠီ သူဌေး ကတော်ဟာ ကိုယ်ဝန်သန္ဓေသားလေး ဖွားမြင်ခဲ့ပါတယ်။ နာမည်ပေး ကင်းပွန်းတပ်တဲ့အခါ သားလေးရဲ့ နာမည်ကို ‘ သောဏ ’ လို့ အမည်ပေးခဲ့ကြတယ်။ ကာဠီ သူဌေးကတော်လည်း မိဘအိမ်မှာ စိတ်တိုင်းကျနေပြီးတဲ့အခါ သူ့အိမ်သားရှိရာ အဝန္တိတိုင်း၊ ကုရရဃရမြို့ ကို ပြန်ခဲ့ပါတယ်။



**အရှင်မဟာကစ္စည်းမထေရ် နဲ့ သောဏသူဌေးသား ရင်းနှီးကျွမ်းဝင်ပုံ**

အဲဒီအချိန်မှာ ရဟန္တာတစ်ပါး ဖြစ်တော်မူတဲ့ အရှင်မဟာ ကစ္စည်းမထေရ်ဟာ ကာဠီသူဌေးကတော်တို့ မိသားစု နေထိုင်တဲ့ ကုရရဃရမြို့ကို ဆွမ်းခံရာ ဂေါစရဂါမ်အဖြစ် အမှီပြုပြီး မြို့အနီးက ပပတ လို့ခေါ်တဲ့တောင်မှာ သီတင်းသုံးနေပါတယ်။အရှင်မဟာကစ္စည်း မထေရ် အိမ်ကို ဆွမ်းခံကြွလာတိုင်း သူဌေးကတော်ကြီးက ဆွမ်း မပြတ်လောင်းလှူပြီး သောဏသူငယ်လေးကလည်း အရှင်မြတ်နား မပြတ် ဆည်းကပ်လို့ အရှင်မြတ်ကြီးနဲ့ အတော်လေး အကျွမ်းတဝင် ရင်းနှီးပါတယ်။ အရှင်မြတ်ကလည်း သောဏသူဌေးသားလေးကို တရားဆုံးမစကား မပြတ်တမ်း ဆုံးမ ဟောကြားပါတယ်။ ဒါကြောင့် သောဏသူဌေးသားလေးဟာ အရွယ်နဲ့မမျှ သာသနာတော်ကို အလွန်ကြည်ညိုတယ်၊ သရဏဂုံ နဲ့ ငါးပါးသီလလည်း အမြဲဆောက် တည်တယ်။ အရွယ်ရောက်တဲ့အခါ အရှင်မဟာကစ္စည်းမထေရ်ကို ပပတတောင်က အရိပ်လည်း ကောင်း ရေလည်း ပြည့်စုံတဲ့နေရာမှာ ကျောင်းဆောက် လှူဒါန်းပြီး ပစ္စည်းလေးပါးနဲ့ လုပ်ကျွေးပြုစုပါတယ်။ အရှင်မဟာကစ္စည်းမထေရ်ထံက တရားမပြတ် နာရလို့ တရား ဗဟုသုတတွေ ရပြီး သံဝေဂဉာဏ်တွေ ရရှိနေတဲ့အတွက် တရားကျင့်ဖို့၊ တရားအားထုတ်ဖို့ စိတ်အားတွေ ထက်သန်နေတယ်။

**ကိုယ့်အသားကို ပြန်စားနေတဲ့ ပြိတ္တာနဲ့ ဆုံတွေ့ပုံ**

သောဏသူဌေးသားဟာ တစ်ခါမှာတော့ အဖော်လှည်း ကုန်သည်တွေနဲ့အတူ ဥဇ္ဇေနီပြည်ကို ကုန်ရောင်းဝယ်ဖို့အတွက် လိုက် သွားပါတယ်။ လှည်းကုန်သည်တွေဟာ ဥဇ္ဇေနီပြည် မရောက်ခင် လမ်းခုလတ် တစ်နေရာမှာ မိုးချုပ်သွားတာနဲ့ လှည်းစခန်းချ နားနေ အိပ်စက်ကြပါတယ်။ သောဏသူဌေးသားက အများနဲ့ ရောပြီး မအိပ်တတ်လို့ အခြား ခပ်လှမ်းလှမ်းက တစ်နေရာမှာ တစ်ယောက်တည်း

ခွဲအိပ်ပါတယ်။ မနက်လင်းခါနီး အရုဏ်တက်ချိန်မှာ လှည်းကုန်သည်တွေဟာ အစောထပြီး ဥဇ္ဇေနီပြည်ကို ခရီးဆက် ထွက်သွားကြတယ်။ ဘယ်သူမှ သောဏသူဌေးသားကို နှိုးဖို့ သတိမရကြဘူး။

သောဏသူဌေးသားလည်း ခရီးပန်းပန်းနဲ့ အိပ်လိုက်တာ မိုးလင်းမှပဲ နိုးတော့တယ်။ နိုးလာတဲ့အခါ အဖော်ကုန်သည်တွေကို တစ်ယောက်မှ မတွေ့တော့တာနဲ့ လှည်းခြေရာခံပြီး အဖော်ကုန်သည်တွေနောက် လိုက်သွားပါတယ်။ အဲဒီလို လိုက်ရင်းက လမ်းခုလပ်တစ်နေရာမှာ ညောင်ပင်ကြီးတစ်ပင်ကို တွေ့ပါတယ်။ အဲဒီညောင်ပင်အောက်မှာလည်း အတော်လေး အရုပ်ဆိုး အကျည်းတန်ပြီး ခန္ဓာကိုယ်ပုံပန်း သဏ္ဌာန်ကလည်း စက်ဆုပ်ရွံရှာဖွယ်ကောင်းတဲ့ ပြိတ္တာတစ်ကောင် ရှိနေတယ်။ ပြိတ္တာကို သောဏသူဌေးသား တွေ့လိုက်လို့ သေချာကြည့်လိုက်တဲ့အခါ ပြိတ္တာကြီးက သူ့ခန္ဓာကိုယ် အရိုးတွေကနေ ကွာကျနေတဲ့ အသားတွေကို ပြန်ကောက်စားနေတာ မြင်ရတယ်။ ဒီတော့ သောဏသူဌေးသားက ပြိတ္တာကြီးကို "အို… အမောင်၊ သင်ဟာ ဘယ်သူတုံး၊ ဘာလို့ ကိုယ့်အသားတွေကို ပြန်ကောက်စားနေတာတုံး" လို့ မေးလိုက်ပါတယ်။ ဒီအခါ ပြိတ္တာကြီးက "အို… လူသား၊ အကျွန်ုပ်က ပြိတ္တာဖြစ်တယ်၊ ရှေးက လုပ်ခဲ့တဲ့ ကံကြောင့် ခုလို အကျွန်ုပ် ကိုယ်မှာရှိတဲ့ အရိုးတွေကနေ ကြွေကြွေကျလာတဲ့ အသားတွေကို ပြန်ကောက်စားနေတာ ဖြစ်တယ်" လို့ ဖြေပါတယ်။

## အကုသိုလ်ကံကြောင့် ပြိတ္တာဖြစ်ရတဲ့ ကုန်သည်

ဆက်ပြီးတော့ သောဏသူဌေးသားက ပြိတ္တာကြီးကို "အို… အမောင်၊ သင် လုပ်ခဲ့တဲ့ ရှေးကံဆိုတာ ဘယ်လို ကံတုံး၊ ရှင်းပြပါဦး" လို့ မေးလိုက်ပါတယ်။ ဒီအခါ ပြိတ္တာကြီးက "အမောင်လူသား၊ အကျွန်ုပ်ဟာ ရှေးတုန်းက ဘာရုကစ္ဆကမြို့သား ကုန်သည်တစ်ယောက် ဖြစ်ခဲ့ပါတယ်။ အဲဒီ ကုန်သည်ဘဝတုန်းက သူများ



ပစ္စည်းဥစ္စာတွေကို လိမ်လည် လှည့်ဖြားပြီး ယူကာ စားသောက်ခဲ့ပါတယ်၊ ဒါတင် မကသေးပါဘူး၊ အကျွန်ုပ်က အလွန်နှမြောတတ်သူဖြစ်တဲ့အတွက် အလှူခံတွေကို တွေ့ရင် မကြိုက်ပါဘူး၊ တစ်ခါတော့ ရဟန်းသံဃာတော်တွေ ဆွမ်းခံကြွလာတာကို မြင်တော့ 'ကိုယ့်အသားကို စားကြပါတော့လား' လို့ ဆဲရေးတိုင်းထွာ ကြမ်းကြမ်းတမ်းတမ်း ပြောဆိုခဲ့ပါတယ်။ ဒီအကုသိုလ်ကံတွေကြောင့်ပဲ အကျွန်ုပ်ဟာ သင်မြင်တဲ့အတိုင်း ဆင်းရဲဒုက္ခတွေ ကြီးစွာ ခံစားနေရတာပါ" လို့ အကျယ်တဝင့် ရှင်းပြပါတယ်။ ဒီပြိတ္တာအကြောင်းကြားရတော့ သောဏသူဌေးသားလေးဟာ သံသရာကျင်လည်ရတဲ့ အပြစ်တွေမြင်ပြီး ထိတ်လန့်တဲ့ သံဝေဂဉာဏ်တွေ ဖြစ်ခဲ့ပါတယ်။

## သွေးမည်းတွေ အန်နေတဲ့ ပြိတ္တာနှစ်ယောက်နဲ့ ဆုံတွေ့ပုံ

အဲဒီကနေ ဆက်ပြီး ခရီးထွက်လာတဲ့အခါ ခံတွင်းကနေ သွေးမည်းတွေ အဆက်မပြတ် ယိုစီးကျနေတဲ့ ပြိတ္တာငယ်နှစ်ယောက်ကို တွေ့ပြန်ပါတယ်။ ဘယ်လို ကံတွေ လုပ်ခဲ့လို့ ဒီလို ဖြစ်နေရတာလဲလို့ သောဏသူဌေးသားက မေးတဲ့အတွက် ပြိတ္တာငယ် နှစ်ယောက်က ခုလို ဖြေပါတယ်။ "အမောင်လူသား၊ အကျွန်ုပ်တို့ဟာ ရှေးဘဝတုန်းက ဘာရုကစ္ဆကမြို့သား ဖြစ်ခဲ့ပါတယ်၊ အသက်အရွယ် ငယ်ငယ်နဲ့ပဲ နံ့သာ အရောင်းအဝယ် အလုပ်နဲ့ အသက်မွေးဝမ်းကျောင်း ပြုခဲ့ကြပါတယ်၊ အကျွန်ုပ်တို့ အရောင်းအဝယ်လုပ်ငန်းကနေ ပြန်အလာ အိမ်မှာ အကျွန်ုပ်တို့ရဲ့ မိခင်က ရဟန္တာတွေကို ပင့်ဖိတ်ပြီး ဆွမ်းဆက်ကပ် လှူဒါန်းနေတာကို တွေ့လိုက်ရတော့ 'အို… မိခင်၊ အကျွန်ုပ်တို့ရဲ့ ဥစ္စာတွေကို ဘယ့်နှယ်ကြောင့် ရဟန်းတွေကို ပေးလှူပစ်ရတာတုံး၊ မိခင် လှူတဲ့ ဆွမ်းဘောဇဉ်တွေကို စားကြတဲ့ ဒီရဟန်းတွေရဲ့ ခံတွင်းကနေ သွေးမည်းတွေ တပွက်ပွက် အန်ထွက်ပါစေ' လို့ စိတ်ဆိုးမာန်ဆိုး ဆဲဆို ကျိန်ဆဲခဲ့ပါတယ်။ ဒီသူငယ်တွေဟာ ဒီ

အကုသိုလ်ကံကြောင့်ပဲ ငရဲမှာ နှစ်ပေါင်းများစွာ ကျရောက်ခဲ့ပြီး ဒီအကုသိုလ်ကံရဲ့ အကြွင်းအကျန် အကျိုးဝိပါက်အနေနဲ့ ခုလို ပြိတ္တာဖြစ်ပြီး သွေးမည်းတွေ အန်ကာ ဒုက္ခတွေ ကြီးစွာ ခံစားနေရတာ ဖြစ်ပါတယ်''

ဒီအကြောင်း ကြားသိရပြန်တော့ သောဏသူဌေးသားလေးမှာ အရင်ကထက် ပိုပြီး သံသရာလည်ရမှာ ထိတ်လန့်ကြောက်ရွံ့တဲ့ သံဝေဂဉာဏ်တွေ ထပ်တလဲလဲ ဖြစ်နေတော့တယ်။

သောဏသူဌေးသားဟာ ဥဇ္ဇေနီပြည်ရောက်ပြီး ကုန်ရောင်းကုန်ဝယ်ကိစ္စပြီးလို့ နေရပ်ရင်း ကုရရဃရမြို့ကို ပြန်ရောက်တဲ့အခါ အရှင်မဟာကစ္စည်းမထေရ်ကို ဒီအကြောင်းတွေ လျှောက်ပြပါတယ်။ ဒီအခါ အရှင်မဟာကစ္စည်းမထေရ်က ''သတ္တဝါတွေ သံသရာလည်နေသရွေ့တော့ ဒီလို ငရဲဘုံတွေ၊ ပြိတ္တာဘုံတွေ ရောက်ပြီး ဆင်းရဲဒုက္ခတွေ ခံစားရမှာ ဖြစ်တယ်၊ သံသရာအလည်ရပ်ပြီး သံသရာပြတ်မှ ဒီဒုက္ခတွေကနေ လွတ်မှာ ဖြစ်တယ်''စသဖြင့် သံသရာလည်ရခြင်းရဲ့ အပြစ်နဲ့ သံသရာပြတ်ခြင်းရဲ့ အကျိုးတရားတွေကို ဖော်ပြပြီး တရားစကားတွေ ဟောကြားလိုက်ပါတယ်။

သောဏသူဌေးသား အိမ်ပြန်ရောက်ပြီး အဲဒီည အိပ်တဲ့အခါ အရှင်မဟာကစ္စည်းမထေရ်ရဲ့ တရားစကားတွေကိုလည်း ကြားယောင်၊ သူ တွေ့ခဲ့ရတဲ့ ပြိတ္တာတွေရဲ့ ဆင်းရဲဒုက္ခ ကြီးစွာ ခံစားနေရပုံတွေကိုလည်း မြင်ယောင်ပြီး အိပ်မပျော် ဖြစ်နေခဲ့ပါတယ်။ တရားတော်ကိုလည်း ဆင်ခြင်၊ ပြိတ္တာတွေရဲ့ အဖြစ်ဆိုးတွေကိုလည်း အောက်မေ့ပြီး သူ့ဉာဏ်ထဲမှာ 'သံသရာလည်ရတဲ့ ဆင်းရဲဟာ အလွန့်အလွန် ကြောက်စရာ ကောင်းပါလား၊ ဒါကြောင့် ငါ ရဟန်းဝတ်ပြီး သံသရာ ပြတ်ကြောင်းတရားကို အားထုတ်တော့မယ်'ဆိုတဲ့ အတွေးအကြံတွေပဲ ထက်သန်စွာ ဖြစ်နေတော့တယ်။



နောက်နေ့မနက် ရောက်တဲ့အခါ သောဏသူဌေးသားဟာ အရှင်မဟာကစ္စည်းထံ သွားရောက်ပြီး ''အရှင်ဘုရား… လူဝတ်ကြောင်ဘဝနဲ့ သံသရာပြတ်ကြောင်း သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါး အကျင့်တရားတွေကို စင်ကြယ်အောင် ကျင့်ဖို့ မလွယ်ကူပါဘုရား၊ ဒါကြောင့် တပည့်တော် ရဟန်းဝတ်ပြီး တရားအားထုတ်ချင်တဲ့အတွက် တပည့်တော်ကို ရဟန်းပြုပေးပါ ဘုရား'' လို့ တောင်းပန်လျှောက်ထားပါတယ်။ ဒီအခါ အရှင်မဟာကစ္စည်းမထေရ်က သောဏသူဌေးသားရဲ့ ဉာဏ်ဟာ တရားထူး ရနိုင်လောက်အောင် မရင့်ကျက်သေးတာကို ဆင်ခြင်မိတဲ့အတွက် ''သောဏ‥ တစ်ယောက်တည်း အိပ်၊ တစ်ယောက်တည်း စားပြီး တရားကို တစ်သက်လုံး ကျင့်ရတဲ့အလုပ် ဆိုတာ မလွယ်ဘူး၊ ဒီတော့ သင်ဟာ လူ့ဘဝနဲ့နေပြီး ငါးပါးသီလ၊ ရှစ်ပါးသီလ စောင့်ထိန်းပါ၊ သမထ၊ ဝိပဿနာဘာဝနာ တရားတွေကို အားထုတ်ပါ၊ အခါအားလျော်စွာ ဥပုသ်နေ့တွေမှာ တစ်ယောက်တည်းနေ၊ တစ်ယောက်တည်းစားပြီး ဗြဟ္မစရိယအကျင့်ကို ကျင့်ကြည့်ပါဦး'' လို့ မိန့်တော်မူလိုက်ပါတယ်။

သောဏသူဌေးသားဟာ တရားရနိုင်လောက်တဲ့အထိ ဣန္ဒြေတွေက မရင့်ကျက်သေး၊ သံဝေဂဉာဏ်တွေကလည်း အလွန် မထက်သေးတဲ့အတွက် ရဟန်းပြုချင်တဲ့ အာသီသ ငြိမ်းသွားတယ်။ ဒါပေမယ့် မေ့မေ့လျော့လျော့ ပေါ့ပေါ့ဆဆ မနေဘဲ အရှင်မြတ်ကြီးထံ မကြာမကြာ သွားပြီး တရားတော်ကို နာယူပါတယ်။ အတော်လေး ကြာတဲ့အခါ ရဟန်းပြုချင်စိတ်ပေါ်လာလို့ ရဟန်းပြုပေးဖို့ရန် လျှောက်ထားတောင်းပန်ပြန်ပါတယ်။ ဒီအခါမှာလည်း အရှင်မဟာကစ္စည်းမထေရ်က ဉာဏ်မရင့်ကျက်သေးတာ ဆင်ခြင်မိတဲ့အတွက် ရဟန်းဝတ်မပေးခဲ့ပါဘူး။

## အရှင်မဟာကစ္စည်းမထေရ် သောဏသူဌေးသားကို ခက်ခက်ခဲခဲ ရဟန်းခံပေးခဲ့ရ

တတိယအကြိမ် လျှောက်ထားတောင်းပန်တဲ့အခါမှာတော့ သူဌေးသားရဲ့ ဉာဏ်ပညာ ရင့်ကျက်နေပြီ ဖြစ်တာမို့ အရှင်မဟာကစ္စည်းမထေရ်က အရင်ဆုံး သောဏကို ရှင်သာမဏေ-ကိုရင် ဝတ်ပေးလိုက်တယ်။ ကိုရင်ဝတ်ပေးပြီးနောက် ရဟန်းဆက်ခံပေးရမှာ ဖြစ်ပေမယ့် အဲဒီအချိန်က ရဟန်းတွေဟာ ဘုရားပွင့်ရာ မဇ္ဈိမဒေသမှာပဲ နေကြတဲ့အတွက် ကုရရဃရမြို့မှာက ရဟန်း နှစ်ပါး၊ သုံးပါးလောက်ပဲ သီတင်းသုံး နေထိုင်ကြတယ်။ ဒီနှစ်ပါး၊ သုံးပါးကလည်း ဟိုရွာမှာ တစ်ပါး၊ ဒီမြို့မှာ တစ်ပါး စသဖြင့် တခြားစီ နေကြတာပါ။ အရှင်မဟာကစ္စည်းမထေရ်ဟာ ကိုရင်သောဏကို ရဟန်းခံပေးဖို့အတွက် ဟိုရွာ ဒီရွာကနေ ရဟန်း နှစ်ပါး၊ သုံးပါး ပင့်ထားပြီး သံဃာပြည့်ဖို့အတွက် နောက်ထပ် အခြားရဟန်းတွေကို လိုက်ပင့်နေတုန်းမှာပဲ အရင်ပင့်ထားတဲ့ ရဟန်းတွေက ကိစ္စရှိလို့ ဆိုပြီး ထွက်သွားကြတယ်။ သိပ်မကြာခင်မှာပဲ နောက်ထပ်ရဟန်းတွေ ပင့်လာခဲ့ပြန်တော့လည်း စောစောက ပင့်ထားတဲ့ ရဟန်းတွေက လုပ်စရာ အလုပ်ရှိလို့ဆိုပြီး ကြွသွားကြပြန်တယ်။ ဒီလိုနဲ့ ကိုရင်သောဏကို ရဟန်းခံပေးဖို့အတွက် သံဃာပင့်တာ သုံးနှစ်ကြာမှပဲ ဆယ်ပါးအပြည့် ရတော့တယ်။ အဲဒီအချိန်က ရဟန်းခံကိစ္စဆောင်ရွက်ဖို့ဆိုရင် ရဟန်း ဆယ်ပါးပြည့်မှ ဆောင်ရွက်လို့ ရတာပါ။ အရှင်မဟာကစ္စည်းမထေရ်ကလည်း အဲဒီအချိန်က ဧကစာရီ တစ်ပါးတည်း နေဆဲဖြစ်တဲ့အတွက် ခုလို သုံးနှစ်ကျော်ကြာမှပဲ ရဟန်း ဆယ်ပါးပြည့်အောင် အတော်လေး ခက်ခက်ခဲခဲ ပင့်နိုင်ခဲ့တာပါ။ ရဟန်း ဆယ်ပါးပြည့်တဲ့ အချိန်ရောက်မှ မထေရ်မြတ်ဟာ တပည့်ဖြစ်တဲ့ ကိုရင် သောဏ ကုဋိကဏ္ဏကို ခဲခဲယဉ်းယဉ်းပဲ ရဟန်းခံပေးခဲ့ရပါတယ်။



## အရှင်သောဏကုဋိကဏ္ဏ တရားကျင့်လို့ ရဟန္တာဖြစ်

အရှင်သောဏ ရဟန်းဖြစ်ပြီးနောက် ဥပဇ္ဈာယ်ဆရာဖြစ်တဲ့ အရှင်မဟာကစ္စည်းမထေရ် အထံမှာ ကမ္မဋ္ဌာန်းတရား သင်ယူကာ ဝိပဿနာတရား ကြိုးစား ပွားများ အားထုတ်တဲ့အတွက် အဲဒီနှစ် ဝါတွင်းမှာပဲ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာအဖြစ်သို့ ရောက်တော်မူခဲ့ပါတယ်။ ရဟန္တာဖြစ်ပြီးတဲ့နောက် သုတ္တနိပါတ် တရားတော်ကို ဆက်လက် သင်ယူခဲ့ပါတယ်။ ဝါကျွတ်တဲ့အခါ မြတ်စွာဘုရားကို ဖူးမြော်ချင်တာနဲ့ အရှင်မဟာကစ္စည်းမထေရ်ထံ ခွင့်တောင်းပါတယ်။ ဒီအခါ ဥပဇ္ဈာယ်ဆရာဖြစ်တဲ့ အရှင်မဟာကစ္စည်းမထေရ်က "သောဏ၊ သင် မြတ်စွာဘုရားထံ ရောက်တဲ့အခါ မြတ်စွာဘုရားက သင့်ကို သူ့ရဲ့ ဂန္ဓကုဋိတိုက်တော်ထဲ အတူနေစေပြီး တရားဟောဖို့ရန် တိုက်တွန်းလိမ့်မယ်၊ ဒီအခါ သင် တရား ရွတ်ဆို ဟောရလိမ့်မယ်၊ မြတ်စွာဘုရားက သင့် တရားစကားအပေါ်မှာ ကြည်ညိုပြီး ဆုပေးတော်မူလိမ့်မယ်၊ ဆုပေးတဲ့အခါ ဆု ငါးမျိုး တောင်းခဲ့ပါ၊ ငါမှာလိုက်တဲ့စကားနဲ့ မြတ်စွာဘုရားရဲ့ ခြေတော်ကို ငါ့ကိုယ်စား သင် ရှိခိုးကန်တော့ပါ" လို့ မိန့်တော်မူကာ ဘုရားဖူးသွားရန် ခွင့်ပြုတော်မူခဲ့ပါတယ်။

အရှင်သောဏ ကုဋိကဏ္ဏဟာ ဥပဇ္ဈာယ်ဆရာရဲ့ ခွင့်ပြုချက် ရပြီးနောက် မယ်တော်အိမ်ကြွပြီး ဘုရားဖူးသွားမည့် အကြောင်း ပြောကြားပါတယ်။ ဒီအခါ မယ်တော် ကာဠီ သူဌေးကတော်ကြီးကလည်း မြတ်စွာဘုရားရဲ့ ဂန္ဓကုဋိတိုက်တော်ထဲမှာ ခင်းဖို့ရန်အတွက် ကမ္ဗလာအခင်းကို အရှင်သောဏ နဲ့ အတူ ထည့်လှူလိုက်ပါတယ်။

အရှင်သောဏ မထေရ်ဟာ မယ်တော် လှူလိုက်တဲ့ ကမ္ဗလာအခင်းကို ယူဆောင်ပြီး ဘုရားဖူးဖို့ရန်အတွက် သာဝတ္ထိပြည်ကို ထွက်လာခဲ့ပါတယ်။ မြတ်စွာဘုရား သီတင်းသုံးရာ ဇေတဝန်ကျောင်း ရောက်ပြီး ဘုရားထံမှောက် ရောက်တဲ့အခါ ရိုသေစွာ ရှိခိုးကန်တော့ပြီး

သင့်တော်တဲ့ နေရာမှာ ထိုင်နေပါတယ်။ မြတ်စွာဘုရားရှင်က အရှင်သောဏ မထေရ်နဲ့ နှုတ်ဆက်စကား မိန့်ဆိုပြီးနောက် အရှင်အာနန္ဒာမထေရ်ကို အရှင်သောဏအတွက် နေရာ ပြင်ပေးဖို့ မိန့်တော်မူပါတယ်။ မြတ်စွာဘုရား ခုလို မိန့်တော်မူလိုက်တယ် ဆိုရင်ပဲ အရှင်အာနန္ဒာက 'သြော်‥ မြတ်စွာဘုရားဟာ အရှင်သောဏနဲ့အတူ ဂန္ဓကုဋီတိုက်တော်ထဲမှာ အတူနေလိုတယ်' ဆိုတာ သိလိုက်ပြီး အရှင်သောဏအတွက် နေရာကို မြတ်စွာဘုရား သီတင်းသုံးတဲ့ ဂန္ဓကုဋီတိုက်တော်ထဲမှာပဲ နေရာပြင်ပေးလိုက်ပါတယ်။ အရှင်အာနန္ဒာ ခုလို သိတယ်ဆိုတာလည်း မြတ်စွာဘုရားရှင်က ကျန်တဲ့ ဧည့်သည် အာဂန္တုရဟန်းတော်အတွက် ဆိုရင် နေရာပြင်ပေးဖို့အတွက် အထူး မိန့်တော်မူလေ့မရှိပါဘူး၊ ဂန္ဓကုဋီတိုက်တော်ထဲမှာ အတူ နေတော်မူလိုမှ ခုလို နေရာပြင်ပေးဖို့ အထူး မိန့်လေ့ရှိတာပါ။ ဒါကြောင့် အရှင်အာနန္ဒာက ဘုရားရဲ့ အလိုဆန္ဒတော်ကို သိနေတာ ဖြစ်ပါတယ်။

**အရှင်သောဏ သုတ္တန် ၁၆ သုတ် ရွတ်ဆို တရားဟောရ**

ညပိုင်းရောက်တဲ့အခါ ညရဲ့ ပထမယာမ်-ပထမပိုင်း၊ မဇ္ဈိမယာမ်-ဒုတိယပိုင်း နှစ်ချိန်လုံးကို မြတ်စွာဘုရားရော အရှင်သောဏ မထေရ်ပါ ဂန္ဓကုဋီတိုက်တော် အပြင်ဘက်မှာပဲ သမာပတ်တွေ ဝင်စားရင်း အချိန်ကုန်လွန်စေခဲ့ကြပါတယ်။ ပစ္ဆိမယာမ်လို့ခေါ်တဲ့ ညဥ့်နှောင်းပိုင်းရောက်မှ ဂန္ဓကုဋီတိုက်ထဲ ဝင်တော်မူကြပြီး မြတ်စွာဘုရားရှင်က နှစ်နာရီခန့် တရားအမှတ်နဲ့ လျောင်းစက် အနားယူပါတယ်။ အရှင်သောဏကတော့ ဘုရားရှင်ရဲ့ ခြေတော်ရင်းမှာ ထိုင်ရင်း တရားမှတ်နေလိုက်ပါတယ်။ မြတ်စွာဘုရားရှင်ဟာ မိုးသောက်ခါနီး အချိန်မှာ ထတော်မူပြီး အရှင်သောဏကို တရားဟောဖို့ တိုက်တွန်းပါတယ်။ ဒီအခါ အရှင်သောဏ မထေရ်ဟာ အလွန်ချိုမြိန်သာယာတဲ့ အသံနဲ့ အက္ခရာ တစ်လုံးတလေမှ မချွတ်မယွင်းစေဘဲ သုတ္တနိပါတ်



ပါဠိတော်လာ အဋ္ဌကဝဂ် လို့ ခေါ်တဲ့ ကာမသုတ္တန် စတဲ့ သုတ္တန်ပေါင်း တစ်ဆယ့်ခြောက်သုတ်ကို ရွတ်ဆိုခဲ့ပါတယ်။

သုတ္တန်များ ပြီးတဲ့အခါ မြတ်စွာဘုရားရှင်က သာဓုခေါ်တော်မူပြီး "ချစ်သား သောဏ၊ သင်ဟာ ဒီ သုတ္တန်တွေကို ကောင်းမွန်စွာ သင်ယူထားတာပဲ၊ ငါဘုရား ဟောကြားခဲ့တုန်းကနဲ့ ခု သင် ရွတ်ဆိုသွားတာဟာ တစ်ထပ်တည်းပဲ၊ အက္ခရာ တစ်လုံးတလေ ပိုတယ်ဆိုတာလည်း မရှိ၊ လိုတယ်ဆိုတာလည်း မရှိဘူး" လို့ ချီးကျူးစကား မိန့်ကြားတော်မူပါတယ်။ ဒီအခါ အရှင်သောဏလည်း ဒါဟာ အချိန်ကောင်းပဲလို့ တွေးပြီး မြတ်စွာဘုရားကို ရှိခိုးကန်တော့ လက်အုပ်ချီကာ သူ့ရဲ့ ဆရာ အရှင်မဟာကစ္စည်းမထေရ် မှာလိုက်တဲ့ ဆု ငါးမျိုးကို တောင်းလိုက်ပါတယ်။

**ဆု ငါး မျိုး**

အရှင်သောဏ တောင်းတဲ့ ဆု ငါးမျိုးက -

(၁) အဝန္တိတိုင်း တောင်ပိုင်းနယ်မှာ သံဃာရဟန်းနည်းပါးတဲ့အတွက် ဆယ်ပါးမပြည့်တဲ့ ရဟန်းသံဃာအရေအတွက်နဲ့ ရဟန်းခံခွင့်ပေးဖို့၊

(၂) အဝန္တိတိုင်း တောင်ပိုင်းနယ်မှာ နွားခြေရာခွက်တွေနဲ့ မြေကြမ်းတမ်းတဲ့အတွက် အထပ်အလွှာများတဲ့ ဖိနပ်ကို စီးခွင့်ပြုဖို့၊

(အဲဒီအချိန်က တစ်ထပ် တစ်လွှာ ဖိနပ်ကိုသာ စီးခွင့်ပြုထားလို့ ခုလို ခွင့်တောင်းတာ ဖြစ်တယ်။)

(၃) အဝန္တိတိုင်း တောင်ပိုင်းနယ်သားတွေဟာ ရေချိုးတာကို အလေး ဂရုပြုကြတဲ့အတွက် အဲဒီဒေသမှာ နေ့စဉ် ရေချိုးခွင့်ပြုဖို့၊ (အဲဒီအချိန်က ၁၅ ရက်မှ တစ်ကြိမ်ပဲ ရဟန်းတွေကို ရေချိုးခွင့်ပြုထားတာ ဖြစ်လို့ ခုလို ခွင့်တောင်းတာ ဖြစ်ပါတယ်။)

(၄) အဝန္တီတိုင်း တောင်ပိုင်းနယ်မှာ လူတွေက သိုးရေ၊ ဆိတ်ရေ၊ သမင်ရေ အခင်းတွေ အသုံးများတဲ့အတွက် ဒီ သားရေ အခင်းတွေကို အသုံးပြုခွင့် ပေးဖို့၊ (အဲဒီအချိန်က ရဟန်းတွေကို သားရေတွေကို သုံးခွင့်ပြုမထားလို့ ခုလို ခွင့်တောင်းတာ ဖြစ်ပါတယ်။)

(၅) ခရီးသွားနေတဲ့ ရဟန်းတော်တွေအတွက် လူတွေက သင်္ကန်းလာလှူထားလို့ သူတို့ ပြန်ရောက်လို့ သင်္ကန်းတွေ ပေးအပ်တဲ့ အခါ အဲဒီရဟန်းတွေက သင်္ကန်းအဖြစ် အဓိဋ္ဌာန်တင် အသိအမှတ် မပြုဘဲ ဆယ်ရက်လွန်အောင် ထားတဲ့ သဘောရောက်နေတဲ့အတွက် မအပ်ဘူး ထင်ပြီး သင်္ကန်းကို လက်မခံဘဲ ရှိရာ ဒီ သင်္ကန်းမျိုးနဲ့ ပတ်သက်ပြီး အပ်စပ်သော ပရိယာယ်နည်းလမ်းကို မိန့်တော်မူဖို့ ဆိုပြီး ဒီ ဆု ငါးမျိုးကို တောင်းခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက အဝန္တီတိုင်း တောင်ပိုင်းနယ်အတွက် သာမက မဇ္ဈိမဒေသမှ အလွတ်ဖြစ်တဲ့ အစွန်အဖျားကျတဲ့ မြန်မာနိုင်ငံ၊ သီရိလင်္ကာနိုင်ငံတို့လို ပစ္စန္တရစ်အရပ်မျိုးတွေမှာ–

(၁) ဝိနည်းတတ်ကျွမ်း နားလည်တဲ့ ဝိနည်းဓိုရ်ရဟန်း အပါအဝင် ရဟန်းသံဃာ ငါးပါးနဲ့ ရဟန်းခံခွင့်ပြုခြင်း၊

(၂) အထပ်အလွှာများတဲ့ ဖိနပ်ကို စီးရန် ခွင့်ပြုခြင်း၊

(၃) မပြတ် ရက်ဆက် ရေချိုးရန် ခွင့်ပြုခြင်း၊

(၄) သားရေအခင်းများကို သုံးရန် ခွင့်ပြုခြင်း၊

(၅) ခရီးသွားနေခိုက် လှူထားတဲ့ သင်္ကန်းများ လက်ထဲ မရောက်မချင်း သင်္ကန်းအဖြစ် အဓိဋ္ဌာန်တင် အသုံးပြုရမည့် ရက်အရေ အတွက်သို့ မရောက်ဘဲ လက်ထဲ စတင် လက်ခံ ရရှိချိန်ရောက်မှသာ အဓိဋ္ဌာန်တင် အသုံးပြုရန် ခွင့်ပြုခြင်း၊

ဒီ ဆု ငါးမျိုးလုံးကို ခွင့်ပြုတော်မူခဲ့ပါတယ်။

အရှင်သောဏကုဋိကဏ္ဏမထေရ်ဟာ မြတ်စွာဘုရားထံကနေ ဆု ငါးမျိုး ရပြီးတဲ့နောက် မယ်တော်ကြီး လှူလိုက်တဲ့ ကမ္ဗလာ



အခင်းကို မြတ်စွာဘုရားအား ဆက်ကပ်လှူဒါန်းပြီး မြတ်စွာဘုရားကို ရှိသေစွာ ရှိခိုးကန်တော့ကာ မိမိနေရပ်ရင်း အဝန္တီတိုင်း ကုရရဃရမြို့ ပပတတောင်ကျောင်းကို ပြန်ကြွတော်မူခဲ့ပါတယ်။

အရှင်သောဏမထေရ်ဟာ ဆရာဥပဇ္ဈာယ်ထံ ပြန်ရောက်တဲ့ အခါ အကျိုးအကြောင်း စုံလင်အောင် လျှောက်ထားပါတယ်။ နောက်နေ့မှာတော့ မယ်တော်ကြီးအိမ် ကြွပြီး မယ်တော်ကြီး ကပ်တဲ့ ဆွမ်းကို ဘုဉ်းပေးပါတယ်။ ဆွမ်းဘုဉ်းပေးပြီးတဲ့အခါ အရှင် သောဏက ဘုရားရှင်ကို ဖူးတွေ့ရတဲ့ အကြောင်း၊ မယ်တော်ကြီး မှာလိုက်တဲ့ စကားတွေကို မြတ်စွာဘုရားအား လျှောက်ထားပြီး ကမ္ဗလာအခင်းကိုလည်း မြတ်စွာဘုရားကို လှူလိုက်တဲ့ အကြောင်း မယ်တော်ကြီးကို ပြောပြပါတယ်။

ဒီအခါ မယ်တော်ကြီးက အရှင်သောဏကို "ချစ်သား၊ သင်ချစ်သားက မြတ်စွာဘုရားကို တရားစကား ရွတ်ဆို လျှောက်ထား တယ်ဆို၊ နောက်ပြီး မြတ်စွာဘုရားကလည်း သင်ချစ်သားကို သာဓုခေါ် ကောင်းချီးပေးတော်မူသတဲ့ဆို" လို့ မေးပါတယ်။

အရှင်သောဏက မယ်တော်ကြီးကို ဒီအကြောင်းအရာတွေ ဘယ်လိုလုပ် သိနေသပါလဲလို့ ပြန်မေးခဲ့ပါတယ်။ ဒီလိုမေးတဲ့အခါ မယ်တော်ကြီးက "ချစ်သား၊ မယ်တော်အိမ်မှာ စောင့်ကြပ်နေတဲ့ အိမ်စောင့်နတ်က ချစ်သားကို ဘုရားရှင်က သာဓုခေါ် ကောင်းချီးပေး တော်မူတဲ့နေ့က စကြဝဠာတိုက် တစ်သောင်းမှာရှိတဲ့ နတ်၊ ဗြဟ္မာ တွေပါ သာဓုခေါ် ကောင်းချီးပေးတယ်ဆိုတဲ့ အကြောင်း ပြောပြလို့ သိရပါတယ်၊ ချစ်သား၊ သင်ချစ်သား ရွတ်ဆိုဟောခဲ့တဲ့တရားကို မယ်တော်ကိုလည်း ပြန်ဟောပြပါဦး" လို့ တောင်းပန်ပါတယ်။ ဒါနဲ့ အရှင်သောဏလည်း မယ်တော်ရဲ့ လျှောက်ထားချက်ကို လက်ခံခဲ့ ပါတယ်။

ကာဠီ မယ်တော်ကြီးလည်း အရှင်သောဏမထေရ် လက်ခံတာကို သိရှိပြီးတဲ့နောက် သူ့ရဲ့ အိမ်ဝိုင်းထဲမှာ မဏ္ဍပ်ကြီး ဆောက်လုပ်စေပြီး အရှင်သောဏမထေရ် မြတ်စွာဘုရားအား ရွတ်ဆို လျှောက်ထားခဲ့တဲ့အတိုင်း သာယာချိုမြိန်တဲ့ အသံနဲ့ ရွတ်ဆိုဟောကြားတဲ့ သုတ္တနိပါတ် အဋ္ဌကဝဂ် ကာမသုတ္တန် စတဲ့ သုတ္တန်ပေါင်း ၁၆ သုတ်ကို နာယူခဲ့ပါတယ်။

**ဧတဒဂ်ဘွဲ့ထူး ချီးမြှင့်တော်မူခြင်း**

ယခုလို သာယာချိုမြိန်တဲ့အသံနဲ့ မြတ်စွာဘုရားနဲ့ မယ်တော်ကြီးတို့ကို သုတ္တန်ပေါင်း ၁၆ သုတ်ကို ရွတ်ဆို ဟောပြောမှုကို အကြောင်းပြုပြီး မြတ်စွာဘုရားရှင်က နောင်သောအခါ အရိယာသံဃာတွေ စုံညီတဲ့အချိန်မှာ အရှင်သောဏကုဋိကဏ္ဏမထေရ်ကို "ချစ်သား ရဟန်းတို့၊ သာယာချိုမြိန်တဲ့အသံနဲ့ တရားစကား ဟောကြားတဲ့ ငါဘုရားရဲ့ တပည့်ရဟန်းတွေထဲမှာ သောဏကုဋိကဏ္ဏဟာ အသာဆုံး အမြတ်ဆုံးပုဂ္ဂိုလ် ဖြစ်ပါပေတယ်"လို့ ကလျာဏဝါက္ကရဏ ဧတဒဂ် အရာထား ချီးမြှောက်တော်မူခဲ့ပါတယ်။

**(ဂ) အရှင်မြတ်နှင့် ဆက်စပ်သည့် တရားတော်**

အရှင်သောဏမထေရ် မြတ်စွာဘုရားကို သုတ္တနိပါတ်တရားတော် ရွတ်ဆိုဟောကြားပြီးတဲ့အခါ မြတ်စွာဘုရားရှင်က ဝမ်းမြောက်ဝမ်းသာ သာဓုခေါ် ကောင်းချီးပေးတော်မူပြီး "ချစ်သား ရဟန်း၊ သင် ဘယ်နှဝါ ရှိပြီလဲ"လို့ မေးတော်မူပါတယ်။ ဒီအခါ အရှင်သောဏက တစ်ဝါသာ ရပါသေးကြောင်း ပြန်လည်လျှောက်ထားပါတယ်။ တစ်ခါ မြတ်စွာဘုရားရှင်က "ချစ်သား ရဟန်း၊ ဘာကြောင့် ခုလို ကြာမြင့်မှ ရဟန်းပြုရတာတုံး"လို့ မေးတော်မူပြန်လို့ အရှင်သောဏက "မြတ်စွာဘုရား၊ တပည့်တော်ဟာ ငါးဖြာ



အာရုံ ကာမဂုဏ်တရားတွေအပေါ် အပြစ်မြင်နေတာ ကြာပါပြီဘုရား၊ လူ့ဝတ်ကြောင်ဘဝဆိုတာ သားမယားတွေနဲ့ ကျဉ်းမြောင်းလှပါတယ် ဘုရား၊ ပြုစရာ ကိစ္စဝိစ္စတွေကလည်း များလှပါတယ် ဘုရား။"လို့ ရှင်းလင်းလျှောက်ထား ဖြေကြားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်က ပဒုမ္မာကြာဖက်ပေါ်မှာ တင်နေတဲ့ရေဟာ ကြာဖက်ထဲ စိမ့်ဝင်မသွားဘဲ လျှောကျသွားသလို ငါးဖြာအာရုံ ကာမဂုဏ်တွေရဲ့ သဘောမှန်ကို သိထားပြီး ကာမဂုဏ်တွေရဲ့ အပြစ်တွေကို မြင်ထားတဲ့သူဟာ အခြေအနေအရ လောကလူ့ဘောင် ကာမဂုဏ်နွံထဲ နေနေရပေမယ့် ကာမဂုဏ်အာရုံတွေကနေ ဆုတ်နစ်လျှောကျတတ်တဲ့ သဘောကို ဆင်ခြင်တော်မူလိုက်ပြီး အရှင်သောဏရဲ့ ဘဝဖြစ်စဉ်နဲ့ပတ်သက်တဲ့ ဥဒါန်းစကားကို အောက်ပါအတိုင်း ကျူးရင့်တော်မူခဲ့ပါတယ်--

"ခပ်သိမ်းသော ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေအပေါ်မှာ မမြဲတဲ့သဘော၊ ဆင်းရဲတဲ့သဘော၊ ဖောက်ပြန်တတ်တဲ့သဘောလို့ ခေါ်တဲ့ အပြစ်ကို ဝိပဿနာဉာဏ်နဲ့ မြင်ထားတဲ့အတွက်ကြောင့်ရော ကိလေသာအပူကင်းရာ နိဗ္ဗာန်ကို မဂ်ဉာဏ်နဲ့ မြင်တဲ့အတွက်ကြောင့်ပါ အရိယာသူတော်ကောင်းဖြစ်တဲ့ ပုဂ္ဂိုလ်ဟာ မကောင်းမှု ဒုစရိုက်တရားတွေ အပေါ်မှာ မမွေ့လျော် မနှစ်ခြိုက် မပျော်ပိုက်တော့ပါချေ။ အဘယ်ကြောင့်ဆိုသော် ရွှေဟင်္သာမင်းတွေဟာ မစင်ထူထပ်တဲ့ အရပ်မှာ ပျော်ပိုက်ရိုး ထုံးစံ မရှိသလို စိတ်ထားစင်ကြယ်နေတဲ့ပုဂ္ဂိုလ်ဟာလည်း မစင်နဲ့တူတဲ့ ညစ်နွမ်းတဲ့ အကုသိုလ်တရားစုအပေါ်မှာ မွေ့လျော် နှစ်ခြိုက် ပျော်ပိုက်ရိုးထုံးစံ မရှိတဲ့ အတွက်ကြောင့်ပဲ ဖြစ်တယ်"

ဒီဥဒါန်းစကားရဲ့ ဆန့်ကျင်ဘက် အဓိပ္ပာယ်ကတော့ "မသူတော် လူယုတ်မာတွေကတော့ ဖြူစင် အပြစ်ကင်းတဲ့ ကုသိုလ်တရားအပေါ်မှာဆို စိတ်နှစ်ခြိုက် ပျော်ပိုက်ပြီး စိတ်ဝင်စားတယ်ဆိုတာ

မရှိကြဘူး၊ ရွာသူရွာသားတွေ မွေးထားတဲ့ ရွာဝက်တွေဟာ မစင်၊ ရွှံ့ညွန်တွေမှာပဲ နှစ်ခြိုက် ပျော်ပိုက်ကြသလို ဒီပုဂ္ဂိုလ်တွေဟာ မစင်ကြယ် စက်ဆုပ်ရွံရှာဖွယ်ရာအတိဖြစ်တဲ့ ကိလေသာညွန်တောမှာပဲ မွေ့လျော်ကြတယ်၊ နှစ်ခြိုက် ပျော်ပိုက်ကြတယ်" လို့ ဆိုလိုတာ ဖြစ်ကြောင်း ဥဒါန်းအဋ္ဌကထာမှာ ဖွင့်ပြထားပါတယ်။

--------------

လူတစ်ယောက် ကိုယ်လိုရာ လောကီ၊ လောကုတ္တရာ ပန်းတိုင်ကို ရောက်လိုတယ်ဆိုရင်-

* ကြိုတင်ပြီး ကောင်းမှုကုသိုလ်ကို ပြုလုပ်ထားရခြင်း၊
* ကိုယ်နဲ့ သင့်တော်တဲ့ အရပ်ဒေသကောင်းမှာ နေရခြင်း၊
* အမှီကောင်း ရှိရခြင်း၊
* မိမိစိတ်ကို ကောင်းမွန်စွာ ထားရခြင်း၊

ဒီလေးမျိုးနဲ့ ပြည့်စုံဖို့ လိုအပ်ပါတယ်။ ဒီလေးမျိုးပြည့်စုံသွားပြီဆိုရင် လိုရာပန်းတိုင်ကို ချောချောမောမော ရောက်တော့တာပါပဲ" လို့ မြတ်စွာဘုရား ဟောထားတာကို အင်္ဂုတ္တိုရ်ပါဠိတော် စတုက္ကနိပါတ် စက္ကသုတ်မှာ ဖော်ပြထားပါတယ်။

အရှင်သောဏကုဋိကဏ္ဏမထေရ်အကြောင်း ကြည့်ညိုကြည့်တဲ့အခါ ရည်မှန်းချက်နဲ့ ပြုလုပ်ခဲ့တဲ့ ပါရမီကောင်းမှုကုသိုလ်ရှိခဲ့တဲ့ အတွက် ဘုရားပွင့်ရာခေတ်ကာလ သူတော်ကောင်းတွေရှိတဲ့ အရပ်ဒေသကောင်းမှာ လူဖြစ်ခွင့်ရခဲ့တယ်။ နောက်ပြီး ကာဠီ ဆိုတဲ့ သောတာပန်အရိယာ မိခင်ကောင်းနဲ့ ရဟန္တာဖြစ်တော်မူတဲ့ အရှင်မဟာကစ္စည်းမထေရ် အမှီကောင်းတွေ ရခဲ့တယ်။ ဒီတော့ သူတော်ကောင်းတရား အဆုံးအမတွေနဲ့ ကြီးပြင်းခွင့် ရခဲ့ပြီး စိတ်ကို မှန်ကန်တဲ့ လမ်းကြောင်းပေါ် အကောင်းဆုံး တည်ဆောက်ထားနိုင်ခဲ့တယ်။ ဒါကြောင့် အရှင်သောဏမထေရ်ဟာ အမြင့်ဆုံး ပန်းတိုင်ကို ရောက်ခဲ့တာ ဖြစ်ပါတယ်။ မိမိတို့တစ်တွေလည်း အရှင်မြတ်လို အမြင့်ဆုံးကို



ရောက်ချင်တယ်ဆိုရင် ကြိုတင်ပြီး ကုသိုလ်ကောင်းမှု အကြောင်းကောင်းတွေ ပြုလုပ်ထားဖို့ လိုအပ်လှပါတယ်။

သံဝေဂယူ ရှောင်ကြဉ်ဖို့ နောက်တစ်ချက်ကတော့ စဉ်းလဲကောက်ကျစ်တဲ့ ဝိသမလောဘကုန်သည် မဖြစ်ဖို့နဲ့ ဝစီဘေဒ ထိတိုင်းရှတတ်တဲ့သဘောကို ဆင်ခြင်ပြီး နှုတ်စောင့်စည်းဖို့ပဲ ဖြစ်ပါတယ်။ သူတစ်ပါးကုန်ပစ္စည်းကို မတရားတဲ့နည်းနဲ့ ယူပြီဆိုရင်တော့ အပါယ်လေးပါး ရောက်ပြီး ဒုက္ခကြီးစွာ ရောက်ရတတ်ပါတယ်။ သူတော်ကောင်းတွေကို ဝစီကံနဲ့ ပြစ်မှားရင် သူတော်ကောင်းက ဘာမှ ဖြစ်မသွားပါဘူး။ ပြစ်မှားတဲ့သူသာ သူပြစ်မှားတဲ့ ဝစီကံအတိုင်း ခံရတတ်ပါတယ်ဆိုတာ အရှင်သောဏမထေရ် ကြုံတွေ့ခဲ့တဲ့ ပြိတ္တာဝတ္ထုတွေကနေ သံဝေဂယူကြရမှာ ဖြစ်ပါတယ်။

နောက်ပြီး မိမိတို့တစ်တွေ အခြေအနေအရ ကာမဂုဏ်ကိလေသာနွံတောထဲ နေနေရပေမယ့် ပဒုမ္မာကြာဖက်ပေါ်က ရေလိုလျှောကျလိုတဲ့ စိတ်ထားရှိနေဖို့ အရေးကြီးတယ်ဆိုတဲ့ အချက်နဲ့ ရွာဝက်တွေလို ကိလေသာ ကာမနွံထဲမှာ ပျော်မနေဘဲ ရွှေဟင်္သာလို မစင်ကင်းတဲ့အရပ်မှာ ပျော်လိုတဲ့ စိတ်ထား ရှိဖို့ အရေးကြီးကြောင်း သတိပေးဆုံးမနေတာကိုလည်း သတိထား သံဝေဂယူ အသိပွားနိုင်ကြပါစေ။

**ကျမ်းကိုး---**

၁။ မင်းကွန်းဆရာတော်၏ မဟာဗုဒ္ဓဝင် ဆဋ္ဌတွဲ (ပဌမပိုင်း)
၂။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပဌမတွဲ၊ စာ ၁၈၅။
၃။ ဥဒါန်း အဋ္ဌကထာ၊ စာ ၂၇၈။
၄။ ထေရဂါထာ အဋ္ဌကထာ (ဒု) စာ ၆၉ ။
၅။ ဝိနည်း မဟာဝါ ပါဠိတော်၊ စာ ၂၈၆။
၆။ သာရတ္ထဒီပနီဋီကာ၊ တတိယတွဲ၊ စာ ၂၉၆။



### လာဘ်လာဘ ပေါများသူတွေထဲမှာ အထာဆုံး

### လာဘီ ဧတဒဂ်ရ

## အရှင်သီဝလိမထေရ်

'ရှင်သီဝလိ' လို့ ဆိုလိုက်တာနဲ့ ဗုဒ္ဓဘာသာဝင်တိုင်းလိုလို ကြားဖူးကြပြီး ဒီနာမည်နဲ့လည်း အတော်လေးကို ရင်းနှီးကျွမ်းဝင်ပြီးသား ဖြစ်မှာပါ။ ဘာလို့လဲဆိုတော့ ရှင်သီဝလိကို ကိုးကွယ်ရင် စီးပွားတက်တယ်လို့ ယုံကြည်တဲ့သူတွေက များတာကိုး။

ရှင်သီဝလိမထေရ် လာဘ်လာဘပေါများတယ် ဆိုတာက ပဒုမုတ္တရ မြတ်စွာဘုရားထံမှာ ကောင်းမှုပြုပြီး ဆုတောင်းခဲ့တဲ့ အတွက်ကြောင့်နဲ့ ဝိပဿီမြတ်စွာဘုရားထံမှာ ပျားရည်နဲ့ နို့ဒိန်ရည်ကို ရောစပ်ပြီး လှူခဲ့ကာ ဆုတောင်းခဲ့တဲ့ အတွက်ကြောင့် ဖြစ်ပါတယ်။ ဒီအကြောင်းကို ရှင်သီဝလိကိုယ်တိုင် ဟောခဲ့တဲ့ ထေရာပဒါန် ပါဠိတော်မှာ တွေ့ရပါတယ်။ သူဟာ ဒီလို ထူးခြားတဲ့ ကုသိုလ်တွေ

လုပ်ပြီး ဆုတောင်းခဲ့တဲ့အတွက်ကြောင့် တောမှာဖြစ်ဖြစ်၊ မြို့ရွာထဲမှာ ဖြစ်ဖြစ်၊ ရေထဲမှာ ဖြစ်ဖြစ်၊ ကုန်းပေါ်မှာ ဖြစ်ဖြစ် ဘယ်နေရာမှာ မဆို လာဘ်လာဘတွေ ရခဲ့ပါတယ်တဲ့။

ဒီဒေသနာတော်အရဆိုရင် လာဘ်လာဘ ပေါများလိုသူ တွေဟာ ရှင်သီဝလိ မထေရ်လို ကောင်းမှုကုသိုလ် ပြုလုပ်ပြီး ဒီကုသိုလ်ရဲ့ အကျိုးအနေနဲ့ ဖြစ်လေရာ ဘဝတွေမှာ လာဘ်လာဘ ပေါများသူ ဖြစ်ရပါလို၏-လို့ ဆုတောင်း ပတ္ထနာမှု ပြုရမှာ ဖြစ် ပါတယ်။ သတိထားရမှာကတော့ ရှင်သီဝလိမထေရ်က လာဘ် ပေါများတဲ့ ဆုကိုသာ တောင်းတာ မဟုတ်ပါဘူး။ 'လာဘ်ပေါများတဲ့ အရာ အသာဆုံး ဧတဒဂ်ရ ရဟန္တာမထေရ်လို ဖြစ်ရပါလို၏' လို့ လောကုတ္တရာ တရားထူးရတဲ့အထိ ရည်ညွှန်ပြီး ဆုတောင်းခဲ့တာ ကိုတော့ သတိချပ်စေချင်ပါတယ်။

စီးပွားတက်ပြီး လာဘ်လာဘ ပေါများလိုသူတွေ ရှင်သီဝလိ မထေရ်လို ကျင့်ကြံနိုင်စေဖို့ အရှင်မြတ်ရဲ့ ဘဝဇာတ်ကြောင်းကို ပိဋကတ်တော်ကနေ ထုတ်နုတ်ပြီး ကြည်ညိုကြပါမယ်။

* အကုသိုလ်ဟာ၊ လိုတာ မပေး၊ စိတ် မအေးရ၊ ကိုယ်က တစ်ဖန်၊ သူ့ကို ပြန်၊ တာဝန် ယူရပါ။

* ကုသိုလ်ဆိုတာ၊ လိုတာကို ပေး၊ စိတ်အေးရအောင်၊ သူက တစ်ဖန်၊ ကိုယ့်ကိုပြန်၊ တာဝန်ယူသွားပါ။ (တိပိဋက ယော ဆရာတော်)

နောက်ပြီး အရှင်သီဝလိမထေရ်အကြောင်း ကြည်ညိုရတဲ့အခါ အထက်ပါ တိပိဋက ယောဆရာတော်ရဲ့ ကုသိုလ်နဲ့ အကုသိုလ်သဘော ကို ဖော်ပြတဲ့ လင်္ကာနဲ့ တစ်ထပ်တည်း ညီညွတ်နေတာကိုလည်း သတိထား အတုယူစရာ၊ ရှောင်စရာ အနေနဲ့ တွေ့ရပါမယ်။



အကုသိုလ်မှုတွေ ဆိုတာ ကိုယ်လိုချင်တာတွေကို မပေး ပါဘူး၊ သူ့ကို ပြုပြီးရင်လည်း ကိုယ့်မှာ စိတ်အေးချမ်းသာ ဖြစ်ရ တယ်ဆိုတာ မရှိပါဘူး။ ကိုယ်ပြုထားသမျှ အကုသိုလ်မှုတွေရဲ့ ဆိုးပြစ်တွေကို ကိုယ်ကိုယ်တိုင်ပဲ တာဝန်ယူ ပေးဆပ်ရပါတယ်။ ကုသိုလ်ဆိုတာကတော့ ကိုယ်တောင့်တတဲ့ အရာတွေ၊ ကိုယ်ဖြစ်လိုတဲ့ ဆန္ဒတွေကို ဖြည့်ဆည်းပေးနိုင်တဲ့ တရားပါ။ ကုသိုလ်ပြုပြီးတိုင်းလည်း ခုရောနောင်ပါ စိတ်အေးချမ်းသာ ဖြစ်ရပါတယ်။ ကိုယ်မလိုချင်တဲ့ အပါယ်ဆင်းရဲတွေ၊ ဘဝဆင်းရဲတွေနဲ့ မကြုံရလေအောင်၊ ကိုယ်လိုချင် တဲ့ ဘဝချမ်းသာ၊ နိဗ္ဗာန်ချမ်းသာဆိုတဲ့ ချမ်းသာသုခတွေ ရအောင် ကိုယ်ပြုထားတဲ့ ကုသိုလ်တွေကပဲ အကုန်လုံး တာဝန်ယူသွားတတ်တဲ့ သဘောရှိပါတယ်။

'ကုသိုလ်က ကောင်းကျိုး ပေးတတ်ပြီး အကုသိုလ်က ဆိုးပြစ်တွေ ပေးတတ်တယ်' ဆိုတဲ့ ကံတွေရဲ့ အကျိုးပေးသဘောမှန် ကိုလည်း ရှင်သီဝလိမထေရ် ဝတ္ထုကနေ သတိထား အသိပွားပြီး လိုက်နာပြုကျင့် ဆောင်စရာ အနေနဲ့ရော၊ သတိထား သံဝေဂပွားပြီး ရှောင်စရာ အနေနဲ့ပါ မြင်တွေ့ရမှာ ဖြစ်ပါတယ်။

## (က) အတိတ်ဘဝ ဆုတောင်း ပါရမီဖြည့်ပုံ

### (၁) ပဒုမုတ္တရ မြတ်စွာဘုရားလက်ထက် ဆုပန်ပုံ

အရှင်သီဝလိမထေရ်လောင်း သူတော်ကောင်းဟာ လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကာလက ပွင့်တော်မူခဲ့တဲ့ ပဒုမုတ္တရ မြတ်စွာဘုရားထံ တော်မှာ တရားတော်နာယူရင်း တရားပွဲအပြီး မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို လာဘ်ပေါများတဲ့ ပုဂ္ဂိုလ်တွေထဲမှာ အသာဆုံး ဧတဒဂ်အရာထား ချီးမြှောက်တာကို အားကျပြီး ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ခုနစ်ရက်တိုင်တိုင် ဆွမ်းပင့်ကပ်ကာ မဟာဒါန

အလှူကြီး ပေးလှူခဲ့ပါတယ်။ အလှူပွဲအပြီးမှာ "မြတ်စွာဘုရား၊ ယခုပြုရတဲ့ အဓိကာရ ကောင်းမှုကုသိုလ်ကံကြောင့် အခြားဆုကို မတောင်းလိုပါ ဘုရား၊ နောင်အနာဂတ် တစ်ဆူသော ဘုရားရှင်ရဲ့ သာသနာတော်မှာ တပည့်တော်လည်း အရှင်ဘုရားတို့ ဧတဒဂ်အရာ ထား ချီးမြှောက်ခဲ့တဲ့ ရဟန်းလို လာဘ်လာဘ ပေါများသူတွေထဲမှာ အသာဆုံးပုဂ္ဂိုလ် ဖြစ်ရပါလို၏ ဘုရား" လို့ ဆုပန်ခဲ့ပါတယ်။

ပဒုမုတ္တရ မြတ်စွာဘုရားရှင်ဟာ အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူတဲ့အတွက် "သင်တောင်းတဲ့ ဒီဆုဟာ အနာဂတ် ဂေါတမဘုရား သာသနာမှာ ပြည့်လိမ့်မယ်" လို့ ဗျာဒိတ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။

## (၂) ဝိပဿီမြတ်စွာဘုရားလက်ထက် ကောင်းမှုပြု ဆုတောင်းပုံ

အရှင်မြတ်အလောင်း သူတော်ကောင်းဟာ အသက်ထက်ဆုံး ကုသိုလ်ကောင်းမှုတွေ ပြုလုပ်ပြီးနောက် အပါယ်လေးပါး မလား မရောက်ဘဲ လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ရင်းက ဝိပဿီ မြတ်စွာဘုရားလက်ထက် ရောက်တဲ့အခါ ဗန္ဓုမတီမင်းနေပြည်နဲ့ သိပ် မဝေးတဲ့ ရွာတစ်ရွာမှာ အမျိုးကောင်းသား ဖြစ်လာပါတယ်။ ဝိပဿီ မြတ်စွာဘုရားဆိုတာ ဒီကမ္ဘာကနေ ပြန်ရေလိုက်ရင် ၉၁ ကမ္ဘာ ထက်မှာ ပွင့်တော်မူတဲ့ ဘုရား ဖြစ်ပါတယ်။

အဲဒီအချိန်က ဗန္ဓုမတီမင်းကြီးနဲ့ တိုင်းသူပြည်သားတွေဟာ သူရှုံး ငါနိုင် အပြိုင်သဘောအနေနဲ့ ဝိပဿီမြတ်စွာဘုရားကို အကြီး အကျယ် လှူဒါန်းကြတယ်။ မြို့သူမြို့သားတွေ အလှူပေးတဲ့နေ့မှာ "ငါတို့ လှူဖွယ်တွေထဲမှာ ဘာများ မပါဘဲ လိုအပ်နေတာရှိလဲ" လို့ စစ်ဆေးကြည့်လိုက်တဲ့အခါ "ပျားရည် နဲ့ နွားနို့ခဲ" နှစ်မျိုး မပါတာ ကို သတိထားလိုက်မိကြတယ်။ ဒါနဲ့ အဲဒီ နှစ်မျိုးရဖို့အတွက်



တောနယ်ကနေ မြို့ကို ဝင်လာတဲ့ လမ်းဝတွေမှာ အစောင့်လူတွေကို လွှတ်ထားလိုက်ကြတယ်။ အဲဒီခါမှာ အရှင်သီဝလိ မထေရ်လောင်း ဖြစ်တဲ့ တောရွာသား အမျိုးကောင်းသားဟာ နွားနို့ခဲရောင်းပြီး ပစ္စည်းတစ်ခုခု ဝယ်မယ် ဆိုတဲ့ အကြံနဲ့ နွားနို့ခဲအိုး ယူဆောင်ကာ မြို့ကို လာခဲ့ပါတယ်။ မြို့ကို ဝင်ခါနီးတဲ့အခါ မျက်နှာသစ်၊ ခြေလက် ဆေးပြီးမှ ဝင်မယ်ဆိုတဲ့ အတွေးနဲ့ ရေရနိုင်မယ့် နေရာကို လျှောက်ရှာ ရင်းက အတော်လေးကြီးပြီး ပျားကောင်မရှိတဲ့ ပျားအုံ ပျားလဘို့ကြီး တစ်ခုကို တွေ့လိုက်ပါတယ်။ ဒါနဲ့ ငါ့ကုသိုလ်ကံကြောင့် ဒီပျားအုံကြီး ရလိုက်တာပဲဆိုပြီး ဝမ်းသာအားရနဲ့ ပျားအုံကြီးပါ ယူလာပြီး မြို့ထဲ ဝင်ခဲ့ပါတယ်။

မြို့သူမြို့သားတွေ အစောင့်လွှတ်ထားတဲ့ မြို့သားက အရှင်မြတ်အလောင်း တောရွာသားကို မြင်လိုက်တာနဲ့ "အမောင်··· ဒီ ပျားအုံနဲ့ နွားနို့ခဲက ဘယ်သူ့အတွက် ယူလာတာပါလဲ" လို့ မေးပါ တယ်။ ဒီလိုမေးတော့ တောရွာသားက "ဘယ်သူ့အတွက်မှ မဟုတ်ပါ ဘူးဗျာ၊ ရောင်းဖို့ပါဗျ" လို့ ဖြေလိုက်တယ် ဆိုရင်ပဲ အစောင့်ထားတဲ့ မြို့သားက "အမောင်··· ဒါဆိုရင် သင့် ပျားအုံနဲ့ နွားနို့ခဲကို အသပြာ တစ်ကျပ်နဲ့ ရောင်းပါ" လို့ ပြောလိုက်ပါတယ်။ ဒီအခါ အရှင်မြတ် အလောင်း တောရွာသားက 'ငါယူလာတဲ့ ပျားအုံနဲ့ နွားနို့ခဲက ဒီလောက်ကြီး မတန်ပါဘူး၊ ဒီမြို့သားက တွေ့တွေ့ချင်း ဈေးကြီးကြီး ပေးဝယ်နေတယ်၊ အကြောင်းရင်းမှန် သိအောင်တော့ စုံစမ်းဦးမှပဲ' ဆိုတဲ့ အတွေးနဲ့ တစ်ကျပ်နဲ့တော့ မရောင်းနိုင်ပါကြောင်း ပြန်ဖြေ လိုက်ပါတယ်။

ဒီအခါ အစောင့်မြို့သားက နှစ်ကျပ်နဲ့ ရောင်းဖို့ ဈေးစကား ပြောပါတယ်။ တောရွာသားက နှစ်ကျပ်နဲ့လည်း မရောင်းနိုင်ပါ ကြောင်း ငြင်းလိုက်ပြန်တယ်။ ဒီလိုနဲ့ ဈေး တိုးတိုးပေးလာလိုက်တာ

"တစ်ထောင်ပေးမယ်၊ ရောင်းပါဗျာ"အထိ ဖြစ်လာတယ်။ ဒီအခြေအနေအထိ ရောက်လာတဲ့အခါ တောရွာသားက "နေပါဦးဗျာ.. ဘယ့်နှယ်ကြောင့် အဖိုး အဆမတန်ပေးပြီး ပျားအုံနဲ့ နွားနို့ကို ဝယ်ချင်ရတာတုံး"လို့ မေးလိုက်တယ်။ ဒီအခါ အစောင့်မြို့သားက သူတို့မြို့သူမြို့သားတွေဟာ မင်းကြီးနဲ့ ပြိုင်ပြီး ဝိပဿီမြတ်စွာဘုရားကို အလှူဒါန ပြုနေကြတဲ့ အကြောင်း၊ ဒီ ပျားရည်နဲ့ နွားနို့ခဲ နှစ်မျိုးမှ မပါရင် မြို့သူမြို့သားတွေ ရှုံးမှာ ဖြစ်ကြောင်း၊ ဒါကြောင့် အသပြာတစ်ထောင် ပေးပြီး ဝယ်ရတာဖြစ်ကြောင်း ရှင်းပြတယ်။ ဒီလိုကြားလိုက်ရတဲ့အခါ တောရွာသားက "ဒီအလှူဒါနကို ခင်ဗျားတို့မြို့သူမြို့သားတွေပဲ လှူနိုင်ပါသလား၊ ကျုပ်တို့ တောသားတွေကော လှူလို့ မရဘူးလား"လို့ မေးလိုက်တယ်။

ဒီလိုမေးလို့ အစောင့်မြို့သားက "မြို့သားဖြစ်ဖြစ်၊ တောသားဖြစ်ဖြစ် ဘယ်သူမဆို လှူလို့ ရပါတယ်"လို့ ဖြေလိုက်တာနဲ့ တောရွာသားက "ဒီအလှူပွဲမှာ တစ်နေ့တည်းနဲ့ အသပြာတစ်ထောင် လှူတဲ့သူပါပါသလား"လို့ မေးလိုက်တယ်။ မပါတဲ့အကြောင်း မြို့သားက ဖြေပါတယ်။ ဒီအခါ အရှင်မြတ်အလောင်း တောရွာသားက "အို... အဆွေ၊ အကျွန်ုပ် ခု ယူလာတဲ့ ပျားအုံနဲ့ နွားနို့ခဲက အသပြာတစ်ထောင်တန်တာ သင် သိနေပါပြီ၊ မြို့သူမြို့သားတွေကို ဒီ ပစ္စည်းနှစ်ခုအတွက်နဲ့တော့ ဘာမှ စိုးရိမ်ပူပန် ကြောင့်ကြမနေပါနဲ့လို့ ပြောလိုက်ပါ၊ တောရွာသားက ဒီနှစ်ခုကို ငွေကြေးတန်ဖိုးနဲ့တော့ မပေးပါ၊ သူ့လက်နဲ့ သူကိုယ်တိုင်ပဲ လှူပေးပါမယ်၊ ဒါပေမယ့် အဆွေတော်အနေနဲ့ အကျွန်ုပ်ဟာ ဒီအလှူပွဲမှာ တန်ဖိုးအကြီးဆုံး လှူဒါန်းသူဖြစ်ကြောင်းတော့ သက်သေခံပေးပါ"လို့ ပြောကြားလိုက်ပါတယ်။



**ပျားရည်နဲ့ နွားနို့ဒိန်ရည် ရောစပ်လှူဒါန်း**

အဲဒီနောက် အရှင်သီဝလိအလောင်း တောရွာသားဟာ ပဥ္စကမ္ဗုတ် ခေါ်တဲ့ အမွှေးအကြိုင် အစပ်ငါးမျိုး ဝယ်ယူကာ အမှုန့်ကြိတ်လိုက်တယ်၊ တစ်ခါ နွားနို့ခဲကနေ နို့ဒိန်ရည်ကို ညှစ်ယူလိုက်ပြီး အဲဒီ ဒိန်ရည်ထဲမှာ ပျားလဘို့ကနေ ပျားရည် ညှစ်ချလိုက်ပါတယ်။ နောက်ပြီး အစပ် ငါးမျိုး အမှုန့်နဲ့ ရောစပ် ပြင်ဆင်ကာ ယူဆောင်လာခဲ့ပြီး မြတ်စွာဘုရားနဲ့ မနီးမဝေးအရပ်ကနေ လှူခွင့်ရအောင် မြို့သူမြို့သားတွေ ကြားကနေ ထိုင်စောင့်နေလိုက်ပါတယ်။ စောင့်မျှော်ရင်းက လှူဖို့အလှည့် ရောက်တာနဲ့ တောရွာသားဟာ မြတ်စွာဘုရားထံတော်ပါး သွားရောက်ပြီး "မြတ်စွာဘုရား... ဤလှူဖွယ်ဝတ္ထုဟာ တပည့်တော်ရဲ့ ဆင်းရဲသားအလှူ ဖြစ်ပါတယ်ဘုရား၊ ဒီအလှူဝတ္ထုကို တပည့်တော်အား သနားတဲ့အနေနဲ့ အလှူခံတော်မူပါ ဘုရား"လို့ တောင်းပန်လျှောက်ထားပါတယ်။ ဝိပဿီမြတ်စွာဘုရားရှင်ဟာ တောရွာသားကို သနား စောင့်ရှောက်တဲ့အနေနဲ့ အလှူခံတော်မူခဲ့ပြီး နောက်ပါ ရဟန်းတွေကိုပါ လှူဒါန်းလို့ မကုန်နိုင်လောက်အောင် အဓိဋ္ဌာန်တော်မူလိုက်ပါတယ်။ မြတ်စွာဘုရားရဲ့ အဓိဋ္ဌာန်တော်ကြောင့် မြတ်စွာဘုရားရှင်နဲ့ အတူ သံဃာတော်တွေပါ အားလုံး ဘုဉ်းပေး သုံးဆောင်ရပါတယ်။ ဒီလို အဓိဋ္ဌာန်နိုင်တာကတော့ ဘုရားရှင်တို့ရဲ့ ဘယ်သူမှ လိုက်ပြီး ကြံစည်လို့ မသိနိုင် မမီနိုင်တဲ့ ဗုဒ္ဓဝိသယ အစိန္တေယျဂုဏ်တော်ကြောင့် ဖြစ်ပါတယ်။

တောရွာသားလည်း မြတ်စွာဘုရားရှင် ဆွမ်းဘုဉ်းပေးပြီးတဲ့အခါ ရှိခိုးဦးချ ကန်တော့ပြီး လက်အုပ်ချီကာ "မြတ်စွာဘုရား၊ တပည့်တော် ယခုကဲ့သို့ ပျားရည်နဲ့ နွားနို့ဒိန်ရည်ကို လှူဒါန်းလိုက်ရတဲ့ ကောင်းမှုကုသိုလ်ကံရဲ့ အကျိုးဆက်ကြောင့် ဖြစ်လေရာရာ ဘဝသံသရာမှာ လာဘ်လာဘအနေနဲ့ အထွတ်အမြတ်ရောက်သူ၊

အခြံအရံ အကျော်အစောအနေနဲ့လည်း အထွတ်အမြတ်ရောက်သူ ဖြစ်ရပါလို၏ ဘုရား''လို့ ဆုတောင်းလိုက်ပါတယ်။ ဒီအခါ ဝိပဿီ မြတ်စွာဘုရားက ''သင် ဆုတောင်းတဲ့အတိုင်း ဖြစ်ပါစေ''လို့ မိန့်ကြားတော်မူပြီး တောရှာသားနဲ့တကွ မြို့သူမြို့သားတွေကို ဆွမ်းအနုမောဒနာတရား ဟောကြားကာ ကျောင်းတော်သို့ ပြန်ကြွသွားတော်မူခဲ့ပါတယ်။

## (ခ) နောက်ဆုံးဘဝဇာတ်ကြောင်းနဲ့ ရဟန်းပြုတော်မူပုံ

အရှင်သီဝလိလောင်း အမျိုးကောင်းသားဟာ အသက်ထက်ဆုံး ဒါန၊ သီလ စတဲ့ ကောင်းမှု ကုသိုလ်တွေ ပြုလုပ်ခဲ့ပြီးနောက် နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ရင်း အကျွန်ုပ်တို့ ဂေါတမ မြတ်စွာဘုရားလက်ထက်တော်ကာလ ရောက်လာတဲ့အခါ ကောလိယ သာကီဝင်မင်းမျိုးမှာ သုပ္ပဝါသာ အမည်ရှိတဲ့ မင်းသမီးရဲ့ ဝမ်းကြာတိုက်မှာ ပဋိသန္ဓေ တည်နေခဲ့ပါတယ်။ ဒီ အမျိုးကောင်းသား ပဋိသန္ဓေ တည်တဲ့နေ့ကစပြီး မယ်တော် သုပ္ပဝါသာ မင်းသမီးထံ လက်ဆောင်ပဏ္ဏာတွေဟာ နေ့ရော ညပါ ဆက်ကာဆက်ကာ ရောက်လာခဲ့ပါတယ်။ ဒါကြောင့် သုပ္ပဝါသာ မင်းသမီးဟာ အရင်ကထက် ပိုပြီး ပြည့်စုံကြွယ်ဝလာခဲ့ပါတယ်။

## ရှင်သီဝလိလောင်း ပဋိသန္ဓေတည်နေချိန် ထူးခြားမှုများ

ဆွေတော်မျိုးတော်တွေဟာ သုပ္ပဝါသာမင်းသမီးရဲ့ ဘုန်းကံအစွမ်းကို သိချင်ကြတာနဲ့ စပါးကြဲမယ့် မျိုးစေ့တွေကို မင်းသမီးလက်နဲ့ တို့ထိ ကိုင်စေပြီးမှ အဲဒီ မျိုးစေ့တွေကို ကြဲလိုက်ကြတယ်။ အဲဒီအခါမှာ မျိုးစေ့ တစ်စေ့ တစ်စေ့ကနေ အပင်အညှောက်ပေါင်း အရာ အထောင် ပေါက်ပြီး ထွက်လာတယ်။ အဲဒီခေတ် အတိုင်းအတာအရ မင်းပယ်



တစ်ပယ်သာ ကျယ်တဲ့ လယ်တစ်ကွက်ထဲကနေ လှည်းအစီးပေါင်း ငါးဆယ်၊ ခြောက်ဆယ်တိုက်လောက် ကောက်စပါးများ ထွက်ခဲ့တယ်။ စပါးကျီထဲ စပါးထည့်တဲ့အခါလည်း မင်းသမီးရဲ့ လက်နဲ့ စပါးကျီ တံခါး၊ စပါးကျီကို တို့ထိ ကိုင်စေကြတယ်။ မင်းသမီးရဲ့ ဘုန်းကံကြောင့် စပါးကျီထဲက ကောက်စပါး ထုတ်ယူတိုင်း ထုတ်ယူတိုင်း လျော့သွားတဲ့ နေရာတွေမှာ စပါးတွေ အလိုလို ပြန်ပြန်ပြည့်လာတယ်။ ချက်ပြီးသား ထမင်းအိုးထဲက ထမင်းကိုတောင် ''ဒါ မင်းသမီးရဲ့ ဘုန်းကံပါ''လို့ ပြောပြီး လာသမျှ လူတွေကို ကျွေးမွေးလှူဒါန်းရင် ကုန်သွားတယ်ဆိုတာ မရှိပါဘူး။ ဒါတွေကတော့ ရှင်သီဝလိလောင်း သတို့သား ပဋိသန္ဓေတည်နေစဉ် မယ်တော်မှာ ဖြစ်တဲ့ ထူးခြားချက်တွေပါ။

သုပ္ပဝါသာမင်းသမီးရဲ့ ဝမ်းကြာတိုက်ထဲမှာ ရှင်သီဝလိလောင်း သတို့သား ပဋိသန္ဓေနေတာဟာ သာမန်သန္ဓေသားတွေလို ကိုးလ၊ ဆယ်လ မဟုတ်ဘဲ ခုနစ်နှစ်တောင် ကြာခဲ့ပါတယ်။ ခုနစ်နှစ်စေ့လို့ ကိုယ်ဝန်သန္ဓေသား ရင့်ကျင့်လာတဲ့အခါ မယ်တော် သုပ္ပဝါသာမင်းသမီးမှာ ကိုယ်ဝန်ကြောင့် ဖြစ်ရတဲ့ ပင်ပန်းဆင်းရဲဒုက္ခကို ခုနစ်ရက်ကြာ အပြင်းအထန် ခံစားခဲ့ရတယ်။သန္ဓေသားဟာ ကမ္မဇလေကြောင့် ခြေက အထက် ဦးခေါင်းက အောက်အနေအထားနဲ့ မွေးလမ်းကြောင်း ဦးတည်တဲ့အချိန်မှာ ပုံမှန်အနေအထားအတိုင်း မဟုတ်တော့ဘဲ မွေးလမ်းကြောင်းမှာ ကန့်လန့်အနေအထား ဖြစ်ပြီး မိခင်ရော ကလေးပါ ခုနစ်ရက်ကြာ အတိဒုက္ခ ရောက်နေခဲ့ကြတာပါ။

သုပ္ပဝါသာမင်းသမီးဟာ ခင်ပွန်းဖြစ်တဲ့ ကောလိယမင်းသားကို အနားခေါ်လိုက်ပြီး ''မသေခင် အသက်ရှင်နေတုန်း အလှူလုပ်ချင်ပါတယ်၊ ဒါကြောင့် မြတ်စွာဘုရား သွားပင့်ပေးပါ၊ နောက်ပြီး ကျွန်မရဲ့ ခု ခံစားနေရတဲ့ ဒုက္ခဖြစ်စဉ်ကိုလည်း မြတ်စွာဘုရားကို

လျှောက်ပြပေးပါ၊ မြတ်စွာဘုရား ပြန်မိန့်လိုက်တဲ့စကားကို မှတ်သားခဲ့ပြီး ကျွန်မကို ပြန်ပြောပြပါ”လို့ ပြောဆိုကာ လွှတ်လိုက်ပါတယ်။ ကောလိယမင်းသားလည်း မြတ်စွာဘုရားထံ သွားရောက်ကာ မင်းသမီး မှာလိုက်တဲ့အတိုင်း လျှောက်ထားပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်က “သုပ္ပဝါသာ ကောလိယ မင်းသမီး ချမ်းသာပါစေ၊ အနာရောဂါ မရှိ ကျန်းမာ ချမ်းသာစွာနဲ့ အနာရောဂါ ကင်းတဲ့ သားလေးကို ဖွားမြင်ပါစေ”လို့ မိန့်တော်မူလိုက်တယ်။ ကောလိယမင်းသားဟာ မြတ်စွာဘုရား မိန့်တော်မူလိုက်တဲ့ စကား မှတ်သားပြီး မြတ်စွာဘုရားကို ရှိခိုးဦးချ ကန်တော့ကာ ပြန်လာခဲ့ပါတယ်။ မင်းသား ပြန်မရောက်ခင်မှာပဲ သုပ္ပဝါသာ မင်းသမီးရဲ့ ဝမ်းကြာတိုက်ကနေ ရေစစ်ထဲက ရေ လျှောကျသလို သန္ဓေသားလေး လျှောကျလာပြီး မွေးဖွားခြင်းကိစ္စ ပြီးသွားခဲ့တယ်။ အနားမှာ ဝန်းရံစောင့်ရှောက်နေကြတဲ့ သူတွေလည်း ငိုရမယ့် အနေ အထားကနေ ခုမှပဲ ပြုံးလာနိုင်ကြတော့တယ်။ အားရဝမ်းသာနဲ့ သားလေး မွေးပြီးတဲ့အကြောင်း ကောလိယမင်းသားထံ သတင်းပို့ဖို့ တစ်ယောက်ကို စေလွှတ်လိုက်တယ်။

## သားမွေးတဲ့ မင်္ဂလာဆွမ်းအဖြစ် ခုနစ်ရက်တိုင်တိုင် လှူဒါန်း

ကောလိယမင်းသားလည်း သတင်းလာပို့တဲ့ မင်းချင်း ယောကျ်ား အားရဝမ်းသာ ပြေးလာဆီးကြိုပုံ အခြင်းအရာကို မြင်လိုက်တာနဲ့ ‘မြတ်စွာဘုရား မိန့်တော်မူလိုက်တဲ့စကား ပြီးစီးအောင်မြင်သွားပြီ ထင်တယ်’လို့ ဆင်ခြင်စဉ်းစားမိလိုက်တယ်။ မင်းသား ပြန်ရောက်ပြီးတာနဲ့ မင်းသမီးကို မြတ်စွာဘုရား မိန့်တော်မူလိုက်ပုံကို ပြောပြတယ်။ ဒီအခါ သုပ္ပဝါသာ မင်းသမီးက “အရှင့်သား… သင် ပင့်ဖိတ်ခဲ့တဲ့ အသက်ရှင်ဆွမ်းဟာ ခုတော့ မင်္ဂလာဆွမ်း ဖြစ်ပါ



တော့မယ်၊ ဒါကြောင့် ခုနစ်ရက်လုံးလုံး ဆွမ်းဘုဉ်းပေး ကြွဖို့ မြတ်စွာဘုရားကို ပင့်ပေးပါဦး”လို့ ပြောဆိုခဲ့ပါတယ်။ ကောလိယမင်းသားလည်း မင်းသမီး ပြောဆိုတဲ့အတိုင်း ပင့်ပေးခဲ့ပြီး မင်းသားရော မင်းသမီးပါ သားမွေးဖွားမှုကို အကြောင်းပြုပြီး ဘုရားအမှူးရှိတဲ့ ရဟန်းသံဃာတော်တွေကို ခုနစ်ရက်တိုင်တိုင် အလှူကြီး အကြီး အကျယ် ပေးလှူခဲ့ပါတယ်။

## သီဝလိ လို့ နာမည်ပေး

ဆွေမျိုးတွေရဲ့ ပူပန်စိတ်ကို ငြိမ်းအေးစေပြီး ဖွားမြင်လာတဲ့ အတွက်ကြောင့် သူငယ်ရဲ့ နာမည်ကို ‘သီဝလိ - မောင်ငြိမ်းချမ်း’ လို့ မှည့်ခေါ်ခဲ့ကြတယ်။ သီဝလိသူငယ်ရဲ့ ထူးခြားချက်က မိခင် ဗိုက်ထဲမှာ ခုနစ်နှစ်တိတိ နေခဲ့ရတဲ့အတွက်ကြောင့် မွေးပြီးတဲ့အခါ ခုနစ်နှစ်သားကလေးတွေ လုပ်တဲ့ အလုပ်မျိုး အကုန်လုံး လုပ်နိုင်စွမ်း ရှိနေတာပါပဲ။ ဒါကြောင့် ခုနစ်ရက်တိတိ လုပ်တဲ့ အလှူပွဲကြီးမှာ သီဝလိသူငယ်ဟာ ရေစစ်နဲ့ ရေစစ်ပြီး သံဃာတော်တွေကို သောက်ရေ ဆက်ကပ်လှူဒါန်းခဲ့ပါတယ်။

## သီဝလိသူငယ် ရှင်သာမဏေပြုပြီး ခုနစ်နှစ်သားနဲ့ ရဟန္တာဖြစ်ပုံ

အရှင်သာရိပုတ္တရာမထေရ်ဟာ အလှူပွဲကြီး ခုနစ်ရက် ပြည့်တဲ့နေ့မှာ သီဝလိသူငယ်နဲ့ စကား ပြောရင်းက “သီဝလိ… သင်ဟာ ဒီလောက် ခုနစ်နှစ် ကြာအောင် ဒုက္ခတွေ ခံစားခဲ့ရတာ ရှင်ရဟန်းဝတ်ဖို့ မသင့်ဘူးလား”လို့ မိန့်လိုက်ပါတယ်။ သီဝလိ သူငယ်က “အရှင်ဘုရား… မိဘတွေသာ ခွင့်ပြုရင် တပည့်တော် ရှင်ရဟန်းပြုချင်ပါတယ် ဘုရား”လို့ ပြန်လျှောက်ခဲ့ပါတယ်။ ဒီလို သီဝလိသူငယ် အရှင်သာရိပုတ္တရာနဲ့ စကားပြောနေတာကို သုပ္ပဝါသာ

မင်းသမီး မြင်လိုက်တာနဲ့ အရှင်မြတ်ကြီးထံ ချဉ်းကပ်ပြီး "အရှင်ဘုရား... တပည့်တော်မသားလေးက အရှင်ဘုရားနဲ့ ဘာစကားတွေ ပြောနေတာလဲ ဘုရား"လို့ မေးလျှောက်လိုက်ပါတယ်။ အရှင်သာရိပုတ္တရာက "သူ ခံစားခဲ့ရတဲ့ အမိဝမ်းခေါင်း ခုနစ်နှစ်ကြာ ကိန်းအောင်းခဲ့ရတဲ့ ဒုက္ခကို ပြောပြပြီး မိဘတွေသာ ခွင့်ပြုမယ်ဆိုရင် သူ ရှင်ရဟန်းပြုချင်တယ်လို့ ပြောနေတာပါ"လို့ မိန့်တော်မူလိုက်ပါတယ်။ ဒီလို မိန့်လိုက်ရင်ပဲ သုပ္ပဝါသာမင်းသမီးက "အရှင်ဘုရား.. သီဝလိသူငယ်ကို ရှင်ပြုပေးတော်မူပါ ဘုရား" လို့ ခွင့်ပြုစကား လျှောက်ထားလိုက်ပါတယ်။

## အဂ္ဂသာဝက နှစ်ပါးကိုယ်တိုင် ရှင်ပြုပေးခဲ့

ဒီအခါ အရှင်သာရိပုတ္တရာ မထေရ်ဟာ သီဝလိသူငယ်ကို ကျောင်းတော် ခေါ်သွားပြီး တစ ပဉ္စက ကမ္မဋ္ဌာန်း သင်ပေးကာ ရှင်ပြုပေးဖို့ ပြင်ဆင်ရင်းက "သီဝလိ.. တခြား ထူးထူးခြားခြား ဆုံးမသြဝါဒ ပေးစရာ မလိုတော့ဘူး၊ ခုနစ်နှစ်လုံးလုံး သင်ကိုယ်တိုင် ခံစားခဲ့ရတဲ့ ဆင်းရဲဒုက္ခဝေဒနာကိုပဲ ဆင်ခြင် စဉ်းစားပါလော့" လို့ မိန့်တော်မူပါတယ်။ ဒီအခါ သီဝလိသူငယ်က "အရှင်ဘုရား... ရှင်ပြုပေးရန်သာ အရှင်ဘုရားတို့ တာဝန်ဖြစ်ပါသည်ဘုရား၊ တပည့်တော် ဆင်ခြင်နိုင်သမျှ တရားနှလုံးသွင်းတဲ့အမှုကို တပည့်တော်ပဲ ဆင်ခြင်စဉ်းစား ပွားများပါမည် ဘုရား" လို့ ပြန်လည် လျှောက်ထားခဲ့ပါတယ်။ သီဝလိ သူငယ်ရဲ့ သန္တာန်မှာ မိခင် ဝမ်းဗိုက်ထဲ ခုနစ်နှစ် နေခဲ့ရတဲ့ ဒုက္ခကို ဆင်ခြင်လိုက်တဲ့အခါ လောဟကုမ္ဘီငရဲအိုးထဲမှာ နေနေရသလို သံဝေဂဉာဏ်တွေ ထင်လာပါတယ်။ နောက်ထပ် ဘဝသစ်မှာ ပဋိသန္ဓေပြန်ပြီး တည်နေရမယ့်ဒုက္ခကို ဆင်ခြင်ပြီး



ကာမဘုံ၊ ရူပဘုံ၊ အရူပဘုံဆိုတဲ့ ဘုံသုံးရပ်ကို မီးတောက် မီးလျှံကြီး တောက်လောင်နေသလိုမျိုး သံဝေဂဉာဏ်တွေ ထင်နေပါတော့တယ်။

ဒီနောက်တော့ အရှင်မဟာမောဂ္ဂလာန်မထေရ်က ဆံချပေးပါတယ်။ သီဝလိသူငယ်ဟာ ပထမဆံဝန်းကို ရိတ်ချလိုက်တဲ့ အချိန်မှာပဲ သောတာပတ္တိဖိုလ် တည်ခဲ့ပါတယ်။ ဒုတိယဆံဝန်းကို ရိတ်ချတဲ့ အခါ သကဒါဂါမိဖိုလ် တည်ခဲ့ပြီး တတိယဆံဝန်းကို ရိတ်ချတဲ့အခါ မှာတော့ အနာဂါမိဖိုလ် တည်ခဲ့ပါတယ်။ ဆံကေသာ အကုန်လုံး ရိတ်ပြီးတဲ့ အချိန်မှာတော့ အရဟတ္တဖိုလ်တည်ခဲ့ပါတယ်။ ဆံချတဲ့ကိစ္စ ပြီးဆုံးတာနဲ့ ကိလေသာ အာသဝေါတွေ ချုပ်ငြိမ်းတာ နှစ်ခုဟာ မရှေးမနှောင်း တစ်ပြိုင်နက် ဖြစ်ပြီး ရဟန္တာဖြစ်ခဲ့တာ ဖြစ်ပါတယ်။

## ရှင်သီဝလိရဲ့ ဘုန်းကံကြီးမားပုံ

သီဝလိသူငယ် ရှင်ပြုတဲ့နေ့ကစပြီး သံဃာတော်တွေမှာ ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး ပစ္စည်းလေးပါး ပိုပြီး ပေါများလာခဲ့ပါတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာ မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းကို ရောက်နေတဲ့အခါ အရှင်သီဝလိမထေရ်က မြတ်စွာဘုရားကို "မြတ်စွာဘုရား... တပည့်တော်ရဲ့ ဘုန်းကံကို စုံစမ်းလိုတဲ့အတွက် ရဟန်းငါးရာကို တပည့်တော်ရဲ့ အဖော်အဖြစ် ထည့်ပေးတော်မူပါ ဘုရား" လို့ ခွင့်ပန် လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားကလည်း ခွင့်ပြုတဲ့အတွက် အရှင်သီဝလိမထေရ်ဟာ အဖော် ရဟန်းငါးရာနဲ့အတူ ဟိမဝန္တာတောင်တန်းဆီ ဦးတည်ပြီး တောလမ်းအတိုင်း ခရီးကြွတော်မူခဲ့ပါတယ်။ လမ်းခရီးမှာ ပထမဆုံး စခန်းမှာ ညောင်ပင်ကြီးတစ်ပင်ကို တွေ့ပါတယ်။ ညောင်ပင်စောင့် နတ်မင်းက အရှင်သီဝလိမထေရ်မြတ်အား ခုနစ်ရက်တိုင်တိုင်

အလှူဒါန ပေးလှူခဲ့ပါတယ်။ အရှင်သီဝလိကို အကြောင်းပြုပြီး အဖော် ရဟန်းငါးရာတို့လည်း ဆွမ်းဘုဉ်းပေးခဲ့ရပါတယ်။

ဒီနည်းအတိုင်း ခရီး ဆက်ကြွတော်မူလာခဲ့တာ (၂) ပဏ္ဍဝ တောင်၊ (၃) အစိရဝတီမြစ်၊ (၄) ဝရသာဂရ သမုဒ္ဒရာ၊ (၅) ဟိမဝန္တာ တောင်၊ (၆) ဆဒ္ဒန်အိုင်၊ (၇) ဂန္ဓမာဒနတောင်တွေဆီ အစဉ်အတိုင်း ဆိုက်ရောက်ခဲ့ပါတယ်။ ရောက်တဲ့ နေရာတိုင်းမှာ ရှိနေတဲ့ နတ်တွေက အရှင်သီဝလိမထေရ်ကို ခုနစ်ရက်တိုင်တိုင် ဆွမ်း၊ ခဲဖွယ်၊ ရေချမ်း စတဲ့ လှူဖွယ်ပစ္စည်းတွေ ဆက်ကပ်လှူဒါန်းခဲ့ပါတယ်။

ဂန္ဓမာဒနတောင်မှာတော့ နာဂဒတ္တ နတ်မင်းက ခုနစ်ရက် အလှူပေးရာမှာ တစ်ရက်မှာတော့ ဃနာနို့ဆွမ်း ဆက်ကပ်ခဲ့ပြီး နောက်တစ်ရက်မှာတော့ ထောပတ်ဆွမ်း ဆက်ကပ်ခဲ့ပါတယ်။ ဒီအခါ ရဟန်းသံဃာတွေက " ငါ့ရှင်တို့… ဒီလို နို့ဆွမ်းတွေ၊ ထောပတ်ဆွမ်း တွေ ကပ်နိုင်ဖို့အတွက် ဒီ နတ်မင်း နွားမတွေကို နို့ညှစ်နေတာလည်း မတွေ့၊ ထောပတ်ရဖို့ နို့ခမ်းကျိုပြီး နို့ခမ်း မွှေနေတာလည်း မတွေ့ပါ လား။ အို… ဒါယကာနတ်မင်း၊ ဘယ်လို ကောင်းမှုကြောင့် သင့်မှာ ဒီလို နို့ဃနာဆွမ်းတွေ၊ ထောပတ်ဆွမ်းတွေ ရနေတာလဲ" လို့ မေးမြန်းခဲ့ကြတယ်။ ဒီအခါ နာဂဒတ္တ နတ်မင်းက "အရှင်ဘုရား တို့…. ယခုလို နို့စားနွားလည်း မရှိ၊ နို့ခမ်းလည်း မကျို မချက်ရဘဲ နို့ဃနာဆွမ်းတွေ၊ ထောပတ်ဆွမ်းတွေ ရရှိ လှူဒါန်း ဆက်ကပ်နိုင် နေတာဟာ ကဿပမြတ်စွာဘုရား လက်ထက်တော်အခါက စာရေးတံ နို့ဃနာဆွမ်း လှူဒါန်းခဲ့တဲ့ ဒါနကောင်းမှုရဲ့ အကျိုးဆက် ဖြစ်ပါတယ် ဘုရား"လို့ ပြန်လည် လျှောက်ထားခဲ့ပါတယ်။ ဒါကတော့ ဟိမဝန္တာ ခရီးတစ်လျှောက် ခုနစ်ဌာနမှာ ဖြစ်ပေါ်ခဲ့တဲ့ အရှင်သီဝလိမထေရ်ရဲ့ ဘုန်းကံကြီးမားပုံများ ဖြစ်ပါတယ်။



**ရှင်ရေဝတနေတဲ့ ရှားတောကြွစဉ်ကာလ**
**အရှင်သီဝလိမထေရ်ရဲ့ ဘုန်းကံအစွမ်း**

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ နောက်ပါ ရဟန်း ငါးရာနဲ့အတူ အရှင်သာရိပုတ္တရာရဲ့ ညီအငယ်ဆုံး ရေဝတသာမဏေ သီတင်းသုံးတဲ့ ရှားတောအရပ်ကို ဒေသစာရီခရီး ကြွတော်မူခဲ့ပါတယ်။ ခရီးသွားရင်း လမ်းခုလတ် လမ်းနှစ်လမ်းဖြာထွက်သွားတဲ့နေရာ ရောက်တဲ့အခါ အရှင်အာနန္ဒာက မြတ်စွာဘုရားရှင်ကို "မြတ်စွာ ဘုရား၊ ရေဝတဆီ သွားတဲ့လမ်းခရီးမှာ ဒီလမ်းကတော့ ယူဇနာ ခြောက်ဆယ်ရှိတယ် ဘုရား၊ လမ်းခရီးက ဝေးပေမယ့် လမ်းမှာ ရွာစဉ် ရွာဆက်ရှိတော့ ဆွမ်းကွမ်း အဆင်ပြေတယ် ဘုရား။ ဒီ နောက် တစ်လမ်းကတော့ အဖြောင့်လမ်း ဖြစ်ပြီး ယူဇနာ သုံးဆယ်ပဲ ဝေးပါတယ် ဘုရား၊ ဒါပေမယ့် လမ်းမှာ ရွာစဉ်ရွာဆက် မရှိဘဲ ဘီလူး၊ သားရဲ တိရစ္ဆာန်တွေ ပေါတယ် ဘုရား၊ ဘယ်လမ်းကနေ သွားကြပါမည်လဲ ဘုရား" လို့ လျှောက်ထား မေးမြန်းခဲ့တယ်။ မြတ်စွာဘုရားက "အာနန္ဒာ၊ တို့နဲ့အတူ သီဝလိ ပါရဲ့လား" လို့ မေးတော်မူလိုက်ပြီး အရှင်အာနန္ဒာကလည်း ရှင်သီဝလိ ပါရှိပါကြောင်း ပြန်လည် လျှောက်ထားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက "အာနန္ဒာ… တို့နဲ့အတူ သီဝလိ ပါရင် အဖြောင့်လမ်းကိုပဲ ရွေးပြီး သွားကြတာပေါ့"လို့ မိန့်တော်မူခဲ့ ပါတယ်။ မြတ်စွာဘုရားရှင်က "သင်တို့ကို ငါက ဆွမ်းဘောဇဉ်တွေ ကို ရအောင် စီမံပေးမယ်၊ အဖြောင့်လမ်းရွေးကြ"လို့ မိန့်တော်မမူခဲ့ ပါဘူး။ ရှင်သီဝလိရဲ့ ရှေးက ပြုခဲ့တဲ့ ကောင်းမှုကုသိုလ်ရဲ့ အကျိုး ပေးတဲ့ နေရာဌာန၊ အချိန်အခါ ဖြစ်တယ်ဆိုတာ သိမြင်လို့ "သီဝလိ ပါရင် အဖြောင့်လမ်းကိုပဲ ရွေးပြီး သွားကြတာပေါ့"လို့ မိန့်တော်မူခဲ့ တာ ဖြစ်ပါတယ်။ မြတ်စွာဘုရားရှင်က အဖြောင့်လမ်းကို ရွေးပြီး

စကြွတယ်ဆိုရင်ပဲ လမ်းမှာ ရှိတဲ့ နတ်တွေက "ငါတို့ရဲ့ အရှင်မြတ် သီဝလိမထေရ်ကို ပူဇော်ကြရတော့မယ်"ဆိုပြီး ယူဇနာသုံးဆယ်ရှိတဲ့ ခရီးရဲ့ တစ်ယူဇနာတိုင်းမှာ ကျောင်းတွေ ဆောက်လုပ်ထားတယ်။ မြတ်စွာဘုရားနဲ့ သံဃာတော်တွေကို တစ်နေ့ တစ်ယူဇနာထက် ပိုပြီး အကြွမခံကြဘူး၊ တစ်ယူဇနာရောက်တိုင်း သူတို့စီမံထားတဲ့ ကျောင်းတွေမှာ တည်းခိုနားနေစေပြီး မနက်စော ရောက်တဲ့အခါ နတ်ယာဂု၊ နတ်ဘောဇဉ်တွေနဲ့ ရှင်သီဝလိမထေရ်ကို လှူဒါန်းကြတယ်။

ရှင်သီဝလိမထေရ်က သူ့ဆီ ဦးတည်ပြီး ယူလာတဲ့ အဲဒီ ခဲဖွယ်၊ ဘောဇဉ်တွေကို ဘုရားအမှူးရှိတဲ့ သံဃာတော်အပေါင်းငါးရာအား လှူဒါန်းစေခဲ့ပါတယ်။ ယခုလို မြတ်စွာဘုရားနဲ့ နောက်ပါ သံဃာတော်တွေဟာ ဒီ ယူဇနာသုံးဆယ်ရှိတဲ့ ကန္တာရခရီးခဲကို ရှင်သီဝလိရဲ့ ဘုန်းကံကိုသာ အမှီပြုပြီး လွန်မြောက်တော်မူခဲ့ကြတာ ဖြစ်ပါတယ်။ နောက်ပြီး ရှင်ရေဝတရဲ့ အလွန်ခေါင်တဲ့ ရှားတောကျောင်းမှာ နေတဲ့ တစ်လတာမှာလည်း ဘုရားအမှူးရှိတဲ့ သံဃာတော်တွေဟာ ရှင်သီဝလိရဲ့ ဘုန်းကံအစွမ်းနဲ့ပဲ နတ်တွေ လှူဒါန်းတဲ့ ဆွမ်း၊ ဘောဇဉ်တွေကို သုံးဆောင်တော်မူခဲ့ရတာ ဖြစ်ပါတယ်။

**ဧတဒဂ်ဘွဲ့ထူး ရတော်မူပုံ**

ဒီလို လူသူမနီး ဘေးရန်တွေ ပေါလှတဲ့ လမ်းခရီးအကြားမှာရော ရှားတောကျောင်းမှာပါ နတ်တွေက ရှင်သီဝလိမထေရ်ကို ဦးတည်ပြီး နေ့စဉ်မပြတ် ဆွမ်း၊ ခဲဖွယ်၊ ဘောဇဉ်တွေ လှူဒါန်းတဲ့ ဖြစ်ရပ်ကို အကြောင်းပြုပြီး မြတ်စွာဘုရားရှင်က ရှင်သီဝလိမထေရ်ကို -

"ဧတဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ ဘိက္ခူနံ လာဘီနံ၊ ယဒိဒံ သီဝလိ = ရဟန်းတို့၊ ပစ္စည်းလေးပါး လာဘ်လာဘ



ပေါများကြတဲ့ ငါဘုရားရဲ့ တပည့်ရဟန်းတွေထဲမှာ သီဝလိ ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပေတယ်" လို့ -

ချီးကျူးတော်မူပြီး လာဘ်လာဘ ပေါများတဲ့အရာ အသာဆုံး ဧတဒဂ်ဘွဲ့ထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

**(ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်အပိုင်း**
**ရှင်သီဝလိမယ်တော်ရဲ့ မွေးဒုက္ခ သည်းခံနည်း သုံးနည်း**

အရှင်သီဝလိမထေရ်ရဲ့ ဘဝဖြစ်စဉ်နဲ့ ပတ်သက်ပြီး မြတ်စွာဘုရားက ဂါထာတစ်ပုဒ် ဟောခဲ့တဲ့ အကြောင်းကို ဓမ္မပဒအဋ္ဌကထာ ဒုတိယအုပ်မှာ မှတ်တမ်းတင်ထားပါတယ်။ အဲဒီထဲက ရှင်သီဝလိရဲ့ မယ်တော် သုပ္ပဝါသာမင်းသမီး ခုနစ်နှစ် ကိုယ်ဝန်ဆောင်ခဲ့ရပြီးနောက် မွေးဖွားတဲ့အခါ ခုနစ်ရက်ကြာ သားဖွားဒုက္ခ အကြီးအကျယ် ခံစားခဲ့ရချိန်မှာ အတွေး သုံးမျိုးနဲ့ သည်းခံခဲ့ပုံကို အရင် ဖော်ပြပါ့မယ်။

သမ္မာသမ္ဗုဒ္ဓေါ ဝတ သော ဘဂဝါ၊ ယော ဣမဿ ဧဝရူပဿ ဒုက္ခဿ ပဟာနာယ ဓမ္မံ ဒေသေတိ - ဒီလို ဆင်းရဲ ဒုက္ခအမျိုးမျိုးကို ပယ်ဖို့ရန် တရားဟောတော်မူတဲ့ ငါတို့ မြတ်စွာဘုရားဟာ တရားအလုံးစုံကို အကုန်အစင် သိမြင်တော်မူတဲ့ သဗ္ဗညုတ ရွှေဉာဏ်တော်နဲ့ ပြည့်စုံတော်မူပါပေတယ်။

သုပ္ပဋိပန္နော ဝတ တဿ ဘဂဝတော သာဝကသံဃော၊ ယော ဣမဿ ဧဝရူပဿ ဒုက္ခဿ ပဟာနာယ ပဋိပန္နော - ဒီလို ဒုက္ခအမျိုးမျိုးကို ပယ်နိုင်ဖို့အတွက် တရားကျင့်တော်မူကြတဲ့ ထို ဘုရားရဲ့ တပည့်သား သံဃာတော်တွေဟာ ကောင်းမွန်စွာ ကျင့်တော်မူကြပါပေတယ်။

သုသုခံ ဝတ တံ နိဗ္ဗာနံ၊ ယတ္ထိဒံ ဧဝရူပံ ဒုက္ခံ န သံဝိဇ္ဇတိ - ဒီလို ဆင်းရဲဒုက္ခမျိုးတွေ မရှိတဲ့ နိဗ္ဗာန်တရားမြတ်ဟာ အလွန့်အလွန် ချမ်းသာပါပေတယ်။

သုပ္ပဝါသာ မင်းသမီးဟာ သီဝလိသူငယ်ကို ဖွားမြင်တဲ့အခါ ခုနစ်ရက်ကြာ အပြင်းအထန် ခံစားနေရတဲ့ သားမွေးမှုဒုက္ခကို ဒီအတွေးအကြံ သုံးမျိုး ထပ်ကာထပ်ကာ တွေးကြံပြီး မညည်းမညူ သည်းခံနေခဲ့ပါတယ်။

## ရဟန္တာ ဟူသည်

ရှင်သီဝလိမထေရ် ရဟန္တာဖြစ်ပြီးတဲ့နောက်ပိုင်း တစ်နေ့မှာတော့ ရဟန်းတော်တွေဟာ မြတ်စွာဘုရား တရားဟောဖို့ ကြွမလာခင် ဓမ္မသဘင်မှာ "ငါ့ရှင်တို့… ရဟန္တာဖြစ်လောက်အောင် အကြောင်းကံပါလာတဲ့ ရှင်သီဝလိလို ရဟန်းတောင်မှ မိခင်ဝမ်းဗိုက်ထဲမှာ နှစ်ပေါင်းများစွာ ဒုက္ခတွေ ခံစားခဲ့ရတယ်၊ ကျန်တဲ့ သာမန်ပုဂ္ဂိုလ်ဆို ဘယ်မှာ ဆိုဖွယ်ရာ ရှိတော့မလဲ၊ ဒီ ရှင်သီဝလိ မထေရ်ဟာ ခုတော့ ဒုက္ခတွေကို လွန်မြောက်သွားပြီ" လို့ စကားစပ်မိ ပြောဆိုနေခဲ့ကြတယ်။ ဒီအခါ မြတ်စွာဘုရား ကြွလာပြီး "ဘယ်လိုစကားမျိုး ပြောဆိုနေကြသလဲ" မေးမြန်းတော်မူပြီး "ဟုတ်တယ် ရဟန်းတို့၊ သီဝလိဟာ ခုတော့ ဒုက္ခတွေက လွတ်မြောက်ပြီး ဒုက္ခတွေ ချုပ်ငြိမ်းရာ နိဗ္ဗာန်ကို မျက်မှောက်ပြုကာ နေနိုင်ပြီ" လို့ မိန့်တော်မူရင်း အောက်ပါ ဂါထာစကားကို မိန့်တော်မူခဲ့ပါတယ်။

"အကြင်ရဟန်းသည် ရာဂဘေးရန်ကိုလည်း လွန်မြောက်ပြီ၊ ကိလေသာ ခရီးခဲကိုလည်း လွန်မြောက်ပြီ၊ သံသရာဝဋ်ကိုလည်း လွန်မြောက်ပြီ၊ သစ္စာလေးပါး မသိအောင် ဖုံးကွယ်ထားတဲ့ မောဟကိုလည်း လွန်မြောက်ပြီ၊ ဩဃလေးခန်း ခရီးကြမ်းကို လွန်မြောက်ပြီးလို့ သံသရာတစ်ဖက်ကမ်းကိုလည်း ရောက်ပြီ၊ အာရမ္မဏူပနိဇ္ဈာန်၊ လက္ခဏူပနိဇ္ဈာန်ဆိုတဲ့ ဈာန် နှစ်မျိုးကိုလည်း ဝင်စားနိုင်ပြီ၊ တဏှာလည်း ကင်းပြီ၊ ယုံမှားသံသယလည်း မရှိတော့ပြီ၊ ဥပါဒါန်အစွဲအလမ်း



မရှိတော့တဲ့အတွက် ကိလေသာ မရှိ ငြိမ်းအေးခြင်းမျိုးနဲ့ ငြိမ်းချမ်းပြီ။ ထိုကဲ့သို့သော ရဟန်းမျိုးကို 'ရဟန္တာ' လို့ ငါ ဘုရား ဟောတော်မူတယ်" (ဓမ္မ၊ ၄၊ ၂။ ၄၂၆။)

## အရှင်မြတ် သားအမိတို့ရဲ့ ခုနစ်နှစ်ကြာ အမိဝမ်းခေါင်း ကိန်းအောင်းရခြင်း ဒုက္ခ နဲ့ ခုနစ်ရက်ကြာ မွေးဒုက္ခ ကြုံတွေ့ရခြင်း အကြောင်း

မြတ်စွာဘုရားရှင် ကုဏ္ဍိယမြို့ကို အမှီပြုပြီး ကုဏ္ဍဓာနတောမှာ သီတင်းသုံး နေတော်မူတဲ့ အချိန်မှာ ရှင်သီဝလိမယ်တော် သုပ္ပဝါသာကို အကြောင်းပြုပြီး အရှင်မြတ်သားအမိတို့ရဲ့ ခုနစ်နှစ်ကြာ ကိုယ်ဝန်ဆောင်ရခြင်း၊ အမိဝမ်း ကိန်းရခြင်း၊ ခုနစ်ရက်ကြာ မွေးဒုက္ခ ကြုံရခြင်းအကြောင်းတွေကို ဥဒါန်းအဋ္ဌကထာ စာမျက်နှာ (၁၀၈) နဲ့ ဇာတကအဋ္ဌကထာ ပထမတွဲ စာမျက်နှာ (၄၃၁)တွေမှာ ဖော်ပြထားပါတယ်။ ဒီအကြောင်းတွေကို ဆက်လက်ဖော်ပြပါ့မယ်။

တစ်ခါတော့ ရဟန်းတော်တွေဟာ တရားပွဲမစခင် "ငါ့ရှင်တို့… ရှင်သီဝလိရဲ့ မယ်တော် သုပ္ပဝါသာမင်းသမီး ဆိုရင်လည်း သောတာပန်အရိယာပုဂ္ဂိုလ် ဖြစ်တယ်၊ ဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို မွန်မြတ်တဲ့ ခဲဖွယ်၊ ဘောဇဉ်တွေကို လှူဒါန်းပြုစု လုပ်ကျွေးတဲ့ အရာ အသာဆုံး ပဏီတ ဒါယိကာမ ဧတဒဂ်ရသူလည်း ဖြစ်တယ်။ နောက်ပြီး အရှင်သီဝလိဆိုတာလည်း ပါရမီဆုတောင်းနဲ့ လာခဲ့ပြီး ဒီဘဝဟာ နောက်ဆုံး ကျွတ်တမ်းဝင်မယ့် ဘဝလည်း ဖြစ်တယ်၊ ဒီလို ထူးခြားချက်တွေ ရှိနေတဲ့ ပုဂ္ဂိုလ်တွေမှာ ဘာကြောင့် ခုနစ်နှစ်ကြာ ကိုယ်ဝန်ဆောင်ဒုက္ခ၊ အမိဝမ်း ကိန်းရတဲ့ ဒုက္ခ၊ ခုနစ်ရက်ကြာ မွေးဒုက္ခတွေ ကြုံရတာလဲ၊ သူတို့ ကြုံရတဲ့ ဒုက္ခတွေက အတော်ကို အံ့ဩစရာ ကောင်းတာပဲ" လို့ အချင်းချင်း စကားစပ်မိစပ်ရာ

ပြောနေခဲ့ကြတယ်။ ဒီအချိန်မှာ ဘုရားရှင် ကြွတော်မူလာပြီး ရဟန်းတွေ ပြောနေကြတဲ့ စကားအကြောင်းအရာကို မေးမြန်းပြီး အတိတ်အကြောင်းကို ခုလို ဆောင်ပြတော်မူခဲ့ပါတယ်။

ရှင်သီဝလိမထေရ်နဲ့ သူ့ရဲ့ မယ်တော်တို့ဟာ တစ်ခုသော အတိတ်ဘဝ သာသနာပကာလအခါ ဗာရာဏသီမင်းရဲ့ မိဖုရားကြီးနဲ့ သားတော်ဖြစ်ခဲ့ကြတယ်။ တစ်ချိန်မှာ ကောသလမင်းက စစ်တပ်အလုံးအရင်းနဲ့ ဗာရာဏသီမင်းကို တိုက်ခိုက် လုပ်ကြံသတ်ဖြတ်ပြီး မိဖုရားကြီးကို သိမ်းပိုက်ကာ မိဖုရားရာထူးမှာပဲ ဆက်လက်ထားပြီး မင်းလုပ်ခဲ့တယ်။ ဗာရာဏသီမင်းသားကတော့ သူ့ခမည်းတော် လုပ်ကြံခံရတဲ့အခါ ရေထုတ်ပြွန်ကနေတစ်ဆင့် တိတ်တဆိတ် ထွက်ပြေးခဲ့ပြီး ဗိုလ်ပါအလုံးအရင်း စုရုံးကာ ဗာရာဏသီပြည် ပြန်လာခဲ့တယ်။ ရန်သူမင်းကို ထီးနန်း ပြန်အပ်မလား၊ ဒါမှမဟုတ် စစ်တိုက်မလား ရာဇသံပေး အရေးဆိုခဲ့တယ်။ ဒီအခါ မြို့နန်းတွင်းမှာ ရှိနေတဲ့ မယ်တော်မိဖုရားကြီးက စစ်ဖြစ်ခဲ့ရင် လူတွေ ဒုက္ခရောက်မည့်အရေး တွေးပြီး သားဖြစ်တဲ့ မင်းသားဆီကို “နန်းမြို့ကို ပိတ်ဆို့ဝန်းရံထားတာလောက်ပဲ လုပ်ပါ၊ အဲဒီလို ပိတ်ဆို့ထားရင် နန်းမြို့ထဲကလူတွေ အစာရေစာပြတ် ဒုက္ခရောက်တာနဲ့ စစ်တိုက်စရာ မလိုဘဲ ဘုရင်ကို သူတို့ကိုယ်တိုင် ဖမ်းပေးပါလိမ့်မယ်” လို့ လူယုံနဲ့ စာပို့ အကြောင်းကြားခဲ့တယ်။

သားတော်လည်း မယ်တော်အကြံပေးတဲ့အတိုင်း မြို့တံခါးမကြီး လေးပေါက်ကို အထွက် အဝင် မရှိရအောင် ပိတ်ဆို့ စောင့်ရှောက်ပြီး ခုနစ်နှစ်ကြာ မြို့ကို ဝန်းရံ ပိတ်ဆိုထားခဲ့တယ်။ ဒါပေမယ့်လည်း မြို့သူမြို့သားတွေဟာ တံခါးငယ်လေးတွေကနေ ထင်းတွေ၊ ရေတွေ၊ စားနပ်ရိက္ခာ စတာတွေ သွင်းနေကြတဲ့အတွက် အကြောင်းမထူးဘဲ ဖြစ်နေခဲ့ပါတယ်။ ဒီအကြောင်းကို မယ်တော်မိဖုရားကြီး သိတဲ့အခါ



“သြော်… ငါ့ရဲ့ သားမိုက် နည်းလမ်းဥပါယ်ကိုတောင် မသိပါလား၊ သွားပြောချေကြ၊ မြို့တံခါးငယ်တွေပါ ပိတ်ဆို့ပြီး ဝန်းရံထားလိုက်ပါ” လို့ သားတော်မင်းသားထံ လျှို့ဝှက်သတင်းစကား ပို့လိုက်ပါတယ်။

မင်းသားဟာ မယ်တော်အကြံပြုတဲ့အတိုင်း တံခါးငယ်များကိုပါ ပိတ်ဆို့ ဝန်းရံထားလိုက်ပါတယ်။ ခုနစ်ရက် ကြာတဲ့အခါ မြို့သူ မြို့သားတွေဟာ အခက်အခဲ အကျပ်အတည်း မျိုးစုံ ကြုံလာတဲ့အတွက် ကောသလမင်းရဲ့ ဦးခေါင်းကို ဖြတ်ပြီး မင်းသားထံ ဆက်သလိုက်ကြတယ်။ ဒီအခါမှ မင်းသားဟာ နန်းမြို့တွင်း ဝင်ပြီး မင်းအဖြစ် ခံယူ သိမ်းပိုက်လိုက်တယ်။

ရှင်သီဝလိဟာ မင်းသားဖြစ်စဉ်က ခုနစ်နှစ်ကြာ မြို့ကို ပိတ်ဆို့ဝန်းရံခဲ့တဲ့ အကုသိုလ်ကံကြောင့် ယခုဘဝမှာ ခုနစ်နှစ်ကြာ လောဟကုမ္ဘီငရဲမှာ နေရသလိုမျိုး အမိဝမ်း ကိန်းခဲ့ရတဲ့ ဒုက္ခ ခံစားခဲ့ရပြီး၊ နောက်ထပ် မြို့တံခါးငယ်လေးတွေ ပိတ်ကာ ခုနစ်ရက်ကြာ ပိတ်ဆို့ ဝန်းရံခဲ့တဲ့ အကုသိုလ်ကံကြောင့် ခုနစ်ရက်ကြာ မွေးချိန်မိန်းမောတွေဝေရခြင်း ဆင်းရဲဒုက္ခ ခံစားရတာ ဖြစ်ပါတယ်။

သူ့ရဲ့ မယ်တော် သုပ္ပဝါသာမင်းသမီးကလည်း “မြို့ကို ပိတ်ဆို့ထားပါ”လို့ အကြံပြုခဲ့တဲ့ အကုသိုလ်ကံကြောင့် ခုနစ်နှစ်ကြာ ကိုယ်ဝန်ဆောင်ခဲ့ရပြီး ခုနစ်ရက်ကြာ ကိုယ်ဝန်ကြောင့် မိန်းမောတွေဝေ ဆင်းရဲဒုက္ခ အကြီးအကျယ် ခံစားခဲ့ရတာ ဖြစ်ပါတယ်။

ရှင်သီဝလိနဲ့ မယ်တော်တို့ဟာ သူတို့လုပ်ခဲ့တဲ့ ကံနဲ့ ညီမျှတဲ့ ယခုလို ဆင်းရဲမျိုးတွေ ခံစားခဲ့ကြရတာ ဖြစ်ပါတယ်။

ထေရာပဒါန်ပါဠိတော်နဲ့ အပဒါန် အဋ္ဌကထာ ဒုတိယအုပ် မှတ်တမ်းမှာတော့ မိဖုရားကြီးနဲ့ မင်းသားတို့ ပိတ်ဆို့ထားတဲ့ မြို့ထဲမှာ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ သီတင်းသုံးတဲ့ ကျောင်းပါ ပါနေတယ်လို့ ဖော်ပြထားပါတယ်။ ဒါကြောင့် ရှင်သီဝလိနဲ့ မယ်တော်တို့ဟာ

အဲဒီမကောင်းမှုကံကြောင့် ငရဲမှာပါ နှစ်ပေါင်းများစွာ ငရဲဒုက္ခတွေ ခံခဲ့ရတယ်လို့ မှတ်တမ်းရေးထိုးထားတာ တွေ့ရပါတယ်။

မြတ်စွာဘုရားဟာ အတိတ်ဇာတ်ကို ခုလိုဆောင်ပြခဲ့ပြီးနောက် ဖော်ပြပါ ဂါထာစကားကို ဆက်လက်မိန့်ကြားခဲ့ပါတယ်။

'အကုသိုလ်တွေနဲ့ သတိမေ့လျော့နေတဲ့သူကို သာယာဖွယ် မဟုတ်တဲ့ အရာတွေကလည်း သာယာဖွယ်ရှိတဲ့ အနေမျိုးနဲ့၊ မချစ်အပ် မမြတ်နိုး အပ်တဲ့ အရာတွေကလည်း ချစ်ဖွယ်၊ မြတ်နိုးဖွယ်ရာ အနေမျိုးနဲ့၊ ဆင်းရဲဒုက္ခတွေကလည်း ချမ်းသာတဲ့ သုခအနေမျိုးနဲ့ လွှမ်းမိုးထင်လာ တတ်ပါတယ်။'

ဂါထာရဲ့ ဆိုလိုရင်း အဓိပ္ပာယ်ကတော့ ရှင်သီဝလိနဲ့ သူ့ရဲ့ မယ်တော်တို့ဟာ မိဖုရားနဲ့ မင်းသား ဖြစ်စဉ်အခါက တိုင်းပြည် ပြန်ရရေးဆိုတဲ့ စိတ်နဲ့ သတိတွေ မကပ်နိုင်တဲ့အတွက် ယခုလို သာယာဖွယ် မရှိ၊ ချစ်ဖွယ် မြတ်နိုးဖွယ်ရာလည်း မဟုတ်၊ ဆင်းရဲတဲ့ ဒုက္ခဆိုးကျိုးတွေကို ဖြစ်စေနိုင်တဲ့ မြို့တံခါး ပိတ်ဆို့ ဝန်းရံတာ၊ အစာရေစာ ဖြတ်တောက်တာ စတဲ့ အကုသိုလ်အလုပ်တွေကို သာယာ ဖွယ်၊ ချစ်မြတ်နိုးဖွယ်၊ ချမ်းသာမယ်ထင်ပြီး လုပ်ခဲ့တာ ဖြစ်တယ်-လို့ ဆိုလိုတာ ဖြစ်ပါတယ်။

ရှင်သီဝလိမထေရ်နဲ့ ပတ်သက်တဲ့ ဂါထာ ကျက်မှတ် ပူဇော် လိုသူတွေအတွက် ဥပ္ပါတသန္တိမှာလာတဲ့ ဂါထာပါဠိ နဲ့ မြန်မာပြန်ကို ဖော်ပြပါဦးမယ်။

**(ပါဠိ)** လာဘီန မုတ္တမော ထေရော၊ သီဝလိ ဣတိ ဝိဿုတော။ သောရတော ပစ္စယာဒိမှိ၊ သဒါ သောတ္ထိံ ကရောတု နော။

**(မြန်မာ)** အရှင် သီဝလိ ဟု ကျော်စော ထင်ရှားတော်မူသော မထေရ်သည် လာဘ်ရသူတို့တွင် အမြတ်ဆုံး ဖြစ်တော်



မူပါပေ၏၊ ပစ္စည်းလေးပါးကို ခံယူခြင်း၌ လွန်စွာ မက်မောခြင်းမှ ကြဉ်တော်မူ၏။ ထို အရှင်သီဝလိမထေရ် သည် အကျွန်ုပ်တို့အား အခါခပ်သိမ်း ကိုယ်စိတ်နှစ်ဖြာ ချမ်းသာခြင်းကို ပြုတော်မူပါ ဘုရား။

**လာဘ်လာဘ ပေါများတဲ့ အရာ အသာဆုံး ဧတဒဂ်ရခြင်း အကြောင်း**

ပဒုမုတ္တရဘုရားရှင်ရဲ့ ခြေတော်ရင်းမှာ ''လာဘ်လာဘ ပေါများစွာရတဲ့ ပုဂ္ဂိုလ်တွေထဲမှာ အသာဆုံး ဖြစ်ရပါလို၏''လို့ အလှူကြီး အကြီးအကျယ် ပေးလှူကာ ဆုတောင်းမှု ပြုခဲ့တဲ့ အတွက် ကြောင့်နဲ့ ဝိပဿီမြတ်စွာဘုရား လက်ထက်တော်က မြို့သူမြို့သား တွေနဲ့အတူ တစ်ထောင်တန် ပျားရည်နဲ့ နို့ဒိန်ရည် ရောစပ်ပြီး လှူဒါန်းကာ ဆုတောင်းခဲ့တဲ့အတွက်ကြောင့် ရှင်သီဝလိမထေရ်ဟာ လာဘ်လာဘ ပေါများသူတွေထဲမှာ အသာဆုံးပုဂ္ဂိုလ် ဖြစ်ရတာပါ။

---------------

ရှင်သီဝလိမထေရ်အကြောင်းကို ကြည့်ညိုပြီးတဲ့အခါ အကုသိုလ်တွေက ချိုမြိန်တဲ့ အကျိုး၊ ချစ်မြတ်နိုးစရာ အကျိုး၊ ချမ်းသာတဲ့အကျိုးကို မပေးတတ်ဘူးဆိုတာ တွေ့ရမှာ ဖြစ်ပါတယ်။ ကုသိုလ်တွေကတော့ သူ့ရဲ့ ဆန့်ကျင်ဘက် ချိုမြိန်တဲ့ ကောင်းကျိုးတွေ၊ ချစ်စရာ မြတ်နိုးစရာ ကောင်းတဲ့ အကျိုးတွေ၊ ချမ်းသာတဲ့ အကျိုးတွေကို ပေးတတ်တယ် ဆိုတာကိုလည်း သတိထားမိကြမှာပါ။

ဒါကြောင့် ရှင်သီဝလိနဲ့ မယ်တော်တို့ ကြုံတွေ့ခံစားခဲ့ရတဲ့ ဘဝဆင်းရဲမျိုးကို ဖြစ်စေနိုင်တဲ့ အကုသိုလ်မှုမျိုးတွေ မလုပ်မိအောင် ရှောင်ကြဉ်ကြရမှာ ဖြစ်ပါတယ်။

နောက်ပြီး ဘဝဒုက္ခ အဖုံဖုံနဲ့ ကြုံတွေ့ရတဲ့အခါ တတ်နိုင် သလောက် နည်းမျိုးစုံနဲ့ ကြိုးစား ဖြေရှင်းပြီးပြီ၊ ဘယ်လိုမှကို ဖြေရှင်းဖို့

နည်းလမ်း မရှိတော့တဲ့ အခြေအနေမျိုး ဖြစ်ခဲ့ရင် ရှင်သီဝလိရဲ့ မယ်တော် သုပ္ပဝါသာမင်းသမီးရဲ့အတွေး သုံးမျိုးက အတော်လေး အသုံးဝင်မှာပါ။ ဘုရား၊ တရား အာရုံဘက် စိတ်ရောက်သွားတဲ့ အတွက် ကုသိုလ်လည်းရ၊ ဖြစ်ဆဲ ဒုက္ခကို အာရုံမပြုမိတော့တဲ့အတွက် ဆင်းရဲလည်း သက်သာစေပါတယ်။

ဒါကြောင့် အဲဒီလို အကျဉ်းအကျပ် ဒုက္ခမျိုးကြုံလာပြီဆိုရင် သုပ္ပဝါသာ မင်းသမီးလို -

ဒီလို ဒုက္ခမျိုးတွေကို ပယ်ဖို့ တရားနည်းလမ်းတွေကို ဟောတော်မူတဲ့ တို့ဘုရားရှင်ဟာ တကယ့်ကို သိတော်မူ မြင်တော်မူတဲ့ သမ္မာသမ္ဗုဒ္ဓ သဗ္ဗညုဘုရားရှင် အစစ်အမှန် ဖြစ်တော်မူပါပေတယ်။ ထိုမြတ်စွာဘုရားကို ကြည်ညိုပါ၏၊ မြတ်နိုးပါ၏၊ ကိုးကွယ်ပါ၏၊ ဆည်းကပ်ပါ၏ ဘုရား။

ဒီလို ဒုက္ခမျိုးတွေကို ပယ်ဖို့ ကျင့်ကြံအားထုတ်တော်မူနေတဲ့ ရှင်သီဝလိမထေရ်လို သံဃာတော်တွေဟာ တကယ့်ကို ကောင်းမွန်စွာ ကျင့်နေကြတဲ့ သုပ္ပဋိပန္နဂုဏ်နဲ့ ပြည့်စုံတဲ့ သံဃာတော်တွေ ဖြစ်ပါပေ တယ်။ ထိုသံဃာတော်မြတ်ကို ကြည်ညိုပါ၏၊ မြတ်နိုးပါ၏၊ ကိုးကွယ် ပါ၏၊ ဆည်းကပ်ပါ၏ ဘုရား။

ဒီလို ဒုက္ခမျိုးတွေ မရှိတဲ့ နိဗ္ဗာန် ဆိုတဲ့ တရားမြတ်ဟာ တကယ့်ကို ချမ်းသာစစ် ချမ်းသာမှန် တရားမြတ် ဖြစ်ပါပေတယ်။ ထို တရားတော်မြတ်ကို ကြည်ညိုပါ၏၊ မြတ်နိုးပါ၏၊ ကိုးကွယ်ပါ၏၊ ဆည်းကပ်ပါ၏ ဘုရား။

လို့ နှလုံးသွင်း ကြည်ညိုကြရမှာ ဖြစ်ပါတယ်။

အခုလို ကျင့်သုံးနိုင်မယ်ဆိုရင်တော့ ကုသိုလ်တရားတွေ တိုးပွားပြီး ဘဝဒုက္ခ အဖုံဖုံကနေ အမှန်ပဲ လွတ်ကင်းကြပါလိမ့်မယ်။



**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ စာ ၁၉၀။

၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ စာ ၃၀၅။

၃။ ထေရာပဒါနပါဠိတော်၊ စာ ၁၄၇။

၄။ အပဒါနဋ္ဌကထာ၊ ဒုတိယတွဲ၊ စာ ၂၄၅။

၅။ ဥဒါန်းအဋ္ဌကထာ၊ စာ ၁၀၈။

၆။ ဓမ္မပဒအဋ္ဌကထာ၊ ပထမတွဲ၊ စာ ၃၉၉။

၇။ ဓမ္မပဒအဋ္ဌကထာ၊ ဒုတိယတွဲ၊ စာ ၄၂၆။

၈။ ဇာတကအဋ္ဌကထာ၊ ပထမတွဲ၊ ၄၃၁။


သဒ္ဓါတရား ကြီးမားသူတွေထဲမှာ အသာဆုံး
သဒ္ဓါဓိမုတ္တ တေဒဂ်ရ
အရှင်ဝက္ကလိမထေရ်

ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာလို့ ရတနာသုံးပါးရှိတဲ့ နေရာမှာ တရားရတနာက အဓိက အခန်းကဏ္ဍမှာ ရှိနေပါတယ်။ ဘာလို့လဲဆိုတော့ တရားမြင်မှ ဘုရားကို မြင်နိုင်၊ သံဃာကိုလည်း မြင်နိုင်မှာ ဖြစ်လို့ပါပဲ။

ဘုရားဟော ပိဋကတ်တော်တွေကို ဖတ်ရှုရတဲ့အခါ သာသနာတော်နဲ့ မရင်းနှီးသေးတဲ့ ရှင်ဘုရင်တွေ၊ ပညာရှိပုဏ္ဏားတွေ၊ သူဌေးသူကြွယ် စတဲ့ ပုဂ္ဂိုလ်တွေဟာ ဘုရားရှင်ကို တွေ့တွေ့ချင်း ဦးချ အရိုအသေ ပေးကြတာ မဟုတ်ပါဘူး။ ဘုရားနဲ့ တရားစကား ဆွေးနွေး၊ ဘုရားရဲ့ တရားတော်ကို နာယူပြီးလို့ တရားသိမြင်ပြီး သဘောကျတဲ့အခါမှ ဒါမှ တကယ့် ဘုရားအစစ်ပါလားဆိုပြီး ဘုရားကို လက်အုပ်ချီကာ ရတနာသုံးပါးကို ကိုးကွယ်ပါတယ်ဆိုတဲ့ အကြောင်း၊ သူတို့ကို ဒကာအရင်းအဖြစ် အသိအမှတ်ပြုပါဆိုတဲ့ အကြောင်း လျှောက်ထားကာ ဦးချကန်တော့ကြတာတွေချည်း တွေ့ရတာ များပါတယ်။ သဘောကတော့ တရားမြင်မှ တရားပိုင်ရှင် ဘုရားကိုလည်း ကြည်ညိုနိုင်၊ တရားထူး ရပြီးတဲ့ သံဃာတော်တွေ, တရားထူး ရအောင် ကျင့်နေတဲ့ သံဃာတော်တွေ အပေါ်လည်း ယုံကြည်သက်ဝင်သွားတဲ့သဘောပါ။

အခုခေတ် အနောက်တိုင်းသားတွေကို သာသနာပြုတော်မူသွားတဲ့ မဟာစည်ဆရာတော် စတဲ့ ဆရာတော်ကြီးတွေ၊ ဆရာကြီး ဂိုအင်ကာလို တရားပြဆရာကြီးတွေလည်း အနောက်တိုင်းသားတွေကို အရင်ဆုံး သရဏဂုံ စတင်ချပေးပြီး ဦးချခိုင်းတာ မဟုတ်ပါဘူး။ အရင်ဆုံး တရားအားထုတ်နည်း သင်ပေးပြီး တရားအားထုတ်စေတာပဲ ဖြစ်ပါတယ်။ တရားတွေ့သွားမှ အဲဒီ အနောက်တိုင်းသားတွေဟာ ဘုရားနဲ့ သံဃာကို တွေ့သွား၊ ကြည်ညိုသွားကြတာ ဖြစ်ပါတယ်။



ဒါကြောင့် ရတနာသုံးပါးဆိုတဲ့ သရဏဂုံ သုံးစုံကို ယုံယုံကြည်ကြည်နဲ့ နှစ်နှစ်ကာကာ ခိုင်မြဲဖို့ ဆိုရင် တရားရတနာက အဓိက ဖြစ်တယ်လို့ ဆိုရတာပါ။

တရားမြင်မှ ဘုရားကို မြင်မယ်၊ သံဃာကိုလည်း မြင်မယ်။ တရားသိမြင်ပြီး တရားအပေါ် သက်ဝင် ယုံကြည်မှ ဘုရားနဲ့ သံဃာကိုလည်း ယုံကြည် ကြည်ညိုနိုင်ပါမယ်။ တရားမသိ၊ တရားမမြင်သရွေ့တော့ ဘုရားကိုလည်း မကြည်ညိုနိုင်၊ သံဃာတွေကိုလည်း အချောင်သမား၊ လူပိုတွေလို့ မြင်နေဦးမှာပါပဲ။ တရားမမြင်ရင် ဘုရားနဲ့ တစ်ကျောင်းထဲ အတူနေပေမယ့်လည်း ဘုရားနဲ့ ဝေးနေမှာ ဖြစ်တယ်။ တရားသိမြင်သွားပြီဆိုရင်တော့ ဘုရားနဲ့ ဘယ်လောက်ပဲ ဝေးတဲ့နေရာ ရောက်နေစေကာမူ ဘုရားရဲ့ အနီးမှာ နေရတဲ့သူ ဖြစ်ပါတယ်။

ဒါကြောင့် ရတနာသုံးပါးကို နှစ်နှစ်ကာကာ သက်ဝင် ယုံကြည် ကြည်ညိုနိုင်ဖို့ဆိုရင် အရှင်ဝက္ကလိမထေရ်လို တရားမြင်အောင် အားထုတ်ကြရမှာ ဖြစ်ပါတယ်။ အခုလို 'တရားမမြင်သရွေ့ ဘုရားမမြင်ဘဲ၊ တရားမြင်မှ ဘုရားမြင်မယ်' ဆိုတဲ့ အဖိုးတန်တဲ့ မြင်ထောင့်ကို ဖော်ညွှန်းနေတဲ့ အရှင်ဝက္ကလိမထေရ်မြတ် အကြောင်းကို ကြည်ညိုကြရအောင်ပါ။

## အရှင်မြတ် အမည်နဲ့ အရှင်မြတ်ရတဲ့ ဧတဒဂ် အဓိပ္ပာယ်

အရှင်မြတ်ရဲ့ အမည်နာမက 'ဝက္ကလိ မထေရ်'ပါ။ 'ဝက္ကလိ' ဆိုတာ ခန္ဓာကိုယ်မှာ ရှိတတ်တဲ့ မှည့်မည်း၊ မှည့်ပြောက် စတဲ့ အပြစ်ဒေါသမျိုးတွေ မရှိဘဲ သန့်စင်ထားတဲ့ ရွှေအစိုင်အခဲလို ပြေပြစ် ချောမော လှပတင့်တယ်တဲ့ပုဂ္ဂိုလ်လို့ အဓိပ္ပာယ်ရပါတယ်။ အရှင်မြတ်

ရတဲ့ ဧတဒဂ်က သဒ္ဓါတရား အားကြီးသူတွေထဲမှာ အသာဆုံး သဒ္ဓါဓိမုတ္တ ဧတဒဂ် ဖြစ်ပါတယ်။

မှန်ပါတယ်၊ အခြားသော ရဟန်းတွေရဲ့ သဒ္ဓါတရားဆိုရင် ပင်ကိုအား လျော့ပါးနေတဲ့အတွက် တိုးပွားစေရတယ်။သဒ္ဓါတရားတွေ တိုးပွားလာအောင် တမင်ကို ဟောပြရ၊ ကျင့်ကြံပွားများစေရတယ်။ အရှင်ဝက္ကလိမထေရ်မှာတော့ ပင်ကိုကကို သဒ္ဓါအား အလွန်ကြီးမားနေတဲ့အတွက် သဒ္ဓါတရား လျော့သွားအောင် ပြောယူရတယ်။ နောက်ပိတ်ဆုံး ဥပါယ်တံမျဉ်နဲ့ သဒ္ဓါအား လျော့ပါးစေဖို့အတွက် ဘုရားရှင် ရှေ့တော်မှောက်ကပင် နှင်ထုတ်ခဲ့ရတယ်။ ဒါကြောင့် အရှင်မြတ်ဟာ သဒ္ဓါဓိမုတ္တ သဒ္ဓါတရား ထက်သန်တဲ့အရာ ဧတဒဂ် ရခဲ့တာ ဖြစ်ပါတယ်။

## (က) အတိတ်ကောင်းမှုနဲ့ ဆုတောင်း

အရှင်ဝက္ကလိမထေရ်မြတ်လည်း ရှေးမထေရ်မြတ်တွေနည်းတူ ရှေးလွန်လေပြီးတဲ့ ပဒုမုတ္တရဘုရားရှင် လက်ထက်တော်အခါက ကျောင်းတော်ကိုသွားပြီး တရားနာစဉ်မှာပဲ မြတ်စွာဘုရားရှင်က ရဟန်းတော်တစ်ပါးကို သဒ္ဓါဓိမုတ္တ-သဒ္ဓါအား ထက်သန်ကြီးမားတဲ့အရာ အသာဆုံးဧတဒဂ်အရာထား ချီးမြှောက်တာကို တွေ့မြင်ပြီး အားကျစိတ်တွေ ဖြစ်ခဲ့ပါတယ်။ ဒါနဲ့ ပဒုမုတ္တရမြတ်စွာဘုရား အမှူးပြုတဲ့ သံဃာတော်တွေကို ပင့်ဖိတ်ပြီး ခုနစ်ရက်တိုင်တိုင် မဟာဒါနအလှူကြီး ပေးလှူခဲ့ပါတယ်။ အလှူပွဲပြီးတဲ့အခါ မြတ်စွာဘုရားကို ရှိခိုးကန်တော့ လက်အုပ်ချီပြီး ""မြတ်စွာဘုရား၊ ဘုရားတပည့်တော်လည်း ယခု ပြုလုပ်ရတဲ့ အဓိကာရ ကောင်းမှုကုသိုလ်ကံကြောင့် အရှင်ဘုရားတို့ သဒ္ဓါဓိမုတ္တ သဒ္ဓါတရား ကြီးမားတဲ့ အရာ အသာဆုံး



ဧတဒဂ်အရာထား ချီးမြှောက်ခဲ့တဲ့ ရဟန်းလို အနာဂတ်ကာလ တစ်ဆူသော ဘုရားရှင်ရဲ့ သာသနာတော်မှာ သဒ္ဓါဓိမုတ္တ-သဒ္ဓါတရား ကြီးမားတဲ့အရာ အသာဆုံး ပုဂ္ဂိုလ် ဖြစ်ရပါလို၏"" လို့ ဆုတောင်းလိုက်ပါတယ်။ မြတ်စွာဘုရားရှင်လည်း သူ့ရဲ့ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူတဲ့အတွက် ဗျာဒိတ်စကား မိန့်ကြားပြီး ကျောင်းတော် ပြန်ကြွသွားတော်မူခဲ့ပါတယ်။

## (ခ) ယခုဘဝဇာတ်ကြောင်းနဲ့ ရဟန်းပြုတော်မူပုံ

အရှင်မြတ်အလောင်း အမျိုးကောင်းသားလည်း အသက်ထက်ဆုံး ကောင်းမှုကုသိုလ် ပြုလုပ်ပြီး လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ရင်းက အကျွန်ုပ်တို့ ဘုရားရှင်လက်ထက် ရောက်တဲ့အခါ သာဝတ္ထိပြည်က ပုဏ္ဏားမျိုးမှာ ဖြစ်လာခဲ့ပါတယ်။ ဒီ သူငယ်ကို 'ဝက္ကလိ'လို့ အမည်ပေးခဲ့ကြတယ်။ ဝက္ကလိသူငယ် အရွယ်ရောက်တဲ့အခါ ဝေဒကျမ်းဂန်တွေ သင်ယူတတ်မြောက်ခဲ့ပြီး မြတ်စွာဘုရားနဲ့ နောက်ပါသံဃာတော်တွေ သာဝတ္ထိမြို့ထဲ ကြွချီလာတာကို ဖူးမြင်လိုက်ရတဲ့အခါ မြတ်စွာဘုရားရှင်ရဲ့ ရုပ်ရည်ရူပကာယ အသရေတော်ကို ဖူးမြော်ကြည့်ရှုရင်းက ဖူးလို့ မဝနိုင်၊ အားမရနိုင်၊ မတင်းတိမ်နိုင် ဖြစ်ပြီး မြတ်စွာဘုရားနောက် တကောက်ကောက် လိုက်ပါခဲ့ပါတယ်။

မြတ်စွာဘုရားရှင် ကျောင်းတော် ပြန်ကြွသွားတော့လည်း ကျောင်းတော်အထိ လိုက်သွားပြီး မြတ်စွာဘုရားရဲ့ ရူပကာယ အသရေတော်ကို တစိမ့်စိမ့်ကြည့်ပြီး ရပ်နေခဲ့တယ်။ မြတ်စွာဘုရား ဓမ္မသဘင်မှာ တရားဟောတဲ့အခါလည်း ဘုရားရှင်ရဲ့ ရှေ့တည့်တည့် နေရာကနေပြီး တရား နာယူပါတယ်။ ဝက္ကလိအမျိုးကောင်းသားဟာ ဘုရားရှင်အပေါ် ကြည်ညိုသဒ္ဓါအားတွေ အားကြီးလာတဲ့ အတွက်

'လူ့ဘောင်မှာနေရင် ဘုရားရှင်ကို အမြဲတမ်း ဖူးခွင့်ရမှာ မဟုတ်ဘူး၊ ရဟန်းပြုမှသာ အမြဲတမ်း ဖူးခွင့်ရနိုင်လိမ့်မယ်' ဆိုတဲ့ အတွေးနဲ့ ရှင်ရဟန်းပြုပေးဖို့ လျှောက်ထား တောင်းပန်ကာ ဘုရားရှင်ထံမှာ ရဟန်းပြုလိုက်ပါတယ်။

ရဟန်းပြုပြီးတဲ့အချိန်ကစပြီး အရှင်ဝက္ကလိမထေရ်ဟာ ဆွမ်းစားတဲ့အချိန်၊ ကိုယ်လက် သန့်စင်တဲ့အချိန်ကလွဲပြီး ကျန်တဲ့ အချိန်တွေမှာ ဘုရားရှင်ကို မြင်တွေ့နိုင်လောက်တဲ့ နေရာကနေပြီး မြတ်စွာဘုရားကို အမြဲမပြတ် ဖူးမြော်နေတော့တာပါပဲ။ စာပေ သင်အံတာတွေ၊ ကမ္မဋ္ဌာန်းတရား နှလုံးသွင်းတာတွေ ဘာတစ်ခုမှကို မပြုပါဘူး။ မြတ်စွာဘုရားရှင်ကလည်း အရှင်ဝက္ကလိရဲ့ ဉာဏ် ရင့်ကျက်ချိန်ကို စောင့်ဆိုင်းရင်း အရှင်ဝက္ကလိ အခုလို ကာလတာရှည် ရပ်ရည် ရူပကာယ လှပတင့်တယ်တဲ့ အသရေတော်ကို ဖူးမြော်ပြီး နေနေတာကို ဘာတစ်ခွန်းမျှ မမိန့်ကြားခဲ့ပါဘူး။

**တရားမြင်မှ ဘုရားမြင်မည်**

အချိန်တန်တော့မှပဲ မြတ်စွာဘုရားရှင်က 'ခုချိန်မှာတော့ ဝက္ကလိရဲ့ ဉာဏ် တရားထူးသိမြင်ဖို့အတွက် ရင့်ကျက်လာပြီ၊ ဝက္ကလိကို အသိတရား ရစေဖို့ အချိန်အခါ ရောက်ပြီ' လို့ ဆင်ခြင်တော်မူကာ-

"အလံ ဝက္ကလိ၊ ကိံ တေ ဣမိနာ ပူတိကာယေန ဒိဋ္ဌေန။ ယော ခေါ ဝက္ကလိ ဓမ္မံ ပဿတိ၊ သော မံ ပဿတိ။ ယော မံ ပဿတိ၊ သော ဓမ္မံ ပဿတိ။ ဓမ္မံ ဟိ ဝက္ကလိ ပဿန္တော မံ ပဿတိ၊ မံ ပဿန္တော ဓမ္မံ ပဿတိ"

"ချစ်သား ဝက္ကလိ... ဒီ ခန္ဓာကိုယ် အပုပ်ကောင်ကြီးကို ကြည့်နေလို့ သင့်အတွက် ဘာအကျိုးရှိမလဲ၊ ဘာမှ အကျိုး မရှိဘူး၊



တကယ်တော့ တရားကို မြင်တဲ့သူမှပဲ ငါ့ကို မြင်မယ်၊ ငါ့ကို မြင်တဲ့ သူမှလည်း တရားမြင်တဲ့သူ ဖြစ်မယ်၊ ဘာလို့လဲ ဆိုတော့ တရားကို သိမြင်မှ ငါ့ကို မြင်တဲ့သူ ဖြစ်မှာ၊ ငါ့ကို မြင်တဲ့သူ ဆိုရင်လည်း တရား သိမြင်တဲ့သူ ဖြစ်ရမှာ ဖြစ်လို့ပဲ" လို့ မိန့်တော်မူခဲ့ပါတယ်။

မြတ်စွာဘုရားက အခုလို ဆုံးမစကား မိန့်ကြားခဲ့ပေမယ့်လည်း အရှင်ဝက္ကလိမထေရ်ဟာ မြတ်စွာဘုရားကို ဖူးမြင်နိုင်လောက်တဲ့ နေရာအရပ်ကနေ အခြားအရပ်ကို ဘယ်နည်းနဲ့မှ ထွက်မသွားနိုင်ပဲ ဖြစ်နေပါတယ်။ ဒါကြောင့် မြတ်စွာဘုရားရှင်ဟာ 'ဒီရဟန်းဟာ ထိတ်လန့်မှု-သံဝေဂ မရဘဲနဲ့တော့ သစ္စာလေးပါးတရား သိမှာ မဟုတ်ဘူး' လို့ ဆင်ခြင် သိမြင်တော်မူတဲ့အတွက် ဝါဆိုချိန် နီးတဲ့အခါ ရာဇဂြိုဟ်ပြည် ကြွပြီးနောက် ဝါဆိုတဲ့နေ့မှာ "ဝက္ကလိ၊ ငါဘုရား အနီးကနေ ထွက်သွားတော့"လို့ တိုက်ရိုက်ပဲ အရှင်ဝက္ကလိကို နှင်ထုတ်တော်မူလိုက်ပါတယ်။

ဘုရားရှင်တွေဆိုတာ သူတစ်ဖက်သားတို့က လိုက်နာထိုက်တဲ့ စကားရှိတဲ့ ပုဂ္ဂိုလ်တွေ ဖြစ်တယ်၊ ဘုရားရှင်တွေ မိန့်လိုက်ရင် ကျန်တဲ့ပုဂ္ဂိုလ်တွေက မလိုက်နာဘဲကို နေလို့ မရပါဘူး။ ဒါကြောင့် အရှင်ဝက္ကလိမထေရ်ဟာ မြတ်စွာဘုရားစကားနဲ့ ဆန့်ကျင်ဘက်ပြုပြီး ရှေ့မှောက်တော်မှာ မနေဝံ့တော့ဘဲ ဝါတွင်းသုံးလလုံးလုံး ဘုရားရှင် ရှေ့တော်မှောက် လာဖို့ဆိုတာလည်း မဖြစ်နိုင်တော့တာနဲ့ "ခုတော့ ငါ ဘာ တတ်နိုင်တော့မလဲ၊ မြတ်စွာဘုရားကလည်း ငါ့ကို နှင်ထုတ်လိုက်ပြီ၊ မြတ်စွာဘုရားနဲ့ မျက်နှာချင်းဆိုင်ခွင့် ငါ ဘယ်နည်းနဲ့မှ ရနိုင်မှာ မဟုတ်၊ ငါ့အတွက် အသက်ရှင်နေလို့ ဘာ ထူးတော့မလဲ'လို့ စိတ်ပျက်လက်ပျက် ဖြစ်ပြီး ဂိဇ္ဈကုဋ်တောင်ပေါ်က ချောက်ကမ်းပါးတွေ ပေါ်တဲ့အရပ်ဆီ တက်သွားခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ အရှင်ဝက္ကလိရဲ့ စိတ်တွေ ပင်ပန်းပြီး နွမ်းလျအားငယ်နေတာကို သိတော်မူပြီး 'ဒီ ဝက္ကလိရဟန်းဟာ ငါဘုရားထံက အားပေးနှစ်သိမ့်တာကိုမှ မရရင် ဒီဘဝ မဂ်ဖိုလ် ရနိုင်တဲ့ ရှေးကောင်းမှု အကြောင်းတရားကို ဖျက်ဆီးပစ်လိုက်နိုင် တယ်' လို့ ဆင်ခြင်တော်မူမိလိုက်တယ်။ ဆိုလိုတာက အရှင်ဝက္ကလိ ဟာ စိတ်ပျက်ပျက်နဲ့ တောင်ထိပ်ပေါ်ကနေ ခုန်ချပြီး ကိုယ့်ကိုယ်ကိုယ် သေကြောင်းကြံသွားရင် ဒီဘဝ မဂ်ဖိုလ်ရမယ့် အခွင့်အရေး ဆုံးရှုံးသွား နိုင်တာကို ပြောတာပါ။ ဒါကြောင့် မြတ်စွာဘုရားက ကိုယ်တော်မြတ် ကို ထင်ရှားပြဖို့အတွက် ဝက္ကလိမထေရ်ရှိရာ အရပ်ကို ရောင်ခြည်တော် လွှတ်လိုက်ပါတယ်။ အရှင်ဝက္ကလိမထေရ်ဟာ မြတ်စွာဘုရား လွှတ် လိုက်တဲ့ ရောင်ခြည်တော်ကို တွေ့လိုက်ရတဲ့အခါ မြတ်စွာဘုရားရှင်ကို မျက်ဝါးထင်ထင် ဖူးမြင်လိုက်ရပြီး စိတ်ပျက်အားငယ် နွမ်းလျတာတွေ ပျောက်သွားပါတော့တယ်။

မြတ်စွာဘုရားရှင်ဟာ ခြောက်သွေ့နေတဲ့ ဆည်မြောင်းတမံထဲ ကို ရေများစွာ ဆောင်ယူထည့်ပေးလိုက်တဲ့အလား ဝက္ကလိမထေရ်ရဲ့ သန္တာန်မှာ အားကြီးတဲ့ နှစ်သက်ခြင်း ပီတိ၊ ဝမ်းမြောက်ခြင်း သောမနဿ တရားနှစ်ပါး ဖြစ်ပွားစေဖို့အတွက် ဖော်ပြပါ ဂါထာကို ဟောကြားတော်မူခဲ့ပါတယ်။

ပါမောဇ္ဇဗဟုလော ဘိက္ခု၊ ပသန္နော ဗုဒ္ဓသာသနေ။
အဓိဂစ္ဆေ ပဒံ သန္တံ၊ သင်္ခါရူပသမံ သုခံ။

"ချစ်သား ဝက္ကလိ… မြတ်စွာဘုရားကို အာရုံပြုပြီး ဝမ်းမြောက်မှု ပါမောဇ္ဇဖြစ်နေတဲ့ ရဟန်းဟာ ဘုရားအဆုံးအမဖြစ်တဲ့ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးရပ်မှာ ကြည်ညိုသဒ္ဓါတွေ တိုးပွားပြီး ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေရဲ့ ချုပ်ငြိမ်းရာဖြစ်တဲ့ အေးငြိမ်းတဲ့



နိဗ္ဗာနဓာတ်ကို ဆိုက်ရောက် နိုင်ပါပေတယ်" ဆိုတဲ့ ဒီဂါထာကို ဟောကြားပြီး အားပေးစကား မိန့်ကြားတော်မူလိုက်ပါတယ်။

ဒီဂါထာရဲ့ ဆိုလိုရင်းကတော့ "ဘုရားအပေါ် ကြည်ညိုပြီး ဝမ်းမြောက်စိတ်ရှိနေတဲ့သူဟာ ဘုရားအဆုံးအမ ဖြစ်တဲ့ သီလ၊ သမာဓိ၊ ပညာ ကျင့်စဉ်တွေပေါ်မှာ ယုံကြည်လာမယ်၊ ဒီ ယုံကြည်မှုကို အခြေခံပြီး ဘုရားအဆုံးအမတိုင်း နှလုံးသွင်း ကျင့်ကြံ ကြိုးစား အားထုတ်လိုက်ရင် ထာဝရငြိမ်းအေးတဲ့ နိဗ္ဗာန်၊ သင်္ခါရတရားတွေ အပြီးတိုင် ချုပ်ငြိမ်းသွားတဲ့ နိဗ္ဗာန်၊ ချမ်းသာစစ် ချမ်းသာမှန်ဖြစ်တဲ့ နိဗ္ဗာန်ကို ဧကန်ပဲ ရနိုင်ပါတယ်" လို့ မိန့်တော်မူလိုတာ ဖြစ်ပါတယ်။

ဘုရားရဲ့ ရုပ်ရည် ရူပကာယအပေါ်မှာ ကြည်ညိုမှုတင် ရပ်မနေဘဲ ဘုရားဆုံးမတဲ့အတိုင်း တရားတော်ကို ကျင့်ပါ။ အဲဒီလို ကျင့်လိုက်ရင် နိဗ္ဗာန်ချမ်းသာကို ရမယ်လို့ ဘုရားရှင်က ဝက္ကလိမထေရ် ရှေ့ဆက်လျှောက်ရမယ့် လမ်းစဉ်ကို ညွှန်ပြလိုတာ ဖြစ်ပါတယ်။

ဒီဂါထာနဲ့ အားပေးစကား မိန့်ကြားရုံတင်မက မြတ်စွာဘုရား ရှင်ဟာ ဝက္ကလိမထေရ်ကို "လာခဲ့ပါ ချစ်သား ဝက္ကလိ" လို့ မိန့်တော် မူကာ ရွှေလက်တော်ကို ဆန့်တန်းပြီး ခေါ်တော်မူလိုက်ပါတယ်။ ဒီအခါ ဝက္ကလိမထေရ်ဟာ 'သြော်… ငါဟာ မြတ်စွာဘုရားရှင်ကို လည်း ဖူးတွေ့ရပေပြီ၊ ချစ်သား လာခဲ့လော့ လို့လည်း အခေါ်တော်ခံရ လေပြီ' လို့ တွေးပြီး အလွန်အားကြီးတဲ့ ဝမ်းသာပီတိတွေ ဖြစ်ခဲ့ပါ တယ်။ ဘယ်အရပ်ကနေ သွားရမလဲဆိုတဲ့ ကိုယ်သွားရမယ့် လမ်းကို ပင် မမြင်နိုင်တော့ဘဲ မျက်နှာချင်းဆိုင် ရှေ့တည့်တည့်မှာ ရှိနေတဲ့ ဘုရားရှင်ရှိရာ အဇ္ဈောပြင် မိုးကောင်းကင်ထဲကိုပဲ ပျံတက်သွားပြီး ပထမခြေ တစ်ဖက်က တောင်ထိပ်ပေါ်မှာ တည်ရှိနေခိုက်မှာပဲ မြတ်စွာ ဘုရား ဟောကြားတော်မူလိုက်တဲ့ ဂါထာကို ဆင်ခြင်လိုက်တယ်။

ဒီဂါထာကို ဆင်ခြင်ရင်းနဲ့ပဲ နှစ်သက်ဝမ်းသာ ဖြစ်နေတဲ့ ပီတိကို ခွာလိုက်ပြီး ဒီ ပီတိကို အရှုခံထားကာ ဝိပဿနာတရား ရှုပွားလိုက်တဲ့အတွက် ပဋိသမ္ဘိဒါဉာဏ်နဲ့တကွ အရဟတ္တဖိုလ် ဆိုက်ရောက်ကာ ရဟန္တာ ဖြစ်တော်မူခဲ့ပါတယ်။ အခုလို ခြေတစ်ဖက်က တောင်ထိပ်မှာ, ကျန်ခြေ တစ်ဖက်က ကောင်းကင်မှာ တည်ရှိနေတဲ့ အနေအထားနဲ့ ရဟန္တာဖြစ်ပြီးနောက် မြတ်စွာဘုရားကို ရှိခိုးနေတဲ့ အနေအထားနဲ့ မြေပြင်သို့ သက်ဆင်းကာ မြတ်စွာဘုရားရှိရာ ကြွသွားတော်မူခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ နောက်ပိုင်းကာလ တစ်ချိန်မှာပဲ အရိယာသံဃာတော်တွေရဲ့ အလယ်မှာ အရှင်ဝက္ကလိမထေရ်ကို သဒ္ဓါဓိမုတ္တ - မြတ်စွာဘုရားအပေါ် ကြည်ညိုတဲ့ သဒ္ဓါတရား ထက်သန် အားကြီးတဲ့အရာ အသာဆုံး အမြတ်ဆုံး ဧတဒဂ်အရာထား ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်အပိုင်း

အရှင်ဝက္ကလိမထေရ် ကိုယ်တိုင် ပြန်ဟောထားတဲ့ အပဒါန်ပါဠိတော်မှာ မြတ်စွာဘုရားက သူ့ကို တရားရှုပုံအပိုင်း ဟောထားပုံနဲ့ မြတ်စွာဘုရား ဟောတဲ့အတိုင်း ရှုမှတ်လိုက်တဲ့အတွက် သူ ရဟန္တာ ဖြစ်ခဲ့ရတယ်ဆိုတဲ့ အကြောင်းကို မှတ်တမ်းတင်ထားတာ တွေ့ရပါတယ်။ တရား ဗဟုသုတ တိုးပွားစေဖို့အတွက် ဖော်ပြပါဦးမယ်။

"ချစ်သား ဝက္ကလိ… ဒီရုပ်ခန္ဓာကြီးဆိုတာ ဆင်းရဲဒုက္ခတွေ အဆုံးမရှိ များလှပါပေတယ်၊ အဆိပ်ရှိတဲ့ သစ်ပင်ကြီးလိုပါပဲ၊ ဇဖြာ အနာရောဂါ ဝေဒနာ အမျိုးမျိုးတို့ရဲ့ ဖြစ်ပွားရာ ခန္ဓာကိုယ်ကြီး ဖြစ်ပါတယ်၊ ဒါကြောင့် ဒုက္ခတုံး ဒုက္ခခဲကြီးပါပဲ။



ဒါကြောင့် ဒီ ရုပ်ခန္ဓာကြီးကို ငြီးငွေ့ပါလော့၊ ခန္ဓာ ငါးပါးတို့ရဲ့ အဖြစ်နဲ့ အပျက်ကို ဝိပဿနာဉာဏ်နဲ့ မြင်အောင် ကြည့်ပါလော့၊ ဒီလို ရှုမှတ် ပွားများလိုက်မယ်ဆိုရင် ကိလေသာတွေ ကုန်ဆုံးတဲ့ နိဗ္ဗာန်ကို အလွယ်တကူ ချမ်းသာစွာပဲ ဆိုက်ရောက်ပါလိမ့်မယ်"

လို့ မြတ်စွာဘုရားရှင်က ငါ့ကို ဟောတော်မူခဲ့တယ်။

"ငါသည် မြတ်စွာဘုရား နည်းညွှန်လမ်းပြ ဟောတော်မူတဲ့အတိုင်း ခန္ဓာငါးပါးတို့ရဲ့ အဖြစ်နဲ့ အပျက်ကို မြင်အောင် ရှုနိုင်တဲ့အတွက် အရဟတ္တဖိုလ်ဆိုတဲ့ တရားထူးကို ရခဲ့ပေပြီ"

လို့ သူ ရဟန္တာဖြစ်ခဲ့ပုံကို ဟောပြတော်မူခဲ့ပါတယ်။

---

အရှင်ဝက္ကလိမထေရ် အကြောင်းကို ကြည်ညိုရတဲ့အခါ -

အရှင်ဝက္ကလိဟာ သူကိုယ်တိုင်က ချောမောလှပသူ ဖြစ်နေလေတော့ အတုမရှိ တင့်တယ်သပ္ပာယ်တော်မူတဲ့ မြတ်စွာဘုရားကို ဖူးတွေ့ရတဲ့အခါ ဘုရားရှင်ရဲ့ တင့်တယ် သပ္ပာယ်တော်မူလှတဲ့ ရုပ်ရည် ရူပကာယအဆင်းကို မဖူးတွေ့ရရင် မနေနိုင်လောက်တဲ့အထိ အကြည်ညိုလွန်ခဲ့တာ တွေ့ရမှာ ဖြစ်ပါတယ်။ သဒ္ဓါအား လွန်လွန်ကဲကဲ ဖြစ်ပေါ်ခဲ့တာပါ။

ဒါကို မြတ်စွာဘုရားက "ဘုရားအပေါ် ကြည်ညိုမှု သဒ္ဓါအားကြောင့် ဝမ်းသာနေတဲ့သူဟာ ဝမ်းသာမှုလောက်နဲ့တင် ကျေနပ်မနေရဘူး၊ ကိုယ်ကြည်ညိုတဲ့ ဘုရားရဲ့ အဆုံးအမ တရားကိုလည်း ကြည်ညိုရမယ်၊ လက်တွေ့ လိုက်နာကျင့်သုံးရမယ်၊ ဒါမှ တကယ့်ချမ်းသာစစ် ချမ်းသာမှန်ဖြစ်တဲ့ နိဗ္ဗာန်ကို ရနိုင်မယ်"လို့ လမ်းမှန်ကို ညွှန်ပြပေးခဲ့တယ်။ လွန်ကဲနေတဲ့ သဒ္ဓါကို ပညာနဲ့ ညီအောင် ညှိပေးလိုက်တာပါ။

အရှင်ဝက္ကလိဟာ ဘုရားရှင် တည့်ပေးလိုက်တဲ့ လမ်းမှန်အတိုင်း ဘုရားအဆုံးအမဖြစ်တဲ့ တရားကို လက်တွေ့ နှလုံးသွင်းကျင့်သုံးလိုက်တာ ရဟန္တာဖြစ်ပြီး ထာဝရငြိမ်းအေးတဲ့ သန္တိသုခနိဗ္ဗာနဓာတ်ကို မျက်မှောက်ပြုသွားနိုင်ခဲ့တယ်။

ဒါကြောင့် သဒ္ဓါအား လွန်နေရင် ပညာနဲ့ ပြန်ထိန်းပြီး၊ ပညာအား လွန်ကဲပြီး သဒ္ဓါ နည်းနေရင်လည်း သဒ္ဓါအားကို မြှင့်တင်ပေးရမှာ ဖြစ်ပါတယ်။ သဒ္ဓါ-ကြည်ညို ယုံကြည်မှု နဲ့ ပညာ - အသိဉာဏ်၊ ဒီနှစ်ခုကို ညီမျှအောင် ထားနိုင်မှ တရားထူး ရနိုင်မယ်၊ ကိုယ်လိုရာ ပန်းတိုင်ကို ရောက်နိုင်မယ်ဆိုတာကို သတိပြုကြရမှာ ဖြစ်ပါတယ်။

နောက်ပြီး တရားတော်အပေါ်မှာ သံသယ ဝိစိကိစ္ဆာတွေ များနေရင်တော့ တရားကို လက်တွေ့ ကျင့်သုံး လိုက်နာဖြစ်မှာလည်း မဟုတ်ပါဘူး။ တရားမကျင့်နိုင်သရွေ့လည်း ဘုရားကို မယုံကြည်၊ မကြည်ညိုနိုင်၊ သံဃာကိုလည်း မလေးစားနိုင် ဖြစ်နေမှာပါပဲ။ တရားအသိ မရှိရင် ဘုရားကို ဆင်းတုတွေ၊ စေတီတွေက ကွယ်နေဦးမှာ ဖြစ်ပြီး၊ သံဃာကိုလည်း ဘုန်းကြီးက ကွယ်နေဦးမှာ ဖြစ်ပါတယ်။ တရားသိမြင်မှသာ ဘုရား နဲ့ သံဃာရဲ့ တန်ဖိုးကိုလည်း သိမြင်လာမှာ ဖြစ်ပါတယ်။

အဖိုးတန် လူ့ဘဝ ရခိုက်လေးမှာ ဘုရားသာသနာနဲ့ ကြုံကြိုက်တဲ့ အခွင့်ကောင်း အခါကောင်းကို တန်ဖိုးရှိစေချင်ရင်တော့ ဘုရားအဆုံးအမ ဖြစ်တဲ့ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးရပ် အကျင့်မြတ်ကို သံသယမရှိ လက်တွေ့ ကျင့်သုံးကြရမှာ ဖြစ်ပြီး တရားမြင်လာပြီ ဆိုရင်တော့ “ ဓမ္မံ ပဿန္တော မံ ပဿတိ” ဆိုတဲ့ ဘုရားစကားအတိုင်း အရှင်ဝက္ကလိမထေရ်လို ဘုရားရှင်ကို တွေ့မြင်နိုင်မှာ ဖြစ်ပါတယ်။

တရားတွေ့ပြီး ဘုရားကို တွေ့နိုင်ကြပါစေ။



**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ် အဋ္ဌကထာ၊ ပထမတွဲ၊ စာ ၁၉၄။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ စာ ၃၂၀။
၃။ အပဒါန် ပါဠိ၊ ဒုတိယတွဲ၊ ၁၁၅။
၄။ အပဒါန် အဋ္ဌကထာ၊ ဒုတိယတွဲ၊ ၂၁၄။
၅။ ဓမ္မပဒအဋ္ဌကထာ၊ ဒုတိယတွဲ၊ ၃၈၀။



သိက္ခာသုံးပါး လိုလားသည့်အရာ အသာဆုံး

သိက္ခာကာမ တေဒဂ်ရ

**အရှင်ရာဟုလာမထေရ်** နှင့်

သဒ္ဓါတရားနဲ့ ရဟန်းပြုလူတွေထဲမှာ အသာဆုံး

သဒ္ဓါပဗ္ဗဇိတ တေဒဂ်ရ

**အရှင်ရဋ္ဌပါလမထေရ်**

လောကမှာ အရှိန်အဝါရှိတဲ့ မိဘတွေရဲ့ သားသမီးတွေဟာ မိဘအရှိန်အဝါနဲ့ ဘယ်သူ့စကားမှ နားမထောင်ဘဲ ဆိုးသွမ်းရမ်းကားတတ်ကြပါတယ်။ ဒါဟာ ဘယ်ခေတ် ဘယ်အခါဖြစ်ဖြစ် ရှိတတ်တဲ့ သဘာဝပါ။

ဒါပေမယ့် တစ်လောကလုံးထက် အမြတ်ဆုံး ဖြစ်တော်မူတဲ့ မြတ်စွာဘုရားနဲ့ သားတော် ရာဟုလာတို့မှာတော့ လောက သူလိုငါလို ဖြစ်ရိုးဖြစ်စဉ်အတိုင်း မဟုတ်ဘဲ လောကသားတွေ အတုယူ စံပြုပြီး လက်တွေ့လိုက်နာ ကျင့်သုံးသင့်တဲ့ ဘဝနေနည်းကို ညွှန်ပြသွားတော်မူခဲ့ကြတယ်။ မြတ်စွာဘုရားကလည်း သားတော် ရာဟုလာကို အလိုမလိုက်ခဲ့သလို၊ သားတော် ရာဟုလာကလည်း မြတ်စွာဘုရားနဲ့

ဆရာမထေရ်မြတ်တွေရဲ့ ဆုံးမစကားအတိုင်း တစ်သဝေမတိမ်း လိုက်နာ ကျင့်သုံးသွားတော်မူခဲ့ပါတယ်။ ဒါကြောင့်လည်း လောက သားတွေအားလုံး ဦးခိုက်ပူဇော်ရတဲ့ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တွေ ဖြစ်တော်မူခဲ့ကြပါတယ်။

ဒါကြောင့် လောကရဲ့ နယ်ပယ်အသီးသီးမှာ အရှိန်အဝါ ရနေကြတဲ့ မိဘတွေနဲ့ သားသမီးတွေဟာ သားစဉ် မြေးဆက် အရှိန်အဝါမပျက် ဆက်လက် အထွတ်အထိပ် ရောက်လိုကြတယ် ဆိုရင်တော့ မြတ်စွာဘုရားနဲ့ သားတော် ရာဟုလာတို့ရဲ့ ကျင့်ထုံး အတိုင်း ကျင့်သုံးသင့်ပါတယ်။

နောက်ပြီး မိဘတွေအနေနဲ့ သားသမီးတွေကို တကယ် ချစ်မြတ်နိုးကြတယ်ဆိုရင် ပစ္စည်းအမွေ ပေးရမှာ မဟုတ်ဘဲ၊ အသိပညာ ဓမ္မအမွေကိုပဲ ပေးရမယ် ဆိုတာကိုလည်း ရှင်ရာဟုလာ ဝတ္ထုက သတိပေး ညွှန်ပြနေပါတယ်။ ဒါ့တင်မက တရားအမွေ ပေးတဲ့နေရာမှာလည်း မိဘတွေ၊ ဆရာသမားတွေက ထမ်းခေါ်သွားပြီး ပေးလို့လည်းမရ၊ ရာထူးအာဏာ ပိုင်ဆိုင်မှုဓနတွေနဲ့လည်း လုပ်ပေးလို့ မရဘဲ မှန်ကန်တဲ့ လမ်းကြောင်းပေါ်ရောက်အောင် ညွှန်ပြပေးလို့သာ ရတယ်၊ အမှန်တကယ်တော့ သားသမီးတွေ၊ တပည့်တွေ ကိုယ်တိုင်ပဲ ကြိုးစားပြီး ကျင့်ကြံအားထုတ်မှ ရနိုင်မယ်ဆိုတဲ့ ဘဝအသိကိုလည်း လမ်းပြထားပါတယ်။

ဒါအပြင် ဘဝမှာ ကိုယ်ကိုယ်တိုင်က အသိဉာဏ်နည်းပါး နေရင် တခြားသူတွေ ပြောဟောသမျှ အကုန်အမှန်ချည်းထင်ပြီး စိတ်တောင့်တမိလို့ ဒုက္ခရောက်ရတတ်ပုံကိုလည်း ရှင်ရာဟုလာရဲ့ ပါရမီ ဖြည့်စဉ်ကာလ အတွေ့အကြုံအရ မြင်တွေ့ရပါလိမ့်မယ်။ ဒါကြောင့် ဆုတောင်းနေရာမကျလို့ ဒုက္ခရောက်ရတဲ့ အဖြစ်မျိုးက လွတ်စေဖို့လည်း သတိထားကြရမှာပါ။



ဒီလို အဖိုးတန် ဘဝလမ်းညွှန် ဘဝနေနည်းတွေကို ဖော်ညွှန်း ပြနေတဲ့ အရှင်ရာဟုလာမထေရ်မြတ်အကြောင်းကို ကြည်ညိုကြ ပါမယ်။

နောက်ပြီး အရှင်ရာဟုလာနဲ့ စိတ်တူကိုယ်တူ ပါရမီဖြည့်ခဲ့တဲ့ အရှင်ရဋ္ဌပါလ မထေရ် အကြောင်းကိုလည်း တစ်ပါတည်း ကြည်ညို ကြပါမယ်။ အရှင်ရဋ္ဌပါလ မထေရ်အကြောင်း ကြည်ညိုရတဲ့အခါ မှာတော့ ရှင်ရဟန်းပြုတယ်ဆိုတာ စားဝတ်နေရေး၊ ကျန်းမာရေး မပြည့်စုံလို့ ဒီဘေးဒုက္ခတွေက လွတ်အောင် ရှင်ရဟန်းပြုလာတဲ့ ဘယာပဗ္ဗဇိတ ရှင်ရဟန်းမျိုးနဲ့ အမှန်တကယ့်ကို သာသနာတော်ရဲ့ အကျင့်မြတ်တွေကို ယုံကြည်ပြီး ကျင့်သုံးချင်လို့ ရဟန်းပြုလာတဲ့ သဒ္ဓါပဗ္ဗဇိတရှင်ရဟန်းမျိုးဆိုပြီး နှစ်မျိုးနှစ်စား ရှိတာကို တွေ့ရမှာ ဖြစ်ပါတယ်။

ဒါ့တင်မက ရှင်ရဟန်းဝတ်ပြီး တရားကျင့်တယ်ဆိုတာ ဘယ်လို အကျိုးရှိသလဲလို့ သိချင်နေသူတွေအတွက် အဖိုးတန် ဓမ္မုဒ္ဒေသ - ဓမ္မလမ်းညွှန် စကား လေးခွန်းကိုလည်း မှတ်သား ကြည်ညိုရမှာ ဖြစ်ပါတယ်။

## အရှင်ရာဟုလာ ရတဲ့ ဧတဒဂ်အဓိပ္ပာယ်

အရှင်ရာဟုလာ ဆိုတာ မြတ်စွာဘုရားရဲ့ သားတော် ဖြစ်ပါ တယ်။ အရှင်မြတ်ဟာ ရှင်သာမဏေ ဖြစ်တဲ့နေ့က စပြီး နေ့စဉ်နေ့တိုင်း မနက်စောစော အိပ်ရာက ထပြီးတာနဲ့ လက်ခုပ်နဲ့အပြည့် သဲမှုန့်တွေကို ဆုပ်ယူလိုက်ပြီး “ ငါဟာ ဒီနေ့ မြတ်စွာဘုရားဆီကရော ဆရာ ဥပဇ္ဈာယ် အရှင်မြတ်တွေဆီကပါ ဟောဒီ လက်ခုပ်ထဲမှာရှိတဲ့ သဲနဲ့အမျှ အဆုံးအမ ဩဝါဒစကားတွေ ရခဲ့မယ်ဆိုရင် သိပ်ကောင်းမှာပဲ ” လို့ တောင့်တမျှော်လင့်တဲ့ အရှင်မြတ် ဖြစ်ပါတယ်။ ကျင့်စရာ- သိက္ခာကို လိုလားတောင့်တသူတွေထဲမှာ သူ့လောက် စိတ်ထက်သန်သူ

ဘယ်သူမှ မရှိပါဘူး။ ဒါကြောင့် သိက္ခာကို လိုလား တောင့်တသူတွေထဲမှာ အသာဆုံး သိက္ခာကာမ ဧတဒဂ် ရခဲ့တာ ဖြစ်ပါတယ်။

## အရှင်ရဋ္ဌပါလ ရတဲ့ ဧတဒဂ် အမိဟ္မာယ်

အရှင်ရဋ္ဌပါလမထေရ်ဟာ မြတ်စွာဘုရား တရားတော်ကို နာယူလိုက်ရလို့ သဒ္ဓါတရား ဖြစ်ပေါ်လာပြီး ရှင်ရဟန်းပြုလိုတဲ့အတွက် မိဘတွေဆီမှာ ရှင်ရဟန်းပြုခွင့် တောင်းတဲ့အခါ အလွယ်တကူ မရခဲ့ပါဘူး။ ထမင်း အနပ် ၁၄ နပ်၊ ( ခုနစ်ရက်) အစာငတ်ခံ ဆန္ဒပြပြီး 'ရဟန်းမပြုရရင် အသေခံတော့မယ်လို့' တောင်းဆိုမှ ရဟန်းပြုခွင့် ရခဲ့တာ ဖြစ်ပါတယ်။ ရှင်ရဟန်းပြုခွင့်ကို အခြားသူတွေလို အလွယ်တကူ ရခဲ့တာ မဟုတ်ဘဲ ကိုယ်စိတ်ပင်ပန်းဆင်းရဲခံပြီးမှ ခဲခဲယဉ်းယဉ်း ရခဲ့တာ ဖြစ်ပါတယ်။ ဒါကြောင့် သဒ္ဓါတရားကြီးမားစွာနဲ့ ရဟန်းပြုကြသူတွေထဲမှာ အရှင်မြတ်ဟာ အသာဆုံး သဒ္ဓါပဗ္ဗဇိတ ဧတဒဂ် ရခဲ့တာ ဖြစ်ပါတယ်။

မထေရ်မြတ်နှစ်ပါးရဲ့ ဆုတောင်း ပါရမီဖြည့်ပုံတွေဟာ ဆက်စပ်တူညီနေတဲ့အတွက် အရှင်မြတ် နှစ်ပါး အကြောင်းအရာကို အင်္ဂုတ္တိုရ်အဋ္ဌကထာမှာ တစ်ပေါင်းတည်း ဖော်ပြထားပါတယ်။

## (က) မထေရ်မြတ်နှစ်ပါးရဲ့အတိတ်ဘဝ ပါရမီဖြည့် ဆုတောင်းကြပုံ

ဒီမထေရ်မြတ်တွေ ဖြစ်လာမယ့် အလောင်းတော် သူတော်ကောင်းတွေဟာ အတိတ်ကာလ ပဒုမုတ္တရ ဘုရားရှင် လက်ထက်တော်မှာ ဟံသာဝတီမင်းနေပြည်က ပစ္စည်းဥစ္စာ ချမ်းသာကြွယ်ဝတဲ့ သူကြွယ်မျိုးမှာ ဖြစ်ခဲ့ကြတယ်။ သူကြွယ်သား နှစ်ဦးလုံး အရွယ်ရောက်တဲ့အခါ အိမ်ထောင်ရက်သား ကျခဲ့ကြပြီး မိဘတွေ ကွယ်လွန်သွားတဲ့ အချိန်မှာ ပစ္စည်းဥစ္စာ ဘဏ္ဍာတွေကို ထိန်းသိမ်းစောင့်ရှောက်တဲ့ ဘဏ္ဍာစိုးတွေကို ခေါ်မေးကြတယ်။ ဒီအခါ မိဘတွေ ထားခဲ့တဲ့



ပစ္စည်းဥစ္စာတွေဟာ မရေတွက်နိုင်အောင် အများအပြား ရှိခဲ့တယ်ဆိုတာ သိလိုက်ရပြီးနောက် 'ဒီလောက် များလွန်းလှတဲ့ ပစ္စည်းဥစ္စာတွေကို ငါတို့ရဲ့ အဖိုးတွေ၊ အဖွားတွေ၊ အဖေတွေ၊ အမေတွေဟာ သူတို့နဲ့အတူ တစ်ပါတည်း ယူမသွားနိုင်ခဲ့ကြဘူး၊ ခုချိန်မှာတော့ တစ်နည်းနည်းနဲ့ ဒီ ဥစ္စာတွေကို တမလွန်လောကအထိ ငါတို့ ယူသွားမှ သင့်တော်မယ်' လို့ တွေးတော ကြံစည်မိခဲ့ကြပါတယ်။

ဒါနဲ့ သူကြွယ်သား နှစ်ဦးလုံးဟာ မြို့တံခါး၀ လေးဌာနမှာ အထီးကျန် ဆင်းရဲသားတွေ၊ ခရီးသွား ဧည့်သည် စတဲ့ သူတွေအတွက် အလွန်ကြီးကျယ်တဲ့ အလှူဒါနကို စတင်လှူဒါန်းဖို့ အားထုတ်ခဲ့ကြတယ်။ သူတို့ နှစ်ဦးထဲက တစ်ဦးကတော့ သူ့အလှူမဏ္ဍပ်ကို ရောက်လာတဲ့ အလှူခံပုဂ္ဂိုလ်တွေကို ဘာအလိုရှိပါသလဲ လို့ လိုအပ်ရာကို မေးပြီးမှ လှူဒါန်းလေ့ ရှိပါတယ်။ ဒါကြောင့် သူ့ရဲ့ နာမည်က 'အာဂတပါက – ရောက်လာသူတိုင်းကို မေးပြီးမှ လှူတတ်သူ' လို့ အမည်တွင်ခဲ့တယ်။

အခြား သူကြွယ်တစ်ဦးကတော့ အလှူခံပုဂ္ဂိုလ်တွေကို ဘာမှ မမေးဘဲ သူတို့ ယူဆောင်လာတဲ့ ခွက်တွေထဲ အပြည့်ထည့်ပြီး လှူဒါန်းပါတယ်။ ဒါကြောင့် သူ့ကျတော့ 'အနဂ္ဂပါက – အတိုင်းအရှည် ပမာဏမရှိ လှူတတ်သူ' လို့ အမည်တွင်ခဲ့တယ်။

## ရသေ့ နှစ်ပါး ပင့်ပြီး ဆွမ်းဆက်ကပ်လှူဒါန်းကြပုံ

အရှင်မြတ်နှစ်ပါးအလောင်း သူကြွယ်နှစ်ဦးတို့ဟာ တစ်နေ့မှာတော့ မနက်စောစော ကိစ္စတစ်ခုနဲ့ မြို့အပြင် ထွက်လာခဲ့ကြတယ်။ အဲဒီအချိန်မှာပဲ ဟိမဝန္တာတောင်မှာ နေတဲ့ တန်ခိုးကြီး ရသေ့ နှစ်ပါးဟာ ဆွမ်းခံဖို့အတွက် ကောင်းကင်ခရီး ဈာန်ယာဉ်စီးပြီး ကြွလာခဲ့ကာ သူကြွယ်နှစ်ဦးနဲ့ မနီးမဝေး အရပ်မှာပဲ 'သူကြွယ်နှစ်ဦး သူတို့ကို မမြင်ပါစေနဲ့' ဆိုတဲ့ အတွေးနဲ့ မြေပြင်ကို သက်ဆင်းခဲ့ကြတယ်။

အဲဒီနောက် ရသေ့ပရိက္ခရာတွေကို ပြင်ဆင်ကာ မြို့ထဲ ဆွမ်းခံ ဝင်ခဲ့ကြတယ်။ အဲဒီအခါမှ သူကြွယ်နှစ်ဦးတို့ဟာ ရသေ့တွေကို မြင်တွေ့လိုက်ရပြီး ကြည်ညိုသဒ္ဓါဖြစ်ကာ ရသေ့တွေကို ရှိခိုးဦးချ ကန်တော့ပြီး သူတို့အိမ်တွေကို ဆွမ်းစားကြွဖို့ ပင့်ကြတယ်။ ရသေ့နှစ်ပါးလည်း လက်ခံပြီး သူကြွယ်နှစ်ဦးတို့ရဲ့ အိမ်တွေဆီ လိုက်ကြွသွားတယ်။ အိမ်ရောက်တဲ့အခါ သူကြွယ်နှစ်ဦးတို့ဟာ အသီးသီး ဆွမ်းဆက်ကပ်လှူဒါန်းကြပြီး နေ့စဉ်အမြဲ ဆွမ်းစားကြွဖို့အတွက်ပါ ရသေ့တွေကို ပင့်လျှောက်ခဲ့ကြတယ်။

ရသေ့နှစ်ပါးထဲက တစ်ပါးဟာ အပူအားကြီးတဲ့ ခန္ဓာကိုယ်ရှိပါတယ်။ ဒါကြောင့် အဲဒီရသေ့ဟာ သူ့ရဲ့ တန်ခိုးအာနုဘော်နဲ့ မဟာသမုဒ္ဒရာရေပြင်ကို နှစ်ခြမ်းခွဲပြီး ပထဝိန္ဒရ နဂါးမင်းရဲ့ ဗိမာန်ကို ကြွရောက်ကာ နေ့လယ်နေ့ခင်း အေးဆေးသက်သာ နေလေ့ရှိပါတယ်။ ဥတုသပ္ပာယ မျှစေဖို့အတွက် နေတဲ့သဘောပါ။ ဒီရသေ့ဟာ ရှင်ရာဟုလာလောင်း သူကြွယ်ဆီ ဆွမ်းစားကြွတဲ့အခါ နဂါးမင်းရဲ့ ဗိမာန်ကနေ ကြွလေ့ရှိပြီး၊ ဆွမ်းဘုဉ်းပေးပြီးတဲ့အခါ "ပထဝိန္ဒရ နဂါးမင်းရဲ့ ဘုံဗိမာန်လို ဖြစ်ပါစေ" လို့ အနုမောဒနာပြု ဆုပေးလေ့ ရှိပါတယ်။ တစ်နေ့မှာတော့ ရှင်ရာဟုလာလောင်း သူကြွယ်က ရသေ့ကို "အရှင်ဘုရားတို့ အနုမောဒနာ ပြုတဲ့အခါ ပထဝိန္ဒရ နဂါးမင်းရဲ့ ဘုံဗိမာန်လို ဖြစ်ပါစေလို့ မိန့်တဲ့ အဓိပ္ပာယ်က ဘယ်လိုပါလဲ၊ တပည့်တော် နားမလည်တဲ့အတွက် ရှင်းပြပါဘုရား" လို့ မေးလျှောက်ပါတယ်။ ဒီအခါ ရသေ့က ပထဝိန္ဒရ နဂါးမင်းနေတဲ့ ဘုံဗိမာန်ကြီးရဲ့ ကြီးကျယ်ခမ်းနားပုံတွေကို ရှင်းပြပြီး "ဒကာတို့ရဲ့ ပြည့်စုံကြွယ်ဝမှုဟာ ဒီနဂါးမင်းရဲ့ ပြည့်စုံကြွယ်ဝမှုလို ဖြစ်ပါစေ" လို့ ဆိုလိုတာ ဖြစ်တဲ့အကြောင်း ဖြေဆိုခဲ့ပါတယ်။ အဲဒီအချိန်ကစပြီး ရှင်ရာဟုလာလောင်း သူကြွယ်ဟာ ပထဝိန္ဒရ နဂါးမင်းရဲ့ ကြီးကျယ်ခမ်းနားတဲ့ ဘုံဗိမာန်ဆီ စိတ်အမြဲရောက်နေပါတော့တယ်။



အခြား ရသေ့တစ်ပါးကတော့ နေ့လယ်ပိုင်းမှာ တန်ခိုးနဲ့ တာဝတိံသာနတ်ပြည် ကြွပြီး နတ်သား မရှိသေးတဲ့ ဘုံဗိမာန်တစ်ခုမှာ သီတင်းသုံးလေ့ရှိပါတယ်။ ဒီရသေ့ဟာ အသွားအပြန်ပါ နေ့စဉ် သိကြားမင်းရဲ့ ဘုံဗိမာန်ကို မြင်တွေ့နေရတဲ့အတွက် အရှင်ရဋ္ဌပါလလောင်း သူကြွယ်အိမ် ဆွမ်းစားကြွ၊ ဆွမ်းဘုဉ်းပေးပြီးတဲ့အခါ "သိကြားမင်းရဲ့ ဘုံဗိမာန်လို ဖြစ်ပါစေ" လို့ ဆုတောင်းပေးလေ့ရှိပါတယ်။ အရှင်ရဋ္ဌပါလလောင်း သူကြွယ်လည်း အဓိပ္ပာယ်အကျယ် နားမလည်တဲ့အတွက် ရှင်းပြပေးဖို့ ရှင်ရသေ့ကို လျှောက်ထားခဲ့ပါတယ်။ ဒီအခါ ရှင်ရသေ့က သိကြားမင်းနေတဲ့ ဘုံဗိမာန်ရဲ့ ကြီးကျယ်ခမ်းနားပုံကို အကျယ်တဝင့် ရှင်းပြပြီး "သင့်ရဲ့ ပြည့်စုံမှုဟာ သိကြားမင်းရဲ့ ဗိမာန်ကြီးလို ဖြစ်ပါစေ" လို့ ဆုတောင်းပေးတာ ဖြစ်ကြောင်း ပြောပြလိုက်ပါတယ်။ အဲဒီနေ့ကစပြီး အရှင်ရဋ္ဌပါလလောင်း သူကြွယ်လည်း သိကြားမင်းရဲ့ ဘုံဗိမာန် အပေါ်မှာပဲ စိတ်က အမြဲ ညွတ်နေပါတော့တယ်။

ဒီသူကြွယ်နှစ်ယောက်လုံး အဲဒီဘဝကနေ ကွယ်လွန်ကြတဲ့အခါ သူတို့ စိတ်ညွတ်ပြီး တောင့်တတဲ့အတိုင်း ရှင်ရာဟုလာလောင်း သူကြွယ်က ပထဝိန္ဒရ နဂါးမင်း ဖြစ်ခဲ့ပြီး အရှင်ရဋ္ဌပါလလောင်း သူကြွယ်က သိကြားမင်း ဖြစ်ခဲ့ပါတယ်။ ဥပါဒါနပစ္စယာ ဘဝေါ ဆိုတဲ့ ပဋိစ္စသမုပ္ပာဒ်အရ ဥပါဒါန် အစွဲ အတိုင်း ဘဝ ဖြစ်ကြရတဲ့ သဘောပါ။

## ရှင်ရာဟုလာလောင်း နဂါးမင်းဘဝ ရလို့ စိတ်ပျက်နေပုံ

ရှင်ရာဟုလာလောင်းဟာ နဂါးပြည်ရောက်ပြီး ပထဝိန္ဒရ နဂါးမင်း ဖြစ်တဲ့အခါ သူ့ရဲ့ ခန္ဓာကိုယ် အတ္တဘောကို ကြည့်ပြီး 'သြော်… ငါ့အိမ် ဆွမ်းစားကြွတဲ့ ရသေ့ဟာ နှစ်သက်မြတ်နိုးစရာ မကောင်းတဲ့ ဘုံဌာနရဲ့ ဂုဏ်ကျေးဇူးတွေကို ဟောခဲ့ ပြောခဲ့တယ်၊

သူချီးကျူးပြောဆိုတဲ့ ဘုံဌာနဟာ ခုတော့ ရင်ဘတ်နဲ့ တွားသွားရတဲ့ ဘုံဌာနကြီးပါလား၊ ဒီရသေ့ဟာ ဒီဘုံက လွဲပြီး အခြား ဘုံဌာနတွေကို သိပုံ မပေါ်ဘူး'' လို့ တွေးပြီး အကြီးအကျယ် စိတ်မကောင်း ဖြစ်နေခဲ့တယ်။ ဆရာကောင်းမရလို့ ဆုတောင်း နေရာမကျတဲ့ သဘောပါ။ အဲဒီလို ဖြစ်နေချိန်မှာ လှပတဲ့ အဆင်တန်ဆာတွေ ဝတ်စားဆင်မြန်းထားတဲ့ နဂါးမ ကချေသည်တွေဟာ နတ်တူရိယာတွေ ကိုင်စွဲပြီး တီးမှုတ်ကခုန် ဖျော်ဖြေကြတယ်။ ဒီအခါမှာ နဂါးမင်းလည်း သူ့ရဲ့ နဂါးအသွင်ကို စွန့်လိုက်ပြီး လုလင် အသွင် ယူလိုက်ပါတော့တယ်။ တိရစ္ဆာန်ဖြစ်နေပေမယ့် ကုသိုလ်ကံအရှိန် ကောင်းတဲ့အတွက် နဂါးယောင်ဖျောက်ပြီး လူယောင် ဖန်ဆင်း ထားနိုင်တဲ့ အစွမ်းသတ္တိ ရှိနေပါတယ်။

တစ်လရဲ့ ထက်ဝက် လပြည့်၊ လကွယ်နေ့တိုင်း စတုမဟာရာဇ် နတ်မင်းကြီး လေးပါးတို့ဟာ သိကြားမင်းထံ ဆည်းကပ်ခစား သွားရတဲ့ ထုံးစံ ရှိပါတယ်။ ဒါကြောင့် ပထဝိန္ဓရ နဂါးမင်းလည်း နဂါးတို့ရဲ့ ခေါင်းဆောင် ဝိရူပက္ခနတ်မင်းနဲ့အတူ သိကြားမင်းဆီ ဆည်းကပ်ခစား သွားခဲ့ပါတယ်။ အဲဒီအချိန်မှာ အရှင်ရဋ္ဌပါလလောင်းက သိကြားမင်း ဖြစ်နေတဲ့အချိန်ပါ။ သိကြားမင်းက နဂါးမင်းကို အဝေးကနေ လာနေတာ မြင်လိုက်တာနဲ့ ကောင်းကောင်းမှတ်မိလိုက်တယ်။ ဒါနဲ့ သိကြားမင်းက ပထဝိန္ဓရ နဂါးမင်း အနားရောက်လာတဲ့အခါ ''သူငယ်ချင်း… မင်း ဘယ်ဘုံမှာ ဖြစ်နေတာလဲ'' လို့ မေးလိုက်ပါတယ်။ ဒီအခါ နဂါးမင်းက '' အို… သိကြားမင်း၊ မပြောပါနဲ့၊ အကျွန်ုပ်ဟာ ရင်ဘတ်နဲ့ တွားသွားရတဲ့ ဘုံမှာ ဖြစ်နေပါတယ်၊ အသင်ကတော့ တကယ့် ဆရာကောင်း မိတ်ကောင်းကို ရခဲ့ပါပေတယ် '' လို့ စိတ်ပျက်စွာနဲ့ ဖြေဆိုလိုက်ပါတယ်။

ဒီအခါမှာ သိကြားမင်းက ''သူငယ်ချင်း… ငါကတော့ မရောက်သင့်တဲ့ ဘုံဌာနမှာ ရောက်ရလေခြင်းလို့ တောင်တွေး



မြောက်တွေး တွေးမနေပါနဲ့၊ ခုချိန်ဟာ ပဒုမုတ္တရ မြတ်စွာဘုရား လောကမှာ ထင်ရှားပွင့်ထွန်းနေတဲ့ အခါကာလ ဖြစ်တယ်။ ဒါကြောင့် သင်ဟာ ပဒုမုတ္တရ မြတ်စွာဘုရားထံမှာ ကောင်းမှု ကုသိုလ်ပြုပြီး ဒီ တာဝတိံသာနတ်ပြည်ကို ရောက်အောင် ဆုတောင်းပါ၊ ငါတို့ နှစ်ယောက် နတ်ချမ်းသာကို အတူ ခံစားကြမယ်လေ'' လို့ အားပေးစကား ပြောကြားလိုက်ပါတယ်။ ပထဝိန္ဓရ နဂါးမင်းလည်း သိကြားမင်း အကြံပြု အားပေးတာကို လက်ခံပြီး ပဒုမုတ္တရ မြတ်စွာဘုရားထံ သွားကာ နဂါးပြည်ကို ဆွမ်းစားကြွရောက် ချီးမြှောက်ဖို့အကြောင်း ပင့်ဖိတ် လျှောက်ထားပါတယ်။ မြတ်စွာဘုရားရှင်ကလည်း ဆိတ်ဆိတ်နေခြင်းဖြင့် နဂါးမင်း ပင့်တာကို လက်ခံတော်မူခဲ့ပါတယ်။ မြတ်စွာဘုရားရှင် လက်ခံတော်မူကြောင်း သိပြီးတာနဲ့ ပထဝိန္ဓရ နဂါးမင်းဟာ နဂါးပြည် ပြန်ခဲ့ပြီး နဂါးပရိသတ်တွေနဲ့အတူ တစ်ညလုံး ဆွမ်းကပ်ဖို့ရန်အတွက် ပြင်ဆင်ပါတော့တယ်။

ပဒုမုတ္တရ မြတ်စွာဘုရားရှင်ဟာ နောက်တစ်နေ့ အရုဏ်တက်တဲ့အခါ အနီးကပ် အလုပ်အကျွေးဖြစ်တဲ့ သုမနမထေရ်ကို ''ချစ်သား သုမန… ဒီနေ့ အဝေးကို ဆွမ်းစားကြွရမယ်၊ ပုထုဇဉ် ရဟန်းတွေ မလိုက်ပါစေနဲ့၊ ပိဋကသုံးပုံဆောင် အဘိညာဉ်ခြောက်ပါးနဲ့ ပဋိသမ္ဘိဒါလေးပါးရပြီးဖြစ်တဲ့ ရဟန္တာ ပုဂ္ဂိုလ်တွေချည်း လိုက်ပါစေ'' လို့ မိန့်တော်မူပါတယ်။ သုမနမထေရ်လည်း မြတ်စွာဘုရား မိန့်တဲ့အတိုင်း သံဃာတော်များကို လျှောက်ထား အသိပေးလိုက်ပါတယ်။ ပဒုမုတ္တရမြတ်စွာဘုရားနဲ့အတူ ရဟန္တာ တစ်သိန်းဟာ ကောင်းကင်ကို ပျံတက်ကြွတော်မူခဲ့ကြတယ်။

ပထဝိန္ဓရ နဂါးမင်းလည်း နဂါးပရိသတ်နဲ့အတူ မြတ်စွာဘုရားကို ခရီးဦး ကြိုဆိုနေရင်းက မြတ်စွာဘုရားကို ဝန်းရံပြီး သမုဒ္ဒရာရေပြင်အထက် မြအဆင်းရောင်ရှိတဲ့ လှိုင်းတံပိုးတွေကို

ကြိတ်နင်း ကြွချီလာတဲ့ သံဃာတော်တွေကို ဖူးတွေ့လိုက်ရပြီး အားရဝမ်းသာ ဖြစ်ခဲ့ပါတယ်။ ရှေ့ဆုံးက မြတ်စွာဘုရားနဲ့ နောက်ဆုံးက လိုက်ပါလာတဲ့ မြတ်စွာဘုရားရဲ့ သားတော် ဥပရေဝတ သာမဏေကို ကြည့်ရှုဖူးတွေ့လိုက်ရတဲ့အခါ 'ကျန်တဲ့ သာဝက ရဟန်းတော်တွေရဲ့ တန်ခိုးအာနုဘော်က သိပ်အံ့သြစရာ မကောင်းဘူး၊ ဒီ ပျိုမျစ်နုနယ် ငယ်ရွယ်တဲ့ ရှင်သာမဏေငယ်လေးရဲ့ တန်ခိုး အာနုဘော်က ပိုပြီး အလွန့်ကို အံ့သြစရာ ကောင်းပါပေတယ်' လို့ စဉ်းစားဆင်ခြင်ကာ အလွန် ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ပါတယ်။

**ပထဝိန္ဒရနဂါးမင်း ဥပရေဝတသာမဏေကို အားကျပြီး ဆုတောင်းပုံ**

ဒီ့နောက်မှာတော့ ပထဝိန္ဒရနဂါးမင်းရဲ့ ဘုံဗိမာန်ထဲမှာ မြတ်စွာဘုရား ထိုင်တော်မူပြီးတဲ့အခါ သံဃာတော်များ အစဉ်အတိုင်း ဆက်လက်နေရာယူ ထိုင်တော်မူကြပါတယ်။ ဒီလို ထိုင်တဲ့အခါ အငယ်ဆုံး ဥပရေဝတ သာမဏေလေးက မြတ်စွာဘုရားရဲ့ ရှေ့တော်မှောက်နေရာမှာ ထိုင်ဖို့ နေရာကျပါတယ်။ ဒီအခါ ပထဝိန္ဒရနဂါးမင်းဟာ ယာဂု ကပ်လှူရင်ပဲဖြစ်ဖြစ်၊ ခဲဖွယ် ကပ်လှူရင်ပဲဖြစ်ဖြစ် ဘုရားကို တစ်လှည့်၊ ဥပရေဝတ သာမဏေကို တစ်လှည့် လှည့်ကာ လှည့်ကာ ကြည့်ရှုနေခဲ့ပါတယ်။ ဒီလို ကြည့်ရှု ဖူးမြော်ရတာကလည်း ဒီ သာမဏေလေးရဲ့ ခန္ဓာကိုယ်မှာ မြတ်စွာဘုရား ခန္ဓာကိုယ်မှာလိုပဲ မဟာပုရိသ လက္ခဏာတော်ကြီး ၃၂ ပါး ပါရှိနေလို့ပါပဲ။

ဒါကြောင့် နဂါးမင်းက 'ဒီသာမဏေဟာ ဘုရားရှင်နဲ့ ပုံပန်းသဏ္ဌာန် တော်တော်တူတယ်၊ ဘယ်လိုများ တော်စပ်ပါလိမ့်မလဲ' လို့ တွေးကြံမိပြီး အနားမှာရှိတဲ့ ရဟန်းတော်တစ်ပါးကို "အရှင်ဘုရား... ဒီ သာမဏေဟာ ဘုရားရှင်နဲ့ ဘယ်လို တော်စပ်ပါသလဲ ဘုရား" လို့ မေးမြန်းခဲ့ပါတယ်။ ဒီအခါ အမေးခံရတဲ့ ရဟန်းက "ဒကာတော် နဂါးမင်း... ဒီ သာမဏေဟာ မြတ်စွာဘုရားရဲ့ သားတော် ဖြစ်ပါတယ်" လို့ ဖြေလိုက်တယ်ဆိုရင်ပဲ နဂါးမင်းဟာ 'ဒီ သာမဏေငယ်ဟာ အလွန်ကြီးမြတ်ပါပေတယ်၊ ယခုလို ဘုန်းကံကျက်သရေ အထွဋ်အထိပ်သို့ ရောက်တော်မူတဲ့ ဘုရားရှင်ရဲ့ သားတော် အဖြစ်ကို ရရှိပါပေတယ်၊ ဒီ သာမဏေရဲ့ ခန္ဓာကိုယ်ဟာလည်း မြတ်စွာဘုရားရဲ့ ခန္ဓာကိုယ်နဲ့ အတော်လေးကို တူလှပါပေတယ်၊ ငါလည်း နောင်မှာ ဒီ သာမဏေလေးလို ဖြစ်ရင် ကောင်းမှာပဲ' လို့ တွေးကြံနေမိပါတယ်။

အဲဒီနောက်မှာတော့ နဂါးမင်းဟာ ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ခုနစ်ရက်တိုင်တိုင် ပင့်ဖိတ်ကာ မဟာဒါန အလှူကြီး ပေးလှူခဲ့ပြီး "မြတ်စွာဘုရား... တပည့်တော်ဟာ ယခု ပြုရတဲ့ အဓိကာရ ကောင်းမှုကုသိုလ်ရဲ့ အာနုဘော်ကြောင့် ဥပရေဝတ သာမဏေလို အနာဂတ် ဘုရားတစ်ဆူရဲ့ သားတော် ဖြစ်ရပါလို၏" လို့ ဆုပန် ဆုတောင်းခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားဟာ နဂါးမင်းရဲ့ ဆုတောင်းချက် အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူပြီး " သင်ဟာ အနာဂတ်ကာလမှာ ဂေါတမဘုရားရှင်ရဲ့ သားတော် ဖြစ်လိမ့်မယ်" လို့ ဗျာဒိတ်စကား မိန့်ကြားကာ ကျောင်းတော်ကို ပြန်ကြွသွားပါတယ်။

**အရှင်ရဋ္ဌပါလလောင်း သိကြားမင်း ကုသိုလ်ပြုပြီး ဆုပန်ပုံ**

ပထဝိန္ဒရ နဂါးမင်းလည်း နောက်ထပ် လဝက်ပြည့်တဲ့ကာလ ရောက်တဲ့အခါ ဝိရူပက္ခ နဂါးမင်းနဲ့ အတူ သိကြားမင်းထံ အခစား ရောက်ပြန်ပါတယ်။ ဒီအခါ သိကြားမင်းက နဂါးမင်းကို သူ အကြံပြုတဲ့အတိုင်း တာဝတိံသာ နတ်ပြည်ရောက်ဖို့ ဆုတောင်းပြီးပြီလားလို့ မေးပါတယ်။ နဂါးမင်းက သူ နတ်ပြည်ကို ဆုမတောင်း ဖြစ်ပါကြောင်း၊ မြတ်စွာဘုရားရဲ့ သားတော် ဥပရေဝတသာမဏေကို

ဖူးလိုက်ရကတည်းက ကျန်တဲ့ ဘာဆုကိုမှ မတောင်းချင်တော့ဘဲ မြတ်စွာဘုရားရဲ့ သားအဖြစ်ကိုပဲ ဆုတောင်းခဲ့ပါကြောင်း၊ ဒါကြောင့် သင် သိကြားမင်းလည်း မြတ်စွာဘုရားထံမှာ ဆုတစ်ဆု ပန်သင့်ကြောင်း သိကြားမင်းကို ရှင်းပြပြောဆို အကြံပြုလိုက်ပါတယ်။ သိကြားမင်းလည်း နဂါးမင်းရဲ့ အကြံပြုချက်ကို လက်ခံခဲ့ပါတယ်။ ဒီနောက်မှာတော့ သိကြားမင်းဟာ တန်ခိုးအာနုဘော် ကြီးမားတဲ့ ရဟန်းတစ်ပါးကို တွေ့မြင်လိုက်ပြီး ဆင်ခြင်ကြည့်လိုက်တဲ့အခါ 'သြော်… ဒီ အမျိုးကောင်းသားဟာ ကွဲပြားနေတဲ့ တိုင်းနိုင်ငံကို တစ်ဖန် ပြန်စေ့စပ်ပေးနိုင်တဲ့ မြင့်မြတ်တဲ့မျိုးနွယ်ကနေ ပေါက်ဖွားလာတဲ့ သားပဲ၊ ခုလို ရဟန်းပြုဖို့ရာ အစာ ၁၄ ထပ် - ခုနစ်ရက်အစာငတ်ခံပြီး မရ အရတောင်းဆိုမှ မိဘတွေဆီကနေ ရဟန်းပြုခွင့်ရခဲ့လို့ ရဟန်းပြုလာတဲ့ ပုဂ္ဂိုလ်မြတ် ဖြစ်ပါပေတယ်' လို့ သိလိုက်ပါတယ်။

ဒါနဲ့ သိကြားမင်းဟာ ဒီရဟန်းတော်ရဲ့ စိတ်ဓာတ်ကို အားကျပြီး မြတ်စွာဘုရားအမှူးပြုတဲ့ သံဃာတော်တွေကို ခုနစ်ရက်ကြာ အလှူဒါန အကြီးအကျယ် ပြုလုပ်လှူဒါန်းပြီး "မြတ်စွာဘုရား… တပည့်တော်ဟာ ဒီ ကောင်းမှုကုသိုလ်ရဲ့ အကျိုးဆက်ကြောင့် အရှင်ဘုရားတို့ရဲ့ သာသနာတော်မှာရှိတဲ့ ဒီ အမျိုးကောင်းသား ရဟန်းလို နောင် အနာဂတ် တစ်ဆူသော ဘုရားရှင်ရဲ့ သာသနာတော်မှာ သဒ္ဓါတရားနဲ့ ရဟန်းပြုတဲ့ - သဒ္ဓါပဗ္ဗဇိတ ရဟန်းတွေထဲမှာ အသာဆုံးပုဂ္ဂိုလ် ဖြစ်ရပါလို၏ ဘုရား" လို့ ဆုပန်ခဲ့ပါတယ်။ ပဒုမုတ္တရ ဘုရားရှင်လည်း သိကြားမင်းရဲ့ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူပြီး "သင်ဟာ အနာဂတ်ကာလ ဂေါတမ ဘုရားရှင်ရဲ့ သာသနာတော်မှာ သဒ္ဓါပဗ္ဗဇိတရဟန်းတွေထဲမှာ အသာဆုံးပုဂ္ဂိုလ် ဖြစ်လိမ့်မယ်" လို့ ဗျာဒိတ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။



**အရှင်ရဋ္ဌပါလလောင်း ဖုဿဘုရားရှင်လက်ထက် ပါရမီဖြည့်ပုံ**

အရှင်ရာဟုလာလောင်းနဲ့ အရှင်ရဋ္ဌပါလလောင်း သူငယ်ချင်းနှစ်ယောက်တို့ဟာ နဂါးမင်းဘဝ၊ သိကြားမင်းဘဝတွေကနေ စုတေကွယ်လွန်ပြီးတဲ့အခါ လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ရင်း ကမ္ဘာပေါင်းများစွာ ကုန်လွန်ခဲ့ကြတယ်။ ဒီကမ္ဘာကနေ နောက်ပြန်ရေလိုက်ရင် ၉၂ ကမ္ဘာထက်မှာတော့ ဖုဿမြတ်စွာဘုရား ပွင့်တော်မူခဲ့ပါတယ်။ ဖုဿမြတ်စွာဘုရားရဲ့ ဖခမည်းတော်က မဟိန္ဒမင်းကြီးဖြစ်ပြီး၊ ဒီ မင်းကြီးမှာလည်း ဖအေတူ၊ မအေကွဲ အခြား သား သုံးယောက် - မင်းသားညီနောင် သုံးဦး ရှိပါတယ်။ မဟိန္ဒမင်းကြီးဟာ သားတော် ဖုဿဘုရားနဲ့ သံဃာတော်များကို နေ့တိုင်း ကိုယ်တိုင်ကိုယ်ကျ ဆွမ်းဘောဇဉ်တွေကို လှူဒါန်းပါတယ်။ အခြားသူတွေကို လှူခွင့်မပေးပါဘူး။

တစ်နေ့မှာတော့ တိုင်းပြည်အစွန်အဖျားဒေသမှာ သူပုန်သူကန်ထကြွသောင်းကျန်းတဲ့ ဘေးရန် ဖြစ်ပေါ်လာပါတယ်။ ဒီအခါ မဟိန္ဒမင်းကြီးက သားတော် မင်းသားညီနောင် သုံးယောက်နဲ့ တိုင်ပင်ပါတယ်။ မင်းသားသုံးယောက်က သူတို့ပဲ ဒီ သူပုန်ဘေးကို ငြိမ်းအောင် ပြုပေးပါ့မယ်လို့ မင်းကြီးကို ကတိပေးပြီး သွားရောက်နှိမ်နင်းလိုက်တာ သူပုန်ဘေး ငြိမ်းသွားပါတယ်။ ဒီအခါ မင်းကြီးက သားသုံးယောက် လိုတဲ့ဆု တောင်းပါလို့ မိန့်တဲ့အတွက် သားသုံးယောက်က အခြားဆုတော့ မလိုချင်ပါ၊ နောင်တော် ဖုဿမြတ်စွာဘုရားနဲ့ သံဃာတော်တွေကို ဆွမ်းဆက်ကပ် လှူဒါန်းခွင့် ဆုသာလိုချင်ပါကြောင်း လျှောက်ထား ပြောဆိုပါတယ်။ မင်းကြီးက ဒီဆုကို မပေးချင်ပေမယ့် သားသုံးယောက်က အတင်း တောင်းဆိုနေတဲ့အတွက် သုံးလ ဆွမ်းဆက်ကပ်လှူဒါန်းခွင့် ပြုခဲ့ပါတယ်။

ဒီအခါ မင်းသားညီနောင် သုံးယောက်ဟာ ကိလေသာငြိမ်းတော်မူပြီးတဲ့ မြတ်စွာဘုရားကို လှူဒါန်းတဲ့အခါ ဘုရားရဲ့ ဂုဏ်နဲ့

လိုက်လျောညီထွေ ဖြစ်အောင် ကိလေသာ ကင်းစင်တဲ့စိတ်နဲ့ အလှူလုပ်ကြစို့လို့ တိုင်ပင်ကြပြီး ဆယ်ပါးသီလ ဆောက်တည်လိုက်ကြတယ်။ အလှူလုပ်တဲ့နေရာမှာလည်း အေးအေးချမ်းချမ်း ဖြစ်အောင် ညီနောင် သုံးယောက် တာဝန်အသီးသီး ခွဲလိုက်ပါတယ်။ တစ်ယောက်က လှူဒါန်းမယ့် ဥစ္စာစပါး ရရှိအောင် တာဝန်ယူရတယ်၊ ဒုတိယတစ်ယောက်က နေ့စဉ် ကုန်ကျမယ့် အလှူစရိတ်အတွက် ချင့်ချိန်ထုတ်ပေးရပြီး တတိယတစ်ယောက်ကတော့ လှူဒါန်းတဲ့ကိစ္စ ပြည့်စုံ ထမြောက်အောင် စီမံဆောင်ရွက်ရတယ်။

အကျွန်ုပ်တို့ ဂေါတမ မြတ်စွာဘုရားလက်ထက် ရောက်တဲ့အခါ ဒီ မင်းသားသုံးယောက်ထဲက လှူဖွယ် ဥစ္စာစပါး ရအောင် တာဝန်ယူရှာဖွေရတဲ့ မင်းသားက ဗိမ္ဗိသာရမင်းကြီး ဖြစ်လာခဲ့ပါတယ်။ နေ့စဉ် အလှူစရိတ်နဲ့ ဥစ္စာစပါး ချင့်ချိန်ထုတ်ပေးရတဲ့ မင်းသားက ဝိသာခ သူဌေး ဖြစ်လာပြီး အလှူကိစ္စ ထမြောက်အောင် ဆောင်ရွက်ရတဲ့ မင်းသားက အရှင်ရဋ္ဌပါလမထေရ် လာဖြစ်ပါတယ်။

## အရှင်ရာဟုလာလောင်း ကဿပမြတ်စွာဘုရားလက်ထက် ပါရမီဖြည့်ပုံ

အရှင်ရာဟုလာမထေရ်ဟာ ကဿပ မြတ်စွာဘုရားရှင် လက်ထက်မှာ ကာသိတိုင်းရဲ့အရှင် ကိကီမင်းကြီးရဲ့ သားတော်ကြီး ဖြစ်ခဲ့ပါတယ်။ သူ့ကို မိဘတွေက 'ပထဝိန္ဓရမင်းသား' လို့ နာမည်မှည့်ခေါ်ခဲ့ကြတယ်။ သူ့မှာ နမ ခုနစ်ယောက် ရှိပြီး ဒီ နမ ခုနစ်ယောက်က ကဿပ မြတ်စွာဘုရားရှင်အား ကမ္ဗဋ္ဌာန်းကျောင်းငယ် ခုနစ်ကျောင်း ဆောက်လုပ် လှူဒါန်းခဲ့ကြတယ်။ ပထဝိန္ဓရ မင်းသား အိမ်ရှေ့မင်း ရာထူး ရပြီးတဲ့အခါ နမတွေကို အားကျပြီး ကျောင်းပေါင်း ငါးရာ ဆောက်လုပ် လှူဒါန်းခဲ့ပါတယ်။ ပထဝိန္ဓရ မင်းသားဟာ ကဿပဘုရားရှင် လက်ထက်မှာ အသက်ထက်ဆုံး ကုသိုလ်ကောင်းမှု



တွေ ဆည်းပူးပြုလုပ်ခဲ့ပြီး အဲဒီဘဝကနေ ကွယ်လွန်သွားတဲ့အခါ နတ်ပြည်မှာ နတ်သားဖြစ်ခဲ့ပါတယ်။

## (ခ) အရှင်မြတ်နှစ်ပါးရဲ့ ပစ္စုပ္ပန်ဘဝဖြစ်ရပ် အတ္ထုပ္ပတ်

## (၁) ရှင်ရာဟုလာ နောက်ဆုံးဘဝ ရှင်ရဟန်းဖြစ်ပုံ နဲ့ ရဟန္တာဖြစ်ပုံ

အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရား သာသနာခေတ် ရောက်တဲ့အခါ ပထဝိန္ဓရ မင်းသားဟာ ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားရဲ့မိဖုရားကြီးဖြစ်တဲ့ ယသော်ဓရာရဲ့ ဝမ်းကြာတိုက်မှာ ပဋိသန္ဓေ တည်နေခဲ့ပြီး ရာဟုလာ မင်းသားအဖြစ် ဖွားမြင်ခဲ့ပါတယ်။ ရာဟုလာရဲ့ သူငယ်ချင်းကတော့ ကုရုတိုင်း ထုလ္လကောဋ္ဌိက အမည်ရှိတဲ့ နိဂုံးရွာကြီးက ရဋ္ဌပါလသူဌေးအိမ်မှာ ရဋ္ဌပါလ အမည်ရတဲ့ သူဌေးသား ဖြစ်လာခဲ့ပါတယ်။

မြတ်စွာဘုရား ဘုရားအဖြစ်သို့ ရောက်တော်မူပြီးနောက် တရားဦး ဓမ္မစကြာ ဟောတော်မူကာ အစဉ်အတိုင်း သာသနာပြု ခရီးစဉ် ကြွချီရင်းက မဟာသက္ကရာဇ် ၁၀၄ ခု၊ ကဆုန်လပြည့်နေ့မှာ မွေးရပ်ဇာတိ ကပိလဝတ် ရွှေနန်းတော်ကို ရောက်တော်မူခဲ့ပါတယ်။ ကပိလဝတ်ရောက်ပြီးလို့ ခုနစ်ရက်ပြည့်တဲ့နေ့မှာ ခုနစ်နှစ်အရွယ် ရှိနေတဲ့ သားတော် ရာဟုလာက မြတ်စွာ ဘုရားထံ "ဒါယဇ္ဇံ မေ သမဏ ဒေဟိ - ဖခမည်းတော် ရဟန်း… သားတော်ကို အမွေပေးပါ" လို့ တောင်းခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက 'ပစ္စည်းဥစ္စာ ဖြစ်တဲ့ လောကီအမွေဟာ ဝဋ်ဆင်းရဲနဲ့ ယှဉ်စပ်နေတယ်၊ ဆင်းရဲဒုက္ခတွေ ဝန်းရံနေတယ်။ ဒါကြောင့် ငါ ဗောဓိပင်အောက်မှာ ကျင့်လို့ ထိုးထွင်းသိမြင် ရခဲ့တဲ့ သူတော်ကောင်းဥစ္စာ အမွေကိုပဲ ပေးမယ်၊ ရာဟုလာကို လောကုတ္တရာ အမွေပိုင်ရှင် ဖြစ်အောင် ပြုပေးမယ်' လို့ စဉ်းစား ဆင်ခြင်တော်မူပြီး ကျောင်းတော်ကို ခေါ်သွားတော်မူကာ ရာဟုလာကို ရှင်သာမဏေပြုပေးဖို့ အရှင်သာရိပုတ္တရာကို တာဝန်ပေးလိုက်ပါတယ်။

ကျောင်းရောက်တဲ့အခါ အရှင်မဟာမောဂ္ဂလာန်မထေရ်က ဆံချပေးပြီး သရဏဂုံ တိုင်ပေးကာ ကိုရင် ဝတ်ပေးပါတယ်။ အရှင်မဟာကဿပမထေရ်က ဆုံးမဩဝါဒပေးတဲ့ ဩဝါဒါစရိယ အဖြစ်နဲ့ ချီးမြှောက်ခဲ့ပြီး အရှင်သာရိပုတ္တရာမထေရ်က ဥပဇ္ဈာယ်ဆရာအနေနဲ့ တာဝန်ယူ ချီးမြှောက်ခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ ကိုရင်လေး ရာဟုလာကို ကလေးအရွယ်နဲ့ တန်တဲ့ ဆုံးမဩဝါဒတွေကို မပြတ်ပေးတော်မူပါတယ်။ ရှင်ရာဟုလာကလည်း မနက်စော အိပ်ရာက ထပြီးတယ်ဆိုရင်ပဲ လက်ခုပ်နဲ့ သဲမှုန့်တွေကို ကျုံးလိုက်ပြီး "ငါဟာ ယနေ့အဖို့ရာ မြတ်စွာဘုရား အထံတော်ကပဲဖြစ်ဖြစ်၊ ဆရာ ဥပဇ္ဈာယ် အရှင်မြတ်တွေထံကပဲ ဖြစ်ဖြစ် ဒီ သဲမှုန့်နဲ့အမျှ ဆုံးမဩဝါဒကို ရလိုပါတယ်" လို့ ပြောဆိုလေ့ ရှိပါတယ်။ ဒါကြောင့်ပဲ ရှင်ရာဟုလာဟာ ဆုံးမရလွယ်ကူတဲ့ပုဂ္ဂိုလ်ပဲလို့ ရဟန်းတော်တွေကြားမှာ ဂုဏ်သတင်း မွှေးခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာ ခုနစ်နှစ်သား အရွယ်မှာ ရာဟုလောဝါဒသုတ်၊ အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ်တွေကို ဟောကြားတော်မူခဲ့ပြီး ၁၈-နှစ်သား အရွယ်မှာ မဟာရာဟုလောဝါဒသုတ်၊ ရာဟုလာသံယုတ်လာသုတ် (၂၂) သုတ်တို့နဲ့ ဟောကြားဆုံးမတော်မူခဲ့ပါတယ်။ အသက် ၂၀- ပြည့်လို့ ရဟန်းပြုပြီးစ အချိန်မှာ စူဠရာဟုလောဝါဒသုတ်ကို ဟောကြားပြီး ရဟန္တာအဖြစ် ရောက်စေတော်မူခဲ့ပါတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်ဟာ အရိယာ သံဃာတော်တွေရဲ့ အလယ်မှာ သီတင်းသုံးထိုင်တော်မူကာ ရဟန်းတော်များကို ဧတဒဂ်ဘွဲ့ထူး အပ်နှင်းတဲ့အခါ အရှင်ရာဟုလာကို "ရဟန်းတို့ … သိက္ခာသုံးပါး လိုလားကြတဲ့ ငါဘုရားရဲ့ တပည့်သာဝက ရဟန်းတွေထဲမှာ ရာဟုလာဟာ အသာဆုံး အမြတ်ဆုံးပုဂ္ဂိုလ်



ဖြစ်ပေတယ်" လို့ သိက္ခာကာမ-သိက္ခာသုံးပါး လိုလားတဲ့အရာ အသာဆုံး ဧတဒဂ်အရာ ထားပြီး ချီးမြှောက်တော်မူခဲ့ပါတယ်။

## (၂) အရှင်ရဋ္ဌပါလ နောက်ဆုံးဘဝ ရဟန်းဖြစ်ပုံနဲ့ ရဟန္တာဖြစ်ပုံ

အရှင်ရဋ္ဌပါလအလောင်းတော်ဟာ ဒီနောက်ဆုံးဘဝမှာ ကုရုတိုင်း ထုလ္လကောဋ္ဌိက နိဂုံးရွာက ရဋ္ဌပါလ သူဌေးအိမ်မှာ ရဋ္ဌပါလ သူဌေးသားအနေနဲ့ ဖြစ်လာခဲ့ပါတယ်။ မြတ်စွာဘုရားရှင် ကုရုတိုင်းကို ဒေသစာရီခရီး ကြွတော်မူတဲ့အခါ ထုလ္လကောဋ္ဌိက နိဂုံးရွာကို ရောက်ရှိလာပြီး တရားဟောတော်မူပါတယ်။ ရဋ္ဌပါလသူဌေးသား မြတ်စွာဘုရားတရားကို နာယူပြီးတဲ့အခါ သဒ္ဓါတရား ဖြစ်ပေါ်လာပြီး တရားပွဲပြီးလို့ လူရှင်းသွားတဲ့အခါ မြတ်စွာဘုရားထံ သွားပြီး ရှင်ရဟန်းပြုပေးဖို့လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားရှင်က မိဘတွေ ခွင့်မပြုတဲ့ သားကို ရှင်ပြုပေးလို့ မဖြစ်နိုင်တာမို့ မိဘတွေထံ သွားပြီး ခွင့်တောင်းဖို့ မိန့်တော်မူလိုက်ပါတယ်။ ရဋ္ဌပါလသူဌေးသားလည်း မိဘများထံမှာ ရှင်ရဟန်းပြုခွင့်ပေးဖို့ ခွင့်တောင်းပါတယ်။ မိဘများကလည်း တစ်ဦးတည်းသော သားဖြစ်တာမို့ ရဟန်းပြုခွင့် မပေးကြပါဘူး။ ပထမအကြိမ် ခွင့်တောင်းလို့ မရတာနဲ့ ဒုတိယအကြိမ်၊ တတိယအကြိမ် ဆက်ပြီး ခွင့်တောင်းတော့လည်း မိဘတွေက ရဟန်းပြုခွင့် မပေးနိုင်ကြောင်း ငြင်းဆိုခဲ့ကြတယ်။

အဲဒီလို ငြင်းဆိုတဲ့အခါ ရဋ္ဌပါလသူဌေးသားဟာ "ငါ့ကို မိဘတွေက ရဟန်းပြုဖို့ ခွင့်မပေးကြဘူး၊ ရဟန်းမပြုရရင် ငါ ဒီနေရာမှာပဲ သေချင်လည်း သေပါစေ၊ ရဟန်းဝတ်ရင်လည်း ဝတ်ရစေ" ဆိုပြီး မြေကြီးပေါ်မှာ လှဲချပြီး နေခဲ့တယ်။ တစ်ရက်လည်း အစာမစား၊ နှစ်ရက်လည်း မစား။ ဒီလိုနဲ့ ခုနစ်ရက်မြောက်တဲ့အထိ အစာရေစာ မစားမသောက်ဘဲ ရဟန်းပြုခွင့်ရရေးအတွက် အစာငတ်ခံ ဆန္ဒပြနေခဲ့တယ်။ တစ်နေ့ ပျမ်းမျှ ထမင်း နှစ်နပ်နှုန်းနဲ့ တွက်ရင်

ခုနစ်ရက်ဆိုတော့ ထမင်း ၁၄ နပ် မစားဘဲ ရဟန်းပြုခွင့်ရရေးအတွက် တိုက်ပွဲဝင်ခဲ့တယ် ဆိုရမှာပါ။

ဒီအခါ မိဘတွေက ရဋ္ဌပါလသူဌေးသားကို "ချစ်သား... သင်ဟာ ငါတို့ရဲ့ တစ်ဦးတည်းသော အချစ်ဆုံးသား ဖြစ်တယ်၊ သင်ဟာ တစ်သက်လုံး ချမ်းချမ်းသာသာ ကြီးပြင်းခဲ့ရပြီး ဒုက္ခဆိုတာ ဘာမှန်းတောင် မသိခဲ့ဘူး၊ တကယ်လို့ မပြောကောင်း မဆိုကောင်း သင် သေသွားလို့ ခွဲရရင်တောင် မတတ်သာလို့ ခွဲရတာ ဖြစ်ပါလိမ့်မယ်၊ အခုလို အသက်ရှင်နေရက်နဲ့တော့ သင့်ကို ငါတို့ ဘယ်နည်းနဲ့မှ ခွဲပြီး ရဟန်းပြုခွင့် မပေးနိုင်ဘူး၊ ဒါကြောင့် ချစ်သား ထပြီး အစာရေစာ စားပါဦး၊ သောက်ပါဦး၊ လူ့ဘဝနဲ့လည်း ကုသိုလ်ကောင်းမှုတွေ ပြုလို့ ရပါတယ် ချစ်သား" လို့ ချော့မော့ ပြောဆိုဖျောင်းဖျကြတယ်။ ဒါပေမယ့် ရဋ္ဌပါလသူဌေးသားက ဘာမှပြန်မပြောဘဲ တုဏှိဘာဝေ ဆိတ်ဆိတ်ပဲ နေခဲ့ပါတယ်။ ဒီနည်းအတိုင်း မိဘတွေက နှစ်ကြိမ်၊ သုံးကြိမ်အထိ ဖျောင်းဖျပြောဆိုကြပေမယ့် ရဋ္ဌပါလသူဌေးသားဟာ နေရာက မထဘဲ ဆက်ပြီး အစာတော်ခံဆန္ဒပြနေခဲ့ပါတယ်။

ဒီအကြောင်းကို ရဋ္ဌပါလရဲ့သူငယ်ချင်းတွေ ကြားသိရတဲ့အခါ သူတို့ကပါ မိဘတွေဘက်ကနေပြီး မိဘတွေ ပြောသလို သုံးကြိမ်အထိ ကူပြီး ဖျောင်းဖျပြောဆိုပေမယ့် ရဋ္ဌပါလသူဌေးသားဟာ သူ့ရည်ရွယ်ချက်အတိုင်း ဘာမှ ပြန်မပြောဘဲ ဆိတ်ဆိတ်ပဲ နေခဲ့တယ်။ ဒီအခါ သူငယ်ချင်းတွေက ရဋ္ဌပါလရဲ့ မိဘတွေကို "အို... မိခင်ဖခင်တို့၊ သင်တို့ရဲ့သား ရဋ္ဌပါလဟာ ရဟန်းမပြုရရင် အသေခံတော့မည့်သဘောရှိတယ်၊ ဒီနေရာက ထမှာ မဟုတ်တော့ဘူး၊ သင်တို့ အနေနဲ့ ရဟန်းပြုခွင့် မပေးရင် ဒီနေရာမှာပဲ သူ သေသွားလိမ့်မယ်၊ ရဟန်းပြုခွင့် ပေးလိုက်မယ်ဆိုရင် သူ့ကို အသက်ရှင်ရက် ရဟန်းဘဝလေးနဲ့ တွေ့နေနိုင်ပါလိမ့်မယ်၊ တကယ်လို့ သူ ရဟန်းဘဝ မပျော်



တော့လည်း သူ့မှာ တခြား သွားစရာ ရှိတာမှ မဟုတ်ဘဲ၊ အသင်တို့ဆီပဲ ပြန်လာပါလိမ့်မယ်၊ ဒါကြောင့် ရဋ္ဌပါလကို ရဟန်းပြုဖို့ ခွင့်ပေးကြပါ" လို့ တိုက်တွန်းပြောဆိုခဲ့ကြတယ်။

အခုလို ရဋ္ဌပါလသူငယ်ချင်းတွေက ကျိုးကြောင်းပြပြီး တိုက်တွန်းပြောဆိုမှ မိဘတွေလည်း မတတ်နိုင်တဲ့အဆုံး ရဋ္ဌပါလကို ရဟန်းပြုဖို့ သဘောတူခဲ့ကြတယ်။ ဒီအခါကျမှ ရဋ္ဌပါလသူဌေးသားဟာ မြေကြီးပေါ်လှဲပြီး အစာတော်ခံ ဆန္ဒပြရာက ထခဲ့ပြီး နှစ်ရက်သုံးရက်လောက် အားပြန်မွေးခဲ့ပါတယ်။ ဒီနောက်တော့ မြတ်စွာဘုရားထံ သွားပြီး မိဘတွေက ရှင်ရဟန်းပြုဖို့ ခွင့်ပေးလိုက်ပြီဆိုတဲ့အကြောင်း လျှောက်ထားကာ သူ့ကို ရှင်ရဟန်းပြုပေးဖို့ ခွင့်ပန်လျှောက်ထားပါတယ်။ ဒီအခါ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို တာဝန်ပေးပြီး ရဋ္ဌပါလသူဌေးသားကို ရဟန်းပြုပေးဖို့ စီစဉ်ပေးတော်မူတဲ့အတွက် ရဋ္ဌပါလသူဌေးသား ရဟန်းအဖြစ်ကို ရခဲ့ပါတယ်။

သားဖြစ်သူ ရဋ္ဌပါလ ရဟန်းဝတ်သွားတဲ့နေ့က စပြီး ဖခင်ဖြစ်တဲ့ သူဌေးကြီးဟာ သူ့အိမ်ရှေ့ ဆွမ်းခံကြွလာတဲ့ ရဟန်းတော်တွေကို "သင်တို့အနေနဲ့ ဒီအိမ်မှာ ဘာလုပ်စရာ ရှိသေးလို့လဲ၊ တစ်ဦးတည်းသော သားလေးကို ခေါ်သွားပြီး ရဟန်းပြုပေးပြီးတဲ့နောက်တော့ သင်တို့မှာ ဘာများ လုပ်စရာ ကျန်သေးလို့လဲ" လို့ မကျေမနပ်ရေရွတ် ပြောဆိုနေပါတော့တယ်။

မြတ်စွာဘုရားရှင်ဟာ ထုလ္လကောဋ္ဌိက နိဂုံးရွာမှာ (၁၅)ရက်ပဲ သီတင်းသုံးပြီး သာဝတ္ထိပြည်ကို ပြန်ကြွသွားပါတယ်။ အရှင်ရဋ္ဌပါလလည်း မြတ်စွာဘုရားနဲ့အတူ သာဝတ္ထိပြည်ကို လိုက်သွားပါတယ်။ သာဝတ္ထိပြည် ဇေတဝန်ကျောင်းရောက်တဲ့အခါ အရှင်ရဋ္ဌပါလဟာ မြတ်စွာဘုရားထံကနေ တရား အားထုတ်နည်း သင်ယူပြီး ဝိပဿနာတရား ကြိုးစားပွားများ အားထုတ်လိုက်တာ မကြာခင်ပဲ အရဟတ္တ

ဖိုလ်သို့ ဆိုက်ရောက်ကာ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

အခုလို အရှင်ရဋ္ဌပါလမထေရ်ဟာ ရဟန်းပြုခွင့် ရဖို့အတွက် အစာ (၁၄)နပ်၊ ခုနစ်ရက် အစာငတ်ခံ ဆန္ဒပြ တောင်းဆိုပြီး ခက်ခက်ခဲခဲ ရဟန်းပြုခဲ့သူ ဖြစ်တာမို့ မြတ်စွာဘုရားရှင်က နောက်ပိုင်းကာလ တစ်ချိန်မှာ အရိယာသံဃာတွေရဲ့ အလယ်မှာပဲ အရှင်ရဋ္ဌပါလမထေရ်ကို “ချစ်သားတို့… ငါဘုရားရဲ့ သာသနာတော်မှာ သဒ္ဓါတရားနဲ့ ရဟန်းပြုလာကြတဲ့ ရဟန်းတော်တွေထဲမှာ ရဋ္ဌပါလဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပေတယ်” လို့ သဒ္ဓါပဗ္ဗဇိတ - သဒ္ဓါတရားနဲ့ ရဟန်းပြုတဲ့အရာ အသာဆုံး ဧတဒဂ် အရာထား ချီးမြှောက်တော်မူခဲ့ပါတယ်။

**(ဂ) အရှင်မြတ်နှစ်ပါးနဲ့ ဆက်စပ်သည့် တရားတော်အပိုင်း**

**(၁) အရှင်ရာဟုလာနဲ့ ဆက်စပ်သည့် တရားတော်အပိုင်း**

**(က) သာမဏေရပဉှာ - ကိန်းဂဏန်းဆိုင်ရာ မေး၊ ဖြေ တရားတော်**

မြတ်စွာဘုရားရှင်ဟာ ခုနစ်နှစ်အရွယ် သာမဏေ ရှင်ရာဟုလာကို ကလေးသဘာဝ ပြောသင့်တဲ့စကား၊ မပြောသင့်တဲ့စကား နားမလည်ဘဲ ရောက်တတ်ရာရာ ထွေရာလေးပါး အကျိုးမရှိတဲ့ စကားတွေပြောပြီး အချိန်အလဟဿ မဖြစ်စေဖို့အတွက် ကလေးသဘာဝနဲ့ လိုက်လျောညီထွေဖြစ်တဲ့ ကိန်းဂဏန်းအမေး၊ အဖြေကို ဟောပြပါတယ်။ ဒီအကြောင်းကို ခုဒ္ဒကပါဌ ပါဠိတော်မှာ မှတ်တမ်းတင်ထားပါတယ်။

“ချစ်သား ရာဟုလာ… ရှင်သာမဏေဆိုတာ မဂ်တရား၊ ဖိုလ်တရားကို ကျေးဇူးမပြုတဲ့ ရပ်စကား၊ ရွာစကား ပြောပြီး မနေသင့်ဘူး၊ သင်ချစ်သားဟာ တရားသိမြင်ရေးအတွက် ကျေးဇူးများတဲ့ ခုလို စကားမျိုးကို ပြောပါ။



တစ်ခု ဆိုတာ ဘာလဲ”

“တစ်ခုဆိုတာ ‘သဗ္ဗေ သတ္တာ အာဟာရဋ္ဌိတိကာ - သတ္တဝါမှန်သမျှဟာ အာဟာရလျှင် တည်ရာ အကြောင်း ရှိပါတယ်’ လို့ ဆိုလိုတာပါ ဘုရား။ ”

“နှစ်ခု ဆိုတာ ဘာလဲ”

“နှစ်ခုဆိုတာ ‘နာမ်တရားနဲ့ ရုပ်တရား’ ပါ ဘုရား”

“သုံးခု ဆိုတာ ဘာလဲ”

“သုံးခုဆိုတာ ‘ဝေဒနာ သုံးပါး’ ပါ ဘုရား”

“လေးခု ဆိုတာ ဘာလဲ”

“လေးခုဆိုတာ ‘သစ္စာလေးပါး’ ပါ ဘုရား”

“ငါးခု ဆိုတာ ဘာလဲ”

“ငါးခု ဆိုတာ ‘ဥပါဒါန်နဲ့ စွဲလန်းရာ ခန္ဓာငါးပါး’ ပါ ဘုရား”

“ခြောက်ခု ဆိုတာ ဘာလဲ”

“ခြောက်ခုဆိုတာ ‘မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ် ဆိုတဲ့ အာယတန ခြောက်ပါး’ ပါ ဘုရား”

“ခုနစ်ခု ဆိုတာ ဘာလဲ”

“ခုနစ်ခုဆိုတာ ‘ဗောဇ္ဈင် ခုနစ်ပါး’ ပါ ဘုရား”

“ရှစ်ခု ဆိုတာ ဘာလဲ”

“ရှစ်ခုဆိုတာ ‘မဂ္ဂင် ရှစ်ပါး’ ပါ ဘုရား”

“ကိုးခု ဆိုတာ ဘာလဲ”

“ကိုးခု ဆိုတာ ‘သတ္တဝါတွေရဲ့ နေရာ သတ္တာဝါသ ဘုံကိုးဝ’ ပါ ဘုရား”

“ဆယ်ခု ဆိုတာ ဘာလဲ”

“ဆယ်ခု ဆိုတာ ‘အင်္ဂါဆယ်ပါးနဲ့ ပြည့်စုံသူကို ရဟန္တာ လို့ ခေါ်ဆို ထိုက်တယ်’ လို့ ဆိုလိုတာပါ ဘုရား”

**(ခ) ရေခွက်ဥပမာ၊ စစ်ဆင်ကြီးဥပမာ၊ မှန်ဥပမာပြ တရားတော်**

နောက်ပြီး မြတ်စွာဘုရားရှင် ကြံ့စည် ဆင်ခြင်တော်မူမိပြန်တာက 'ကလေးဆိုတာ လိမ်ပြောရတာကို သဘောကျကြတယ်၊ ကိုယ် မမြင်တာကိုလည်း မြင်တယ်၊ ကိုယ် မြင်တာကိုလည်း မမြင်ဘူးလို့ ပြောတတ်ကြတယ်၊ ဒါကြောင့် ရာဟုလာကို စောစောကတည်းက ကြိုတင်ပြီး လိမ်မပြောတတ်အောင် ဆုံးမထားမှ တော်မယ်' လို့ ဆင်ခြင်တော်မူပြီးနောက် ရေခွက်ဥပမာ လေးမျိုး၊ စစ်ဆင်ကြီး ဥပမာ နှစ်မျိုး၊ မှန်ဥပမာ တစ်မျိုး တရားကို ဟောတော်မူခဲ့ပါတယ်။ ဒီအကြောင်းကို မဇ္ဈိမနိကာယ်၊ မဇ္ဈိမပဏ္ဏာသ ပါဠိတော်မှာ အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ် အနေနဲ့ မှတ်တမ်းတင်ထားပါတယ်။

**ရေခွက်ဥပမာ လေးမျိုး**

တစ်ခါမှာတော့ မြတ်စွာဘုရားဟာ ရှင်ရာဟုလာနေတဲ့ ကျောင်းဆောင်ကို ကြွတော်မူပါတယ်။ ဒီအခါ ရှင်ရာဟုလာက မြတ်စွာဘုရား ခြေဆေးဖို့အတွက် ရေအိုးနဲ့ ရေခွက်လေး ပြင်ဆင်ပေးခဲ့ပါတယ်။ မြတ်စွာဘုရားက ခြေဆေးရင်းက ရေခွက်ထဲ ရေ နည်းနည်းချန်ထားပြီး ရှင်ရာဟုလာကို "ချစ်သား ရာဟုလာ... ဒီရေခွက်ထဲမှာ ရေ နည်းနည်းပဲ ရှိတာကို မြင်လား" လို့ မေးပါတယ်။ ရှင်ရာဟုလာက မြင်တဲ့အကြောင်း ဖြေတဲ့အခါ မြတ်စွာဘုရားက "ချစ်သား ရာဟုလာ... ဒီဥပမာလိုပဲ လိမ်ပြောရမှာ မရှက်တတ်တဲ့ သူမှာ ကောင်းတဲ့ သူတော်ကောင်းတရားဆိုတာ ဒီရေလိုပဲ နည်းနည်းပဲ ရှိနိုင်တယ်" လို့ ဆုံးမတော်မူပါတယ်။

နောက်တစ်ခါ မြတ်စွာဘုရားက ရေခွက်ထဲက ရေကို အကုန်သွန်လိုက်ပြီး ရှင်ရာဟုလာကို "ချစ်သား ရာဟုလာ... ဒီရေခွက်ထဲက ရေအကုန်သွန်လိုက်တာ မြင်ရဲ့လား" လို့ မေးတော်မူပါတယ်။ ရှင်ရာဟုလာက မြင်တဲ့အကြောင်း ဖြေဆိုတာနဲ့ မြတ်စွာဘုရားက



"ချစ်သား ရာဟုလာ... ဒီဥပမာလိုပဲ လိမ်ပြောရမှာ မရှက်တတ်တဲ့ သူမှာ ကောင်းတဲ့ သူတော်ကောင်းတရား မှန်သမျှ အကုန်သွန်ထားပြီးသား ဖြစ်သွားပြီ" လို့ ဆုံးမတော်မူပါတယ်။

တတိယအကြိမ်မှာတော့ မြတ်စွာဘုရားက ရေခွက်ကို မှောက်ထားလိုက်ပြီး "ချစ်သား ရာဟုလာ... ရေခွက် မှောက်ထားတာကို မြင်ရဲ့လား" လို့ မေးတော်မူတဲ့အတွက် ရှင်ရာဟုလာက မြင်တဲ့ အကြောင်း ဖြေကြားပါတယ်။ ဒီအခါ မြတ်စွာဘုရားက "ချစ်သား ရာဟုလာ... ဒီဥပမာလိုပဲ လိမ်ပြောရမှာ မရှက်တတ်တဲ့ သူမှာ ကောင်းတဲ့ သူတော်ကောင်းတရားမှန်သမျှကို မှောက်ထားပြီးပြီ၊ ဘာမှ အကောင်း မကျန်တော့ဘူး" လို့ မုသားမပြောဖို့ရန်အတွက် ဥပမာနဲ့ ရှင်းပြပါတယ်။

နောက်ဆုံးအနေနဲ့ ဘာမှ မရှိဘဲ အချည်းနှီး ဖြစ်နေတဲ့ ရေခွက်ကို ပြပြီး မြတ်စွာဘုရားက "ချစ်သား ရာဟုလာ... ဒီရေခွက်ထဲမှာ ဘာမှ မရှိ၊ အချည်းနှီး ဖြစ်နေတာကို မြင်ရဲ့လား" လို့ မေးပြန်တော့လည်း ရှင်ရာဟုလာက မြင်ပါတယ်ဘုရားလို့ လျှောက်ထား ဖြေဆိုခဲ့တယ်။ ဒီအခါမှာလည်း မြတ်စွာဘုရားက "ချစ်သား ရာဟုလာ... ဒီဥပမာလိုပဲ လိမ်ပြောရမှာ မရှက်တတ်တဲ့သူမှာ အကောင်းစာတ်ဖြစ်တဲ့ သူတော်ကောင်းတရားတွေ ဘာတစ်ခုမှ မကျန်တော့ဘူး၊ အကုန် အချည်းနှီး ဖြစ်နေပြီ" လို့ ရှင်းပြပြီး လိမ်ပြောရမှာ ရှက်တတ်၊ ကြောက်တတ်ဖို့နဲ့ လိမ်ပြောတဲ့သူ မဖြစ်စေဖို့ အတွက် ဆုံးမတော်မူပါတယ်။

**စစ်ဆင်ကြီး ဥပမာ နှစ်မျိုး**

ဆက်ပြီး မုသားစကား မပြောဖို့အတွက် မြတ်စွာဘုရားရှင်က စစ်ဆင်ကြီးဥပမာပေးပြီး ဆုံးမပြန်ပါတယ်။

“ချစ်သား ရာဟုလာ… တိုင်းပြည် တစ်ပြည်နဲ့တစ်ပြည် စစ်တိုက်တဲ့အခါ စစ်ဆင်ကြီးတွေဟာ ရှေ့ခြေထောက် နှစ်ချောင်း၊ နောက်ခြေထောက် နှစ်ချောင်း၊ ရှေ့ပိုင်း ခန္ဓာကိုယ်၊ နောက်ပိုင်း ခန္ဓာကိုယ်၊ ဦးခေါင်း၊ နားရွက်တွေနဲ့ အစွယ်တွေကို အသုံးပြုပြီး စစ်တိုက်နေတယ်၊ ဒါပေမယ့် နှာမောင်းကိုတော့ အသုံးမပြုသေးဘဲ ပါးစပ်ထဲမှာ ထည့်ထားသေးတယ်ဆိုရင် ဆင်ဦးစီးတွေက ‘သြော်… ဒီ တိုက်ဆင်ကြီးဟာ ကျန်တဲ့ ခန္ဓာကိုယ် အစိတ်အပိုင်းတွေ အကုန် အသုံးပြုပြီး စစ်တိုက်နေတယ်၊ ဒါပေမယ့် သူ့နှာမောင်းကိုတော့ အသုံးမပြုသေးဘူး၊ ဒါဆိုရင် ဒီ ဆင်ကြီးဟာ သူ့ရဲ့ အရှင်သခင်ဖြစ်တဲ့ ရှင်ဘုရင်အတွက် အသက်ကို မစွန့်နိုင်သေးဘူး ဆိုတဲ့ သဘောပဲ’ လို့ နားလည်ကြတယ်။

ချစ်သား ရာဟုလာ… တကယ်လို့ ဒီ တိုက်ဆင်ကြီးတွေဟာ သူတို့မှာ ရှိသမျှ ကိုယ်ခန္ဓာ အစိတ်အပိုင်းတွေနဲ့ရော နောက်ဆုံး နှာမောင်းပါ မြှောက်ထောင်ပြီး စစ်တိုက်နေပြီဆိုရင်တော့ ဆင်ဦးစီးတွေက ‘သြော်… ဒီဆင်ကြီးဟာ နှာမောင်းပါ ထောင်ပြီး စစ်တိုက်နေပြီ၊ ဒါဆိုရင် ဒီ ဆင်ကြီးဟာ သူ့အရှင်သခင် ရှင်ဘုရင်အတွက် အသက်အသေခံပြီး စစ်တိုက်နေပြီ၊ သူမလုပ်ဝံ့တာ ဘာမှ မရှိတော့ဘူး’ လို့ သိကြတယ်။

ချစ်သား ရာဟုလာ …. ဒီ စစ်ဆင်ကြီး ဥပမာ နှစ်မျိုးလိုပဲ လောကမှာ လူတစ်ယောက် မုသား မပြောသေးဘူး၊ မုသားပြောရမှာ အရှက်၊ အကြောက် ရှိနေသေးရင် သူတော်ကောင်းတွေက အဲဒီပုဂ္ဂိုလ်ကို ‘သြော်… ဒီပုဂ္ဂိုလ်ဟာ သူတော်ကောင်းတရားကို မစွန့်သေးတဲ့ သူပါလား’ လို့ သိကြတယ်။

တကယ်လို့ မုသားပြောရမှာ မရှက်တော့ဘူး၊ လိမ်ပြောရဲပြီဆိုရင်တော့ အဲဒီလို ပုဂ္ဂိုလ်ကို သူတော်ကောင်းတွေက ‘ဟာ…



ဒီပုဂ္ဂိုလ်တော့ လိမ်ပြောရမှာတောင် မရှက်တော့ဘူး၊ ဒါဆိုရင် ဒီပုဂ္ဂိုလ်ဟာ သူတော်ကောင်းတရားကို အကုန်စွန့်ရဲသွားပြီ၊ သူ မလုပ်ရဲတဲ့ အကုသိုလ် မကောင်းမှု ဆိုတာ မရှိတော့ဘူး’ လို့ သိကြတယ်။

ဒါကြောင့် ချစ်သား ရာဟုလာ… မုသားဆိုရင် ရယ်စရာ အနေနဲ့တောင် မပြောပါနဲ့”

ယခုလို မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာကို လိမ်ညာ မပြောတတ်အောင် စစ်ဆင်ကြီးဥပမာနဲ့ စိတ်ရှည် လက်ရှည် ဆုံးမတော်မူခဲ့ပါတယ်။

## မှန်ဥပမာပြတရား

ဆက်ပြီး ကိုယ်မှု၊ နှုတ်မှု၊ စိတ်မှု ဆိုတဲ့ ကံသုံးပါး စင်ကြယ်အောင် နေ့စဉ် စစ်ဆေးပြီး နေထိုင်ဖို့ အတွက်လည်း မြတ်စွာဘုရားက မှန်နဲ့ ဥပမာပေးပြီး ဆုံးမတော်မူပါတယ်။

“ချစ်သား ရာဟုလာ… လူတွေ မှန်ကြည့်ကြတယ်ဆိုတာ မျက်နှာနဲ့ ခန္ဓာကိုယ်မှာ မလှမပတဲ့ အရာ၊ အပြစ်အနာဆာတွေ ရှိ၊ မရှိ သိနိုင်ဖို့နဲ့ အဲဒါမျိုးတွေ ရှိခဲ့ရင်လည်း အချိန်မီ ပြုပြင် ပြင်ဆင်နိုင်ဖို့ အတွက် ဖြစ်တယ်”

## မလုပ်ခင်၊ မပြောခင်၊ မတွေးခင် ကြိုတင် ဉာဏ်နဲ့ ဆင်ခြင်ပါ

“ဒီ ဥပမာလိုပဲ ချစ်သား ရာဟုလာ… ခန္ဓာကိုယ်နဲ့ တစ်ခုခု လုပ်တော့မယ်၊ နှုတ်နဲ့ တစ်ခုခု ပြောတော့မယ်၊ စိတ်နဲ့ တစ်ခုခု တွေးတော့မယ်ဆိုရင် မလုပ်ခင်၊ မပြောခင်၊ မတွေးခင် ကြိုတင်ပြီး ‘ငါ အခု လုပ်မယ့် အလုပ်ဟာ၊ ငါ အခုပြောမယ့် စကားဟာ၊ ငါ အခုတွေးမယ့် အတွေးဟာ ငါ့ အကျိုးကော ဆုတ်ယုတ်နိုင်လား၊ သူများကိုကော ထိခိုက်နိုင်လား၊ ကိုယ်ရော သူများတွေပါ စိတ်ဆင်းရဲ

ကိုယ်ဆင်းရဲ ဖြစ်နိုင်လား၊ နောင် ဆိုးကျိုးတွေပေးမယ့် အရာတွေ ဖြစ်မလား' လို့ ဉာဏ်နဲ့ ဆင်ခြင်ရတယ်။

အဲဒီလို ဆင်ခြင်လိုက်လို့ ဘယ်သူ့အတွက်မှ ကောင်းကျိုး မဖြစ်၊ အပူမီးတွေကိုသာ ပွားစေနိုင်တယ်၊ နောင်လည်း မကောင်းကျိုးတွေ ဖြစ်လာနိုင်တယ်လို့ သိမြင်ခဲ့ရင် အဲဒီကိစ္စမျိုးတွေ မလုပ်နဲ့၊ အဲဒီလို စကားမျိုး မပြောနဲ့၊ အဲဒီလို အတွေးမျိုး ဘယ်တော့မှ မတွေးနဲ့။

ချစ်သား ရာဟုလာ··· အဲဒီလို ဉာဏ်နဲ့ ဆင်ခြင်လိုက်လို့ မိမိ သူတစ်ပါး ဘယ်သူ့မှလည်း မထိုက်ခိုက်ဘူး၊ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲလည်း မဖြစ်နိုင်ဘူး၊ နောင်လည်း ကောင်းကျိုးတွေ ဖြစ်နိုင်တယ်လို့ သိရင်တော့ ဒီလို အလုပ်မျိုး၊ အပြောမျိုး၊ အတွေးမျိုးတွေကို ပြုလုပ်၊ ပြောဆို၊ တွေးနိုင်ပါတယ်''

**လုပ်နေတုန်း၊ ပြောနေတုန်း၊ တွေးနေတုန်းလည်း ဉာဏ်နဲ့ ဆင်ခြင်ပါ**

''ချစ်သား ရာဟုလာ··· ကိုယ်နဲ့ တစ်ခုခု လုပ်နေပြီ၊ ပါးစပ်က တစ်ခုခု ပြောနေပြီ၊ စိတ်နဲ့ တစ်ခုခု တွေးနေပြီဆိုရင်လည်း 'ငါ ခုလုပ်နေတဲ့ အလုပ်ဟာ၊ ငါ ခု ပြောနေတဲ့ စကားတွေဟာ၊ ငါ အခုတွေးနေတဲ့ အတွေးတွေဟာ ငါ့အတွက်ကော အကျိုးရှိလား၊ သူများတွေကိုကော စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ ဖြစ်စေနေသလား၊ ကိုယ်ရော တစ်ဖက်သားပုဂ္ဂိုလ်တွေပါ ဒုက္ခရောက်မယ့် အရာမျိုးတွေ ဖြစ်နေလား၊ နောက်ဆက်တွဲအနေနဲ့ရော ဆိုးကျိုးတွေ ဖြစ်လာနိုင်လား'လို့ သတိလေးကပ်ပြီး ဉာဏ်နဲ့ ဆင်ခြင်ပါဦး၊ အဲဒီလို ဆင်ခြင်လိုက်လို့ ဘယ်သူ့အတွက်မှ အဆင်မပြေ၊ ဆိုးကျိုးတွေ ပွေမည့် အရာမျိုး ဖြစ်နေခဲ့ရင် လုပ်လက်စ အလုပ်၊ ပြောလက်စ စကား၊ တွေးလက်စ အတွေးတွေကို တစ်ခါတည်း ရပ်လိုက်ပါ။

ချစ်သား ရာဟုလာ··· ဒီလို ဆင်ခြင်ကြည့်လို့ ဘယ်သူ့ ဘယ်သူကိုမှ မထိခိုက်ဘူး၊ ခုရော နောင်ပါ စိတ်ချမ်းသာစေနိုင်တယ်၊



ကောင်းကျိုးတွေ ရနိုင်တယ်လို့ တွေ့ရရင်တော့ လုပ်လက်စ အလုပ်တွေ၊ ပြောလက်စ စကားတွေ၊ တွေးလက်စ အတွေးတွေကို ဆက်ပြီး လုပ်ပါ၊ ပြောပါ၊ တွေးပါ''

**လုပ်ပြီး၊ ပြောပြီး၊ တွေးပြီးရင်လည်း ဉာဏ်နဲ့ ဆင်ခြင်ပါဦး**

''ချစ်သား ရာဟုလာ··· လူဆိုတာ အခက်သား၊ မလုပ်ခင်၊ မပြောခင်၊ မတွေးခင်မှာ ဖြစ်ဖြစ်၊ လုပ်နေတုန်း၊ ပြောနေတုန်း၊ တွေးနေတုန်းဖြစ်ဖြစ် ဉာဏ်နဲ့ဆင်ခြင်နိုင်ဖို့ဆိုတာ ရတ်တရက် မလွယ်ဘူး၊ ဒီတော့ လုပ်ပြီး၊ ပြောပြီး၊ တွေးပြီးရင်တော့ 'ငါ ခုလုပ်ခဲ့တာတွေ၊ ပြောခဲ့တာတွေ၊ တွေးခဲ့တာတွေဟာ ငါ့အတွက်ရော စိတ်ဆင်းရဲ စရာ ဖြစ်နေလား၊ ငါ့မိသားစုတွေ၊ ငါ့မိတ်ဆွေတွေ၊ ပတ်ဝန်းကျင်က ပုဂ္ဂိုလ်တွေ သတ္တဝါတွေကိုကော ထိခိုက်နေလား၊ မိမိ၊ သူတစ်ပါး နှစ်ဦးသားလုံး အတွက်ကော စိတ်ဆင်းရဲစရာတွေ ဖြစ်နေလား၊ အရှည်ကြည့်လိုက်ပြန်ရင်လည်း ဒီဘဝအတွက်လည်း မကောင်းနိုင်၊ သံသရာမှာလည်း နွံနစ်စေမယ့် ကိစ္စတွေ ဖြစ်နေလား'လို့ မဖြစ်မနေ ပြန်ဆင်ခြင်ရမယ်။

ချစ်သား ရာဟုလာ··· အဲဒီလို စဉ်းစားဆင်ခြင်လိုက်လို့ လူရော နတ်ပါ သာဓုခေါ်နိုင်တဲ့ အလုပ်မျိုး၊ အပြောမျိုး၊ အတွေးမျိုး ဖြစ်ခဲ့ရင်တော့ ကိုယ်လုပ်ခဲ့၊ ပြောခဲ့၊ တွေးခဲ့တာတွေနဲ့ ပတ်သက်ပြီး ဝမ်းမြောက်ဝမ်းသာ စိတ်အေးချမ်းသာ နေပါတော့။

ချစ်သား ရာဟုလာ··· အဲဒီလိုမှ မဟုတ်ဘဲ ကိုယ်လည်း စိတ်ဆင်းရဲရ၊ ပတ်ဝန်းကျင်ရှိသမျှလူတွေ၊ သတ္တဝါတွေလည်း ဒုက္ခတွေ ဖြစ်ရ၊ ခုရော နောင်ပါ ဒုက္ခပင်လယ်ဝေစေမယ့် ကိစ္စရပ်မျိုးတွေ ဖြစ်နေခဲ့ရင်တော့ လုပ်ခဲ့သမျှ မကောင်းတဲ့ကံတွေ၊ ပြောခဲ့သမျှ မကောင်းတဲ့ စကားတွေရဲ့ ဆိုးကျိုး ပြေပျောက်နိုင်စေဖို့ ဆရာသမားတွေ၊ ဒါမှမဟုတ် လေးစားလောက်တဲ့ ပညာရှိတွေထံ သွားပြီး

အမှားတွေ လုပ်မိခဲ့ပါကြောင်း၊ မဟုတ်တာတွေ ပြောမိခဲ့ပါကြောင်း ပြောဆိုပြီး သည်းခံခွင့်လွှတ်ပေးဖို့ ဝန်ချ တောင်းပန် ကန်တော့ရတယ်၊ နောင်လည်း ဒါမျိုး ဘယ်တော့မှ မလုပ်တော့ပါဘူး၊ မပြောတော့ပါဘူးလို့ ဝန်ခံ ကတိပေးရတယ်။

ချစ်သား ရာဟုလာ··· မကောင်းတာ တွေးမိခဲ့တာတွေအတွက်တော့ ဘယ်သူ့ဆီမှ သွားပြီး ဝန်ချ တောင်းပန်နေဖို့ မလိုပါဘူး၊ ကိုယ်ကိုယ်တိုင် မကောင်းတာ တွေးခဲ့မှန်း သိပြီဆိုတာနဲ့ 'ဟာ··· ငါ တော်တော် အသုံးမကျတဲ့သူပဲ၊ မိုက်တဲ့သူပဲ၊ ငါ မဟုတ်တာတွေ၊ မကောင်းတာတွေ တွေးနေမိပြီ' လို့ ကိုယ့်ကိုယ်ကိုယ် စက်ဆုပ်ရမယ်၊ ရှုံ့မုန်းရမယ်၊ အပြစ်တင်ရမယ်၊ 'နောင် ငါ ဒီလိုမျိုးမကောင်းတာတွေ ဘယ်တော့မှ မတွေးတော့ဘူး' လို့ ဆုံးဖြတ်ချက် ရဲရဲချရမယ်၊ ဒါဆိုရင် မကောင်းတာတွေးမိတဲ့ အပြစ်တွေ ကျေပျောက်တယ်။

ချစ်သား ရာဟုလာ··· အတိတ်တုန်းက ကာယကံတွေ၊ ဝစီကံတွေ၊ မနောကံတွေ စင်ကြယ်ခဲ့သူတွေလည်း ဒီလို ဉာဏ်နဲ့ ဆင်ခြင်ခဲ့ကြလို့ စင်ကြယ်ခဲ့ကြတာဖြစ်တယ်၊ ခုနေခါမှာ ကံ သုံးမျိုးလုံး စင်ကြယ်နေသူတွေလည်း ဒီလို ဆင်ခြင်ကြလို့ စင်ကြယ်နေကြတာ ဖြစ်တယ်၊ နောင် အနာဂတ်မှာ ကံ သုံးမျိုး စင်ကြယ်မယ့်သူတွေလည်း ဒီလို ဉာဏ်နဲ့ ဆင်ခြင်မှ စင်ကြယ်ကြမှာ ဖြစ်တယ်။

ချစ်သား ရာဟုလာ··· ဒါကြောင့် သင်ဟာ 'ဉာဏ်နဲ့ ဆင်ခြင်ပြီး ကာယကံမှု ပြုမယ်၊ ဉာဏ်နဲ့ ဆင်ခြင်ပြီး နှုတ်နဲ့ ပြောမယ်၊ ဉာဏ်နဲ့ ဆင်ခြင်ပြီး စိတ်နဲ့ တွေးမယ်၊ လူတွေ မှန်ကြည့်ပြီး အပြစ်အနာဆာတွေ ကင်းအောင် ပြုပြင်ကြသလို ဉာဏ်နဲ့ ဆင်ခြင်ပြီး ကံသုံးပါးလုံး စင်ကြယ်အောင် ပြုမူ၊ ပြောဆို၊ တွေးတောမယ်' လို့ ဆုံးဖြတ်ချက်ချပြီး ကျင့်သုံး နေထိုင်ပါ"

မြတ်စွာဘုရားရှင်ဟာ ခုနစ်နှစ်သားအရွယ် ရှင်ရာဟုလာကို အခုလို မှန်ဥပမာပြပြီး ဆုံးမတော်မူခဲ့ပါတယ်။

---------------



**(ဂ) ရှင်ရာဟုလာ ကိုရင်ဖြစ်တဲ့အချိန်ကစပြီး ရဟန်းဖြစ်စ အချိန်အထိ အမြဲမပြတ် ဆုံးမတဲ့ အဘိဏှရာဟုလောဝါဒသုတ် တရားတော်**

မြတ်စွာဘုရားရှင်က ရှင်ရာဟုလာကို မျိုးရိုးဇာတ် ကြီးမြတ်မှုနဲ့ ရုပ်ရည်ရူပကာယ တင့်တယ်မှုကို အကြောင်းပြုပြီး အရှင်သာရိပုတ္တရာ စတဲ့ ဆရာတွေအပေါ် မာန်မာနနဲ့ မလေးမစား မဆက်ဆံစေဖို့၊ ငါးဖြာအာရုံ ကာမဂုဏ်တွေအပေါ် မတွယ်တာ မကပ်ငြိဖို့၊ ပစ္စည်းလေးဖြာအပေါ်မှာ တပ်မက်တဲ့ တဏှာ မဖြစ်စေဖို့နဲ့ မိတ်ဆွေကောင်း ပေါင်းမိခြင်းရဲ့ အကျိုးကြီးပုံတွေကို သိမြင်စေဖို့အတွက် ဒီ သုတ်တော်နဲ့ အမြဲမပြတ် ဆုံးမတော်မူခဲ့ပါတယ်။ ဒီအကြောင်းကို ခုဒ္ဒကနိကာယ်၊ သုတ္တနိပါတ်ပါဠိတော်၊ စူဠဝဂ်မှာ ရာဟုလသုတ္တအဖြစ်နဲ့ မှတ်တမ်းတင်ထားပါတယ်။ ဒီသုတ်နဲ့ ရှင်ရာဟုလာကို အမြဲမပြတ် ဆုံးမတော်မူတဲ့အတွက် ဒီသုတ်ကို အဘိဏှရာဟုလောဝါဒသုတ်လို့လည်း ခေါ်ကြပါတယ်။

**အဘိဏှရာဟုလောဝါဒသုတ်**

"ချစ်သား ရာဟုလာ··· သင်ဟာ အမြဲမပြတ် တွေ့ထိ ဆက်ဆံနေရတဲ့ အတွက်ကြောင့် ပညာရှိဖြစ်တဲ့ သင့်ဆရာကို မထီမဲ့မြင် မလေးမစားတဲ့ အနေမျိုး ရှိနေသလား၊ လူတွေရဲ့ အသိဉာဏ်ကို ဖွင့်ပေးနေတဲ့ ပညာရှိဖြစ်တဲ့ ဆရာကို ပူဇော်ပါရဲ့လား"

"မြတ်စွာဘုရား··· တပည့်တော်ဟာ အမြဲတွေ့ထိ ဆက်ဆံနေရတဲ့ အတွက်ကြောင့် ပညာရှိ ဖြစ်တဲ့ ဆရာသခင်ကို မထီမဲ့မြင် မလေးမစား မလုပ်ပါဘုရား၊ လူတွေရဲ့ အသိဉာဏ်အမြင်ကို ဖွင့်ပေးနေတဲ့ ပညာရှိဖြစ်တဲ့ ဆရာကို အမြဲ ပူဇော်ပါတယ် ဘုရား"

မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာကို ဆုံးမဩဝါဒပေးခင် ဥပဇ္ဈာယ်ဆရာဖြစ်တဲ့ အရှင်သာရိပုတ္တရာ အပေါ် မရိုမသေ မလေး

မစား မလုပ်ဖို့ အရှင်ဆုံး သတိပေးပါတယ်။ ပြီးမှ အောက်ပါအတိုင်း ဆက်ပြီး ဆုံးမဩဝါဒပေးတော်မူပါတယ်။

"ချစ်သား ရာဟုလာ....သင်ဟာ သာမန်လူတွေအတွက် မက်မော မြတ်နိုးခင်တွယ်စရာတွေ ဖြစ်တဲ့ အာရုံငါးပါး ကာမဂုဏ်တရားကို ပယ်စွန့်ပြီး သဒ္ဓါတရားနဲ့ ရှင်ရဟန်းပြုလာသူ ဖြစ်တယ်၊ ဒါကြောင့် သင်ဟာ ခုနေခါမှာ ဒုက္ခတွေ ကုန်ဆုံးရာဖြစ်တဲ့ နိဗ္ဗာန်ကို ရအောင်ကျင့်သူ ဖြစ်ပါလော့။

ဒုက္ခတွေ ကုန်ဆုံးချုပ်ငြိမ်းရာ နိဗ္ဗာန်ကို ရဖို့အတွက် ဆိုရင် သင်ဟာ -

(၁) မိတ်ကောင်း ဆွေကောင်းတွေကို မှီဝဲ ဆည်းကပ်ပါ။

(၂) အစွန်အဖျားကျပြီး ဆိတ်ငြိမ်တဲ့ တောရကျောင်းမျိုးမှာ နေပါ။

(၃) စားဖွယ်ဘောဇဉ်မှာလည်း အတိုင်းအရှည် သိပါ။

(၄) ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေးဆိုတဲ့ ပစ္စည်းလေးဖြာ အပေါ်မှာလည်း တဏှာနဲ့ မတပ်မက်ပါနဲ့၊ ပစ္စည်းလေးပါး အပေါ်မှာ တဏှာနဲ့ တွယ်တာတပ်မက်နေရင် နောက်ထပ် ဘဝကြိမ်ဖန် လောကကြီးထဲမှာ ကျင်လည်နေရလိမ့်ဦးမယ်၊ မတွယ်တာ မကပ်ငြိမှ တဏှာကုန်ခန်းပြီး နောက်ထပ် တစ်ဖန် ပဋိသန္ဓေ မနေရတော့ဘဲ ဒီလောကကြီးထဲကို ပြန်မလာရတဲ့သူ ဖြစ်လိမ့်မယ်။

(၅) ရဟန်းတော်များ လိုက်နာကျင့်သုံးရမယ့် သီလကို လုံအောင် ဖြည့်ကျင့်ပါ။

(၆) မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်ဆိုတဲ့ ဣန္ဒြေငါးမျိုး ကိုလည်း အကုသိုလ်မဖြစ်အောင် စောင့်ထိန်းပါ။

(၇) အာနာပါနသတိ၊ စတုဓာတုဝဝတ္ထာန် စတဲ့ ကမ္မဋ္ဌာန်း တစ်မျိုးမျိုးနဲ့ ခန္ဓာကိုယ်မှာ အမြဲမပြတ် သတိကပ်ပြီး နေပါ။



(၈) သံသရာလည်ရတဲ့အပေါ် ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ်တွေ များများ ဖြစ်နေပါစေ။

(၉) ရာဂကို တိုးပွားစေနိုင်တဲ့ တပ်မက်ဖွယ်ကောင်းတဲ့ အာရုံတွေကို ရှောင်ကြဉ်ပါ။

(၁၀) အသုဘကမ္မဋ္ဌာန်းအာရုံအပေါ်မှာ စိတ်ကို တည်ငြိမ်နေအောင် နှစ်ထားပါ။

(၁၁) မမြဲခြင်းသဘောကို ဝိပဿနာဉာဏ်နဲ့ အမြဲမပြတ် ရှုမှတ်ပွားများပါ။

(၁၂) မာနကိုလည်း ပယ်စွန့်ပါ၊ မာနကို အမြစ်ပြတ် ပယ်သတ်နိုင်ရင် ဒုက္ခတွေ အပြီးတိုင် ငြိမ်းလိမ့်မယ်"

---

**(ဃ) အရှင်ရာဟုလာ ၁၈ နှစ်သား အရွယ်မှာ ဟောကြားအပ်သည့် မဟာရာဟုလောဝါဒသုတ်တရားတော်**

အရှင်ရာဟုလာ အရွယ်ရောက်လာတဲ့အခါ "ငါဟာ တင့်တယ်လှပတယ်၊ ငါ့ရဲ့ ရုပ်ရည် အဆင်းဟာ ကြည်လင်သန့်ရှင်းတယ်" ဆိုတဲ့ ခန္ဓာကိုယ်အပေါ်မှာ နှစ်သက် တွယ်တာတဲ့ တဏှာ ဖြစ်ပေါ်လာပါတယ်။ ဒီတဏှာကို ပယ်ဖျောက်ဖို့အတွက် မဟာ ရာဟုလောဝါဒသုတ်ကို ဟောခဲ့တာ ဖြစ်ပါတယ်။ ဒီသုတ်ရဲ့ အနှစ်ချုပ်ကို မဇ္ဈိမနိကာယ်၊ မဇ္ဈိမပဏ္ဏာသပါဠိတော်နဲ့ အဋ္ဌကထာမှာ မှတ်တမ်းတင်ထားတဲ့အတိုင်း ဖော်ပြပါ့မယ်။

တစ်ခါမှာတော့ မြတ်စွာဘုရားနဲ့ ရှင်ရာဟုလာတို့ဟာ သာဝတ္ထိမြို့ထဲကို ဆွမ်းခံကြွကြပါတယ်။ ရှင်ရာဟုလာဟာ ရှေ့ကနေ ကြွနေတဲ့ မြတ်စွာဘုရားကို ကြည့်ပြီး 'ဩော်... မြတ်စွာဘုရားဟာ ယောကျ်ားမြတ်တို့ရဲ့ ၃၂-ပါးသော လက္ခဏာတော်တွေနဲ့ ပြည့်စုံပြီး အလွန်တင့်တယ် သပ္ပာယ်တော်မူလှပါပေတယ်၊ တစ်လံမျှလောက်

သော ရောင်ခြည်တော်တွေနဲ့ အလွန်ကို ကြည်ညိုစရာ ကောင်းပါပေတယ်’ လို့ တွေးကြံမိတယ်။ နောက်ပြီး သူ့ရဲ့ ခန္ဓာကိုယ်ကိုလည်း ကြည့်လိုက်ပြီး ‘ငါလည်း တင့်တယ်လှပတယ်၊ တကယ်လို့သာ မြတ်စွာဘုရားဟာ တောထွက်ပြီး တရားမကျင့်ဘဲ လူ့ဘဝနဲ့ လေးကျွန်းလုံးကို အစိုးရတဲ့ စကြဝတေးမင်း လုပ်ခဲ့မယ်ဆိုရင် ငါ့ကို သားကြီးသြရသတို့ရဲ့ ထုံးစံအတိုင်း အိမ်ရှေ့မင်းအဖြစ် ပေးမှာ အမှန်ပဲ၊ ဒီလိုသာဆိုရင် ဘယ်လောက် ကောင်းလိုက်မလဲ’ ဆိုတဲ့ အတွေးတွေ ဝင်နေပါတော့တယ်။ သူ့ခန္ဓာကိုယ်ရဲ့ လှပတင့်တယ်မှုကို သဘောကျပြီး နှစ်သက်တွယ်တာမှုတွေ ဖြစ်နေတာပါ။

ရှင်ရာဟုလာ အခုလို အတွေးဝင်နေတာကို မြတ်စွာဘုရားက ရှေ့ကနေကြွရင်း ဉာဏ်တော်နဲ့ ဆင်ခြင်ကြည့်လို့ သိလိုက်ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ‘သြော်… ရာဟုလာမှာ ကိလေသာနဲ့ ယှဉ်တဲ့အတွေးတွေ ဖြစ်နေပါပေါ့လား၊ ဒီကိလေသာတွေ ဆက်ပြီး ကြီးထွားလာရင် အပါယ်လေးပါးမှာ နစ်တော့မယ်၊ သံသရာရေလျဉ်ကြော ဆက်ပြီး မျောပါနေတော့မယ်၊ ရတနာအပြည့်တင်ထားတဲ့ ပင်လယ်ကူး လှေကြီးမှာ ပျဉ်ကြားလေးတွေကနေ ရေစိမ့်လာတာကို လျစ်လျူရှု ပစ်မထားထိုက်ဘဲ ရေယိုပေါက်ကို အလျင်အမြန် ပိတ်ဖို့ သင့်သလို ရာဟုလာရဲ့ သန္တာန်မှာ ရှိနေတဲ့ သီလ စတဲ့ ရတနာတွေကို ကိလေသာတွေက မဖျက်ဆီးခင် ငါ ဆုံးမမှ သင့်တော်မယ်’လို့ နှလုံးသွင်းပြီး အောက်ပါအတိုင်း တရားဟောခဲ့ပါတယ်။

“ချစ်သား ရာဟုလာ… ဖြစ်ပြီး အတိတ်ရုပ်၊ ဖြစ်လတ္တံ့ အနာဂတ်ရုပ်၊ ဖြစ်ဆဲ ပစ္စုပ္ပန်ရုပ်၊ ကိုယ်တွင်းသန္တာန်မှာ ဖြစ်တဲ့ ရုပ်နဲ့ကိုယ်ပသန္တာန်မှာ ဖြစ်တဲ့ရုပ်၊ ကြမ်းတမ်းတဲ့ ရုပ်နဲ့ သိမ်မွေ့တဲ့ ရုပ်၊ အညံ့စားဖြစ်တဲ့ရုပ်နဲ့ အကောင်းစားဖြစ်တဲ့ရုပ်၊ အဝေးမှာရှိတဲ့ရုပ်နဲ့ အနီးမှာရှိတဲ့ ရုပ်ဆိုပြီး ၁၁ မျိုးရှိတဲ့ ရုပ်မှန်သမျှကို ‘ငါရဲ့ ဥစ္စာ မဟုတ်ပါတကား၊ ငါ မဟုတ်ပါတကား၊ ငါရဲ့ မပျက်စီးနိုင်တဲ့



အတ္တကောင် မဟုတ်ပါတကား’ လို့ ဝိပဿနာဉာဏ်နဲ့ အမှန်အတိုင်း ရှုရမယ်”

ဒီအခါ ရှင်ရာဟုလာက တစ်ထွာပြရင် တစ်တောင်လောက် မြင်တတ်တဲ့ နယကုသလဉာဏ်ရှိသူပီပီ “ရုပ်တရားကိုပဲ အခုလို ရှုရမှာလား ဘုရား” လို့ ဆက်မေးတာနဲ့ မြတ်စွာဘုရားက “ရုပ်ကို သာမက ရုပ်ကိုမှီပြီး ဖြစ်ပေါ်နေတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်ဆိုတဲ့ နာမ်ခန္ဓာလေးပါးကိုလည်း ရုပ်လို ၁၁ မျိုး ခွဲပြီး ရုပ်ကို ရှုတဲ့အတိုင်း ရှုပါ”လို့ မိန့်တော်မူပါတယ်။

မြတ်စွာဘုရားရှင်က အခုလို ရှုမှတ်ပွားများဖို့ မိန့်လိုက်တယ်ဆိုရင်ပဲ ရှင်ရာဟုလာဟာ ‘မြတ်စွာဘုရားရှင်တွေရဲ့ အဆုံးအမ သြဝါဒဆိုတာ ကပ်ကမ္ဘာ အသင်္ချေကြာသော်လည်း ရနိုင်ခဲလှတယ်၊ ဒါကြောင့် ဆွမ်းခံမသွားဘဲ တရားကျင့်တော့မယ်’ လို့ ဆုံးဖြတ်ကာ မြတ်စွာဘုရားထံ ခွင့်ပန်ချန်နေပြီးနောက် လမ်းဘေးက သစ်ပင်အောက်မှာ ထက်ဝယ်တင်ပျဉ်ခွေထိုင်ပြီး ခါးမတ်မတ် ထားကာ တရားရှုမှတ်နေတော့တယ်။

ရှင်ရာဟုလာ ခုလို တရားမှတ်နေတာကို နောက်မှ ဆွမ်းခံကြွလာတဲ့ အရှင်သာရိပုတ္တရာက မြင်လိုက်တယ်။ ဒီအခါ အရှင်သာရိပုတ္တရာက ရှင်ရာဟုလာ ထိုင်နေတဲ့ပုံစံနဲ့ ဆိုရင် အာနာပါန - ထွက်လေ ဝင်လေ ကမ္မဋ္ဌာန်းနဲ့ အလွန်သင့်တော်တယ်လို့ တွေးပြီး ဘုရားရှင်က ရုပ်ကမ္မဋ္ဌာန်း ရှုမှတ်ခိုင်းထားတာကို မဆင်ခြင်မိဘဲ အာနာပါနကမ္မဋ္ဌာန်း ရှုမှတ်ဖို့ မိန့်တော်မူလိုက်ပါတယ်။

အဲဒီနေ့က ရှင်ရာဟုလာ ဆွမ်းမစားရပါဘူး။ မြတ်စွာဘုရားကလည်း “ရာဟုလာ ဆွမ်းခံ လိုက်မလာဘဲ တရားမှတ်နေတယ်၊ ဆွမ်းပို့လိုက်ကြ” လို့ ဘယ်သူ့ကိုမှ မခိုင်းပါဘူး။ အရှင်သာရိပုတ္တရာကလည်း သူ့တပည့် တရားအားထုတ်နေတာကို သိပေမယ့် ဆွမ်းအတွက် စီမံမပေးပါဘူး။ ရှင်ရာဟုလာကလည်း ‘သူ ခုလို

ဆွမ်းခံမလိုက်ဘဲ တရားအားထုတ်နေတာကို ဘုရားရှင်ရော အရှင်သာရိပုတ္တရာပါ သိတယ်၊ ဆွမ်း စီမံမပေးရကောင်းလား'' လို့ တွေးပြီး စိတ်မကောင်း ဖြစ်မနေပါဘူး။ အစားထက် တရားက ပိုအရေးကြီးတယ်လို့ ခံယူထား ကြတဲ့ ပုဂ္ဂိုလ်မြတ်တွေ ဖြစ်ကြလို့ပါ။

## အာနာပါနကမ္မဋ္ဌာန်း အားထုတ်ရကျိုးများ

အရှင်သာရိပုတ္တရာက ရှင်ရာဟုလာကို အာနာပါနကမ္မဋ္ဌာန်း ရှုမှတ်ခိုင်းတယ်ဆိုတာကလည်း အကျိုးအလွန်ကြီးတဲ့ ကမ္မဋ္ဌာန်းဖြစ်တဲ့ အတွက်ကြောင့် ဖြစ်ပါတယ်။ အာနာပါနကမ္မဋ္ဌာန်း အမြဲတမ်း အား ထုတ်ရင် ရနိုင်တဲ့ အကျိုးတရားတွေကတော့ 'တစ်ထိုင်တည်းနဲ့ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာ ဖြစ်နိုင်တယ်၊ အဲလိုမှ မစွမ်းနိုင်ရင် သေခါနီးအချိန် မသေခင် ကပ်ပြီး ရဟန္တာဖြစ်နိုင်တယ်၊ အဲဒီလို မဖြစ်နိုင်ခဲ့ရင် နောက်ဘဝမှာ နတ်ပြည်ရောက်ပြီးနောက် ဓမ္မကထိက နတ်သားတွေ ဟောတဲ့ တရားနာပြီး ရဟန္တာဖြစ်နိုင်တယ်၊ ဒီလိုလည်း မဖြစ်နိုင်သေးရင် သာသနာပ ဘုရားမပွင့်တဲ့ ခေတ် အခါမှာ ပါရမီပြည့်ပြီး ကိုယ်တိုင်သစ္စာလေးပါးသိနိုင်တဲ့ ပစ္စေကဗုဒ္ဓါ ဖြစ်နိုင်တယ်၊ နောက်ဆုံး အဲဒီလိုမှ မဖြစ်နိုင်ခဲ့ရင် နောင်ပွင့်မယ့် ဘုရားသာသနာမှာ ဂါထာတစ်ပိုဒ်လောက်လေး နာရုံနဲ့ သစ္စာတရားကို အမြန်ဆုံး သိပြီး ကျွတ်တမ်းဝင်တဲ့ ခိပ္ပာဘိညရဟန္တာဖြစ်နိုင်တယ်' လို့ မဇ္ဈိမပဏ္ဏာသအဋ္ဌကထာ (၉၆) မှာ ဖော်ပြထားပါတယ်။

ရှင်ရာဟုလာဟာ မြတ်စွာဘုရား ခိုင်းတဲ့အတိုင်း 'ရုပ်တရား ဟာ မမြဲတဲ့ အနိစ္စတရားပဲ၊ ဆင်းရဲတဲ့ ဒုက္ခတရားပဲ၊ မတင့်တယ်တဲ့ အသုဘတရားပဲ၊ အစိုးမရတဲ့ အနတ္တတရားပဲ' လို့ တစ်နေကုန် ရုပ်ကမ္မဋ္ဌာန်း ရှုမှတ်ပြီးနောက် ညနေချမ်းကာလ ရောက်တဲ့အခါ 'ငါ့ရဲ့ ဥပဇ္ဈာယ်ဆရာက အာနာပါနကမ္မဋ္ဌာန်း မှတ်ရမယ်လို့ မိန့်ထား တယ်၊ သူ့စကား နားထောင်မှ ဖြစ်မယ်၊ ဆရာ့စကား နားမထောင်ရင်



ရာဟုလာဟာ ဥပဇ္ဈာယ်ဆရာရဲ့ စကားတောင် နားမထောင်ဘူး၊ အပြောခက် အဆိုခက် ဆုံးမရခက်တဲ့ ဒုဗ္ဗစပုဂ္ဂိုလ်ပဲလို့ အခြားသူတွေ ကဲ့ရဲ့စရာ ဖြစ်လိမ့်မယ်။ ဒါကြောင့် မြတ်စွာဘုရားထံ သွားပြီး အာနာပါနကမ္မဋ္ဌာန်း အားထုတ်နည်း မေးလျှောက်မယ်'' လို့ တွေးပြီး မြတ်စွာဘုရားထံ သွားကာ အာနာပါန ကမ္မဋ္ဌာန်းအားထုတ်ပုံ အားထုတ်နည်းကို မေးလျှောက်ခဲ့ပါတယ်။

## ဓာတ်ကမ္မဋ္ဌာန်း ရှုမှတ်ပုံ

ဒီအခါ မြတ်စွာဘုရားက ရှင်ရာဟုလာမေးတဲ့ အာနာပါန ကမ္မဋ္ဌာန်း အားထုတ်နည်းကို မဟောသေးဘဲ ရုပ်နဲ့ပတ်သက်တဲ့ ကမ္မဋ္ဌာန်းကိုပဲ ထပ်ဟောပါတယ်။ မနက်အစောတုန်းက ဟောခဲ့တာက ရုပ်အပေါင်းအစုကို ရှုမှတ်ခိုင်းတာ ဖြစ်ပြီး ခု ညနေမှာတော့ ရုပ်ကို ဓာတ် ၅-ပါး ခွဲပြီး အခြင်းအရာ ၄၂-မျိုးနဲ့ ရုပ်အပေါ်မှာ တွယ်တာ တပ်မက်နေတဲ့ ဆန္ဒရာဂအစွဲပျောက်အောင် ရှုမှတ်ခိုင်းတာ ဖြစ်ပါ တယ်။

''ချစ်သား ရာဟုလာ… ကိုယ်တွင်းမှာရော ကိုယ်ရဲ့ ပြင်ပ မှာပါ ခက်မာ ကြမ်းတမ်းတဲ့ သဘော၊ နူးညံ့သိမ်မွေ့တဲ့သဘောဆိုတဲ့ ပထဝီဓာတ်-မြေဓာတ် ဆိုတာ ရှိတယ်၊ ကိုယ်တွင်းမှာရှိတဲ့ ပထဝီ ဓာတ်-မြေဓာတ် ထင်ရှားတဲ့အရာတွေက -

- ဆံပင်၊ မွေးညင်း၊ ခြေသည်း လက်သည်း၊ သွား၊ အရေ။

- အသား၊ အကြော၊ အရိုး၊ ရိုးတွင်းခြင်ဆီ၊ အညှို့ (- ကျောက်ကပ်) ။

- နှလုံး၊ အသည်း၊ အမြှေးလွှာ၊ အဖျဉ်း (- သရက်ရွက်)၊ အဆုတ်။

- အူမ၊ အူသိမ်၊ အစာသစ်၊ အစာဟောင်း၊ ဦးနှောက်တွေ ဖြစ်တယ်။

ဒါအပြင် ဒီခန္ဓာကိုယ်တွင်းမှာ အခြား ကြမ်းတဲ့ ခက်မာ၊ နူးညံ့တဲ့ ရုပ်တွေလည်း ရှိသေးတယ်၊ ဘယ်လိုပဲဖြစ်ဖြစ် ကိုယ်တွင်းမှာရှိတဲ့ ပထဝီဓာတ်-မြေဓာတ်ရော၊ ကိုယ်ရဲ့ ပြင်ပ သက်ရှိ၊ သက်မဲ့တွေ ရှိနေတဲ့ ပထဝီဓာတ်-မြေဓာတ်တွေပါ အားလုံးဟာ ပထဝီဓာတ်ချင်း အတူတူပါပဲ၊ အားလုံးဟာ ပထဝီဓာတ်တွေချည်းပါပဲ၊ ဒီပထဝီဓာတ်-မြေဓာတ်မှန်သမျှကို (အကြောင်းအားလျော်စွာ ဖြစ်ပေါ်လာပြီး တစ်ခဏချင်း အဆက်မပြတ် တရစပ် ချုပ်ပျက်နေတာတွေချည်း ဖြစ်တာမို့) 'ငါ၏ ဥစ္စာ မဟုတ်ပါတကား၊ ငါ မဟုတ်ပါတကား၊ ငါ၏ အတ္တကောင် မဟုတ်ပါတကား' လို့ ဝိပဿနာဉာဏ်နဲ့ ရှုမှတ်ပွားများရမယ်၊ ဒီလို ရှုမှတ်လိုက်ရင် ပထဝီဓာတ်-မြေဓာတ်တွေ အပေါ်မှာ ငြီးငွေ့ပြီး စွဲလမ်းတပ်မက်မှုတွေ ကင်းသွားမယ်။

ချစ်သား ရာဟုလာ··· ဖွဲ့စေးတွယ်ကပ်တဲ့သဘော၊ ယိုစီးတဲ့ သဘောဆိုတဲ့ အာပေါဓာတ်-ရေဓာတ်ဟာလည်း ကိုယ်တွင်း အာပေါဓာတ်၊ ကိုယ်ပ အာပေါဓာတ်ဆိုပြီး နှစ်မျိုးရှိတယ်။

ကိုယ်တွင်း အာပေါဓာတ်တွေက -

- သည်းခြေ၊ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီခဲ။
- မျက်ရည်၊ ဆီကြည်၊ တံတွေး၊ နှပ်၊ အစေး၊ ကျင်ငယ်တို့ပဲ ဖြစ်တယ်။

ဒါအပြင် ဒီကိုယ်တွင်းမှာ အခြား ဖွဲ့စေး၊ ယိုစီးတဲ့သဘော ရှိတဲ့ အာပေါဓာတ်တွေလည်း ရှိသေးတယ်၊ ဘာပဲ ဖြစ်ဖြစ် ကိုယ်တွင်းရှိတဲ့ အာပေါဓာတ်တွေရော ကိုယ်ရဲ့ ပြင်ပ သက်ရှိ၊ သက်မဲ့တွေမှာ ရှိနေတဲ့ အာပေါဓာတ်တွေပါ အားလုံးဟာ ဖွဲ့စေး၊ ယိုစီးတဲ့ သဘောလက္ခဏာချင်း တူတဲ့ အာပေါဓာတ်တွေချည်းပါပဲ၊ ဒီ အာပေါဓာတ် မှန်သမျှကိုလည်း 'ငါ၏ ဥစ္စာ မဟုတ်ပါတကား၊ ငါ



မဟုတ်ပါတကား၊ ငါ၏ အတ္တကောင် မဟုတ်ပါတကား' လို့ ဝိပဿနာဉာဏ်နဲ့ ရှုမှတ်ရမယ်၊ ဒီလို ရှုမှတ်လိုက်ရင် အာပေါဓာတ်တွေ အပေါ်မှာ ငြီးငွေ့ပြီး တွယ်တာ တပ်မက်မှုတွေ ကင်းသွားမယ်၊

ချစ်သား ရာဟုလာ··· ပူတဲ့သဘော၊ အေးတဲ့သဘောဆိုတဲ့ တေဇောဓာတ် ဆိုတာ ရှိတယ်၊ ဒီ တေဇောဓာတ်ဟာလည်း ကိုယ်တွင်း တေဇောဓာတ်၊ ကိုယ်ပ တေဇောဓာတ် ဆိုပြီး နှစ်မျိုးပါပဲ။

ကိုယ်တွင်း တေဇောဓာတ် ဆိုတာက -

- ရက်ဆက်၊ ရက်ခြား ဖျားတဲ့အခါမှာ ဖြစ်တဲ့ ဖျားရှိန်ပူရှိန်ငွေ့ ခေါ်တဲ့ သန္တာပတေဇော၊
- ပြည်တည်နှာ စသည် ဖြစ်တဲ့အခါ အသွေးအသားကို ကျက်စေ လောင်စေတတ်တဲ့ ဒါဟတေဇော၊
- အိုမင်း ရင့်ရော်စေတတ်တဲ့ ကိုယ်ငွေ့ခေါ်တဲ့ ဇီရဏတေဇော၊
- အစာကို ကြေကျက်စေတတ်တဲ့ ဝမ်းမီးခေါ်တဲ့ ပါစကတေဇောတို့ပဲ ဖြစ်တယ်။

ဒါအပြင် ကိုယ်တွင်းမှာ ပူမှု၊ အေးမှု ခေါ်တဲ့ အခြား တေဇောဓာတ်ရုပ်တွေလည်း ရှိသေးတယ်၊ ကိုယ်တွင်းမှာ ရှိနေတဲ့ တေဇောဓာတ်တွေရော ကိုယ်ရဲ့ ပြင်ပမှာ ရှိနေတဲ့ တေဇောဓာတ်တွေပါ အားလုံးတို့ဟာ တေဇောဓာတ်တွေချည်းပါပဲ၊ ဒီ တေဇောဓာတ်မှန်သမျှကိုလည်း 'ငါ၏ ဥစ္စာ မဟုတ်ပါတကား၊ ငါ မဟုတ်ပါတကား၊ ငါ၏ အတ္တ မဟုတ်ပါတကား' လို့ ဝိပဿနာဉာဏ်နဲ့ ရှုမှတ်ရမယ်၊ ဒီလို ရှုမှတ်ရင် တေဇောဓာတ်အပေါ်မှာ ငြီးငွေ့လာပြီး တွယ်တာ တက်မက်မှုတွေ ကင်းသွားလိမ့်မယ်။

ချစ်သား ရာဟုလာ··· ထောက်ကန်မှုသဘော၊ လှုပ်ရှားမှု သဘောရှိတဲ့ ဝါယောဓာတ် - လေဓာတ် ဆိုတာလည်း ကိုယ်တွင်း ဝါယောဓာတ်၊ ကိုယ်ပ ဝါယောဓာတ်ဆိုပြီး နှစ်မျိုး ရှိတယ်၊

ကိုယ်တွင်း ဝါယောဓာတ် ဆိုတာက -

- အထက်သို့ ဆန်တက်တဲ့ ဥဒ္ဓင်္ဂမလေ၊
- အောက်စုန်တဲ့ အဓောဂမလေ၊
- ဝမ်းဗိုက်တွင်းမှာ ကိန်းတဲ့ ကုစ္ဆိသယလေ၊
- အူမ၊ အူသိမ်အတွင်းမှာ ကိန်းတဲ့ ကောဋ္ဌာသယလေ၊
- ကိုယ်လက်အင်္ဂါ လှုပ်ရှားမှု စသည် ပြုလုပ်တဲ့အခါ အင်္ဂါကြီးငယ်အတွင်း အစဉ်လျှောက်တဲ့ အင်္ဂမင်္ဂါနုသာရီလေ၊
- ထွက်လေ၊ ဝင်လေ ခေါ်တဲ့ အဿာသ၊ ပဿာသလေတို့ပဲ ဖြစ်တယ်။

ဒါအပြင် ကိုယ်တွင်းမှာရှိတဲ့ အခြား ထောက်ကန်သဘော၊ လှုပ်ရှားတဲ့သဘောရုပ်တွေလည်း ဝါယောဓာတ်တွေချည်းပါပဲ၊ မိမိကိုယ်တွင်းမှာဖြစ်တဲ့ ဝါယောဓာတ်တွေရော၊ ကိုယ်ရဲ့ ပြင်ပမှာ ရှိနေတဲ့ ဝါယောဓာတ်တွေပါ အားလုံးတို့ဟာ ထောက်ကန်၊ လှုပ်ရှားသဘောရှိတဲ့ ဝါယောဓာတ်ရုပ်တွေချည်း အတူတူပဲ ဖြစ်တယ်၊ ဒီ ဝါယောဓာတ် မှန်သမျှကိုလည်း 'ငါ၏ ဥစ္စာ မဟုတ်ပါတကား၊ ငါ မဟုတ်ပါတကား၊ ငါ၏ အတ္တ မဟုတ်ပါတကား' လို့ ဝိပဿနာဉာဏ်နဲ့ ရှုမှတ်ရမယ်၊ ဒီလို ရှုမှတ်လိုက်ရင် ဝါယောဓာတ်အပေါ်မှာလည်း ငြီးငွေ့ပြီး တွယ်တာ တပ်မက်မှုတွေ ကင်းသွားလိမ့်မယ်။

ချစ်သား ရာဟုလာ... နောက်ပြီး ထိတွေ့ ကိုင်တွယ်လို့လည်း မရ၊ ရေးခြစ်လို့လည်း မရ၊ ဟာလာဟင်းလင်း လေဟာနယ် ကွက်လပ်သဘောရှိတဲ့ အာကာသဓာတ် ဆိုတာလည်း ရှိသေးတယ်။ ဒီ အာကာသဓာတ်ဟာလည်း ကိုယ်တွင်း အာကာသဓာတ်၊ ကိုယ်ပ အာကာသဓာတ်ဆိုပြီး နှစ်မျိုးပါပဲ။

ကိုယ်တွင်း အာကာသဓာတ် ဆိုတာက -

- နားပေါက်၊



- နှာခေါင်းပေါက်၊
- ခံတွင်းပေါက်၊
- အစာမျိုချရာ လည်ချောင်း၊
- အစာတည်နေရာ အစာအိမ်၊
- အစာဟောင်းစွန့်ရာ ဒွါရပေါက်
- ကျင်ငယ်စွန့်ရာ အပေါက်တွေပဲ ဖြစ်တယ်။

ဒါအပြင် ခန္ဓာကိုယ်တွင်းမှာ ထိတွေ့ ကိုင်တွယ်လို့ မရတဲ့ အခြား ကွက်လပ် လေဟာနယ်တွေကိုလည်း အာကာသဓာတ်လို့ပဲ ခေါ်ပါတယ်၊ မိမိ ကိုယ်တွင်းမှာရှိတဲ့ အာကာသဓာတ်တွေရော၊ ပြင်ပမှာ ရှိတဲ့ အာကာသဓာတ်တွေပါ အားလုံးတို့ဟာ ရေးခြစ် ဆုပ်ကိုင်လို့ မရတဲ့ အာကာသဓာတ်တွေချည်းပါပဲ၊ ဒီ အာကာသဓာတ် မှန်သမျှကိုလည်း 'ငါ၏ ဥစ္စာမဟုတ်ပါတကား၊ ငါ မဟုတ်ပါတကား၊ ငါ၏ အတ္တ မဟုတ်ပါတကား' လို့ ဝိပဿနာဉာဏ်နဲ့ ရှုမှတ်ရမယ်၊ ဒီလို ရှုမှတ်လိုက်ရင် အာကာသဓာတ်မှန်သမျှ အပေါ်မှာလည်း ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ်တွေ ဖြစ်လာပြီး တွယ်တာမှုတွေ၊ လိုချင်တပ်မက်မှုတွေ ကင်းသွားလိမ့်မယ်''

## အကောင်း၊ အဆိုး အာရုံတွေကြောင့် စိတ်မတုန်လှုပ်တဲ့ တာဒိဂုဏ်ရှင်ဖြစ်အောင် ကျင့်နည်း

မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာကို ရုပ်ကမ္မဋ္ဌာန်း အကျယ်ပွားနည်း ဟောပြီးတဲ့နောက် နှစ်သက်မြတ်နိုးစရာကောင်းတဲ့ ဣဋ္ဌာရုံတွေ၊ စက်ဆုပ်စရာ ကောင်းတဲ့ အနိဋ္ဌာရုံတွေက ရှင်ရာဟုလာရဲ့ စိတ်ကို ကိလေသာဖြစ်အောင် မလွှမ်းမိုးနိုင်စေဖို့အတွက် စိတ်ထားနည်း၊ စိတ်ပွားနည်း ငါးမျိုးကို ဆက်ဟောပါတယ်။ အကောင်း၊ အဆိုး အာရုံတွေကြောင့် စိတ်မတုန်လှုပ်တဲ့ တာဒိဂုဏ်နဲ့ ပြည့်စုံသူဖြစ်စေဖို့အတွက် ဟောတာ ဖြစ်ပါတယ်။

(၁) "ချစ်သား ရာဟုလာ… မြေကြီးနဲ့တူစွာ စိတ်ကို ပွားပါ၊ မြေကြီးပေါ်ကို ကောင်းတဲ့အရာတွေလည်း ပစ်ချကြတယ်၊ မကောင်းတဲ့အရာတွေလည်း ပစ်ချကြတယ်၊ ကျင်ကြီးတွေလည်း ပစ်ချကြတာပဲ၊ ကျင်ငယ်တွေ၊ တံတွေးတွေ၊ ပြည်တွေ၊ သွေးတွေစတဲ့ အရာတွေလည်း ပစ်ချကြတာပဲ၊ ဒီလို ပစ်ချတဲ့အတွက်ကြောင့် မြေကြီးမှာ ငြီးငွေ့တယ်၊ ရှက်တယ်၊ စက်ဆုပ်ရွံရှာတယ်ဆိုတာ မရှိဘူး။

ချစ်သား ရာဟုလာ… ဒီဥပမာလိုပဲ မြေကြီးနဲ့တူတဲ့ စိတ်ကို ထားပါ၊ ဒီလို မြေကြီးပမာ စိတ်ထားပွားလိုက်ရင် နှစ်သက်စရာ ကောင်းတဲ့ ဣဋ္ဌအာရုံတွေကရော မုန်းစရာကောင်းတဲ့ အနိဋ္ဌအာရုံတွေကပါ သင့်ကို ကိလေသာ ဖြစ်အောင် မလွှမ်းမိုးနိုင်တော့ဘူး။

(၂) ချစ်သား ရာဟုလာ… ရေနဲ့တူတဲ့ စိတ်ကို ပွားပါ၊ ရေထဲကိုလည်း ကောင်းတဲ့ အရာတွေရော မကောင်းတဲ့ အရာတွေပါ ပစ်ချကြတယ်၊ ကျင်ကြီးတွေလည်း ပစ်ချကြတာပဲ၊ ကျင်ငယ်တွေ၊ တံတွေးတွေ၊ ပြည်တွေ၊ သွေးတွေစတဲ့ အရာတွေလည်း ပစ်ချကြတာပဲ၊ ဒါပေမယ့် ရေက ငါ့အပေါ် ဒီလို စက်ဆုပ်ရွံရှာဖွယ်ရာတွေ ပစ်ချရမလားဆိုပြီး ငြီးငွေ့တာ၊ ရှက်တာ၊ စက်ဆုပ်တယ်ဆိုတာ မရှိဘူး။

ချစ်သား ရာဟုလာ… ဒီဥပမာလိုပဲ သင်ဟာ ရေနဲ့တူတဲ့ စိတ်ကို ထားပါ၊ ဒီလို ရေနဲ့တူတဲ့ စိတ်ထားမျိုး ပွားလိုက်ရင် အကောင်း၊ အဆိုး၊ ချစ်စရာ၊ မုန်းစရာ အာရုံတွေက သင့်ရဲ့စိတ်အစဉ်မှာ ကျေနပ်မှုတွေ၊ မကျေနပ်မှုတွေ ဖြစ်အောင် မလွှမ်းမိုးနိုင်တော့ဘူး။

(၃) ချစ်သား ရာဟုလာ… မီးနဲ့တူတဲ့ စိတ်ကို ပွားပါ၊ မီးဆိုတာ စင်ကြယ်တဲ့အရာတွေကိုလည်း လောင်တာပဲ၊ မစင်ကြယ်တဲ့ အရာတွေကိုလည်း လောင်တာပဲ၊ ကျင်ကြီးတွေ၊ ကျင်ငယ်တွေ၊ တံတွေးတွေ၊ ပြည်တွေ၊ သွေးတွေကိုလည်း လောင်တာပဲ၊ ဒီ့အတွက်ကြောင့် မီးမှာ ငြီးငွေ့တာ၊ ရှက်တာ၊ ရွံရှာတာတွေ မဖြစ်ဘူး။



ချစ်သား ရာဟုလာ… ဒီဥပမာလိုပဲ သင်ဟာ မီးနဲ့တူတဲ့ စိတ်ကို ပွားပါ၊ မီးလို့ ပွားထားရင် အကောင်း၊ အဆိုး အာရုံတွေက သင့်ရဲ့ စိတ်မှာ လောဘ၊ ဒေါသစတဲ့ ကိလေသာတွေ ဖြစ်အောင် မလွှမ်းမိုးနိုင်တော့ဘူး။

(၄) ချစ်သား ရာဟုလာ… လေနဲ့တူတဲ့ စိတ်ကို ပွားပါ၊ လေဟာလည်း ကောင်းတဲ့အရာတွေကိုရော၊ မကောင်းတဲ့အရာတွေကိုပါ တိုက်ခတ်တာပါပဲ၊ မစင်ကျင်ကြီးတွေ၊ ကျင်ငယ်တွေ၊ တံတွေးတွေ၊ သွေးတွေ၊ ပြည်တွေအပေါ်လည်း ဖြတ်သန်းတိုက်ခတ်သွားတာပါပဲ၊ ဒီလို တိုက်ခတ်သွားရတဲ့အတွက်ကြောင့် လေမှာ မကျေမနပ်ဖြစ်တာ၊ စက်ဆုပ်ရွံရှာတာတွေ မဖြစ်ပါဘူး။

ချစ်သား ရာဟုလာ… ဒီဥပမာလိုပဲ လေနဲ့တူတဲ့ စိတ်ကို ပွားများပါ၊ အဲဒီလို ပွားများထားရင် အာရုံမျိုးစုံက သင့်ရဲ့ စိတ်မှာ တပ်မက်မှုတွေ၊ မုန်းတီးမှုတွေ ဖြစ်အောင် မလွှမ်းမိုးနိုင်တော့ဘူး။

(၅) ချစ်သား ရာဟုလာ… လေဟာနယ် ဟာလာဟင်းလင်း ကောင်းကင်ပြင်နဲ့တူတဲ့ စိတ်ကို ပွားပါ၊ ကောင်းကင်ဆိုတာ မြေကြီးပေါ်မှာ တည်မှီနေတာလည်း မဟုတ်ဘူး၊ တောင်တွေအပေါ်မှာ တည်မှီနေတာလည်း မဟုတ်ဘူး၊ သစ်ပင်တွေအပေါ် တည်မှီနေတာလည်း မဟုတ်ဘူး၊ ဘယ်အရာပေါ်မှာမှ တည်နေတာ မဟုတ်ဘူး။

ချစ်သား ရာဟုလာ… သင်လည်း ဒီ ကောင်းကင်ပမာ စိတ်ကို ထားပါ၊ သင့်ရဲ့စိတ်ကို လောဘဖြစ်စရာ ဣဋ္ဌအာရုံအပေါ်မှာလည်း မတည်စေနဲ့၊ ဒေါသဖြစ်စရာ အနိဋ္ဌအာရုံအပေါ်မှာလည်း မတည်စေနဲ့၊ ဒီလို ကောင်းကင်ပမာ စိတ်ကို ကျင့်သုံးပွားများမယ်ဆိုရင် ဒီ အကောင်း၊ အဆိုး အာရုံတွေက သင့်ရဲ့ စိတ်ကို လောဘ၊ ဒေါသ စတဲ့ ကိလေသာတွေ ဖြစ်အောင် မခြယ်လှယ်နိုင်တော့ဘူး"

မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာကို အကောင်း, အဆိုး အာရုံတွေကြောင့် မတုန်လှုပ်တဲ့ တာဒိဂုဏ်နဲ့ ပြည့်စုံအောင် စိတ်ထား

နည်း ငါးမျိုးကို ဟောတော်မူပြီးနောက် တာဒိဂုဏ်နဲ့ ပြည့်စုံစေနိုင်တဲ့ အကြောင်းတရားတွေကို ဆက်ဟောပါတယ်။

ဒီလို ဆက်ဟောရတာကလည်း 'ငါဟာ တာဒိဂုဏ်နဲ့ ပြည့်စုံအောင် နေမယ်' ဆိုပြီး ဒီတိုင်းနေရုံနဲ့တော့ ရတာ မဟုတ်ပါဘူး။ တာဒိဂုဏ်နဲ့ ပြည့်စုံဖို့ အကြောင်းတွေကို ကျင့်မှ ပြည့်စုံမှာ ဖြစ်တယ်။ နောက်ပြီး 'ငါဟာ မျိုးရိုးမြင့်မြတ်သူဖြစ်တယ်၊ ဗဟုသုတတွေနဲ့ ပြည့်စုံသူ ဖြစ်တယ်၊ လာဘ် လာဘ ပေါများသူ ဖြစ်တယ်၊ ငါ့ကို ရှင်ဘုရင်တွေ၊ ဝန်ကြီးတွေက ကိုးကွယ်ကြတယ်၊ ဒါကြောင့် ငါဟာ တာဒိဂုဏ်နဲ့ ပြည့်စုံသူ ဖြစ်တယ်' ဆိုတဲ့ ဒီလိုမျိုး အကြောင်းတွေ ပြည့်စုံရုံနဲ့လည်း တာဒိဂုဏ်နဲ့ ပြည့်စုံသူ ဖြစ်တာ မဟုတ်ပါဘူး။ တာဒိဂုဏ်နဲ့ ပြည့်စုံစေနိုင်တဲ့ ဆိုင်ရာ အကြောင်းတရားတွေကို ကျင့်မှ တာဒိဂုဏ်နဲ့ ပြည့်စုံသူ ဖြစ်မှာပါ။ ဒါကြောင့် မြတ်စွာဘုရားက ရှင်ရာဟုလာကို မြေကြီး၊ ရေ၊ မီး၊ လေ၊ ကောင်းကင်ပမာ တာဒိဂုဏ်နဲ့ ပြည့်စုံသူ ဖြစ်စေကြောင်း တရားတွေကို ဆက်ဟောရတာ ဖြစ်ပါတယ်။ အဲဒီ တရားတွေကတော့ မေတ္တာဘာဝနာ၊ ကရုဏာဘာဝနာ၊ မုဒိတာဘာဝနာ၊ ဥပေက္ခာဘာဝနာ၊ အသုဘဘာဝနာ၊ အနိစ္စသညာဘာဝနာတွေပဲ ဖြစ်ပါတယ်။

**တာဒိဂုဏ်နဲ့ ပြည့်စုံစေကြောင်း တရားကောင်းများ**

"ချစ်သား ရာဟုလာ... မေတ္တာဘာဝနာကို ပွားများပါ၊ မေတ္တာဘာဝနာပွားရင် ဒေါသတွေ ငြိမ်းသွားလိမ့်မယ်။

ကရုဏာဘာဝနာကို ပွားများပါ၊ ကရုဏာဘာဝနာပွားရင် အနိုင်ယူလိုမှုတွေ၊ ညဉ်းဆဲလိုမှုတွေ ငြိမ်းသွားလိမ့်မယ်။

မုဒိတာဘာဝနာကို ပွားများပါ၊ မုဒိတာဘာဝနာ ပွားရင် သူများကြီးပွားတာတွေအပေါ် မနှစ်မြို့မှုတွေ ငြိမ်းသွားလိမ့်မယ်။



ဥပေက္ခာဘာဝနာကို ပွားများပါ၊ ဥပေက္ခာဘာဝနာ ပွားရင် စိတ်ပင်ပန်း ဆင်းရဲတာတွေ ငြိမ်းသွားလိမ့်မယ်။

အသုဘဘာဝနာကို ပွားများပါ၊ အသုဘဘာဝနာ ပွားရင် ရာဂတွေ ငြိမ်းသွားလိမ့်မယ်။

အနိစ္စသညာဘာဝနာကို ပွားများပါ၊ အနိစ္စသညာ ပွားရင် မမြဲတဲ့သဘောကို သိနားလည်ပြီး မာန်ထောင်မှုတွေ၊ မာနကြီးမှုတွေ ငြိမ်းသွားလိမ့်မယ်"

အခုဟောခဲ့တဲ့ ဘာဝနာ ခြောက်မျိုးကို ပွားများထားရင် မြေကြီး၊ ရေ၊ မီး၊ လေ၊ ကောင်းကင်တွေပမာလို စိတ်ကို ထားနိုင်မှာ ဖြစ်ပြီး အကောင်း၊ အဆိုး ဘယ်လို အာရုံတွေနဲ့ပဲ ကြုံတွေ့ရစေကာမူ လောဘ၊ ဒေါသတွေ မဖြစ်အောင် စိတ်တည်ငြိမ်မှု ရမှာ ဖြစ်ပါတယ်။ ဒါကြောင့် မြတ်စွာဘုရားက ရှင်ရာဟုလာကို မတုန်မလှုပ် နေနိုင်တဲ့ တာဒိဂုဏ်ရှင် ဖြစ်ကြောင်း ဘာဝနာ ခြောက်ပါးကို ဆက်ဟောခဲ့တာ ဖြစ်ပါတယ်။

**အာနာပါနကမ္မဋ္ဌာန်း ပွားများနည်း နဲ့ အကျိုး**

မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာ မမေးတဲ့ ရုပ်ကမ္မဋ္ဌာန်း အကျယ်ပွားနည်း၊ တာဒိဂုဏ်လက္ခဏာနဲ့ တာဒိဂုဏ်နဲ့ ပြည့်စုံကြောင်း ဘာဝနာတွေကို ဟောပြီးလို့ နောက်ဆုံးမှပဲ ရှင်ရာဟုလာ မေးတဲ့ အာနာပါနကမ္မဋ္ဌာန်းပွားနည်းကို ဆက်ဟောခဲ့တာ ဖြစ်ပါတယ်။

အာနာပါနရှုပွားနည်းကို လယ်တီဆရာတော်ဘုရားကြီး စီရင်ခဲ့တဲ့ အာနာပါနဒီပနီမှာ ဘာသာပြန်ဆိုထားတဲ့အတိုင်း အကျဉ်းချုပ် ဖော်ပြပါ့မယ်။ အကျယ်ပွားနည်းကို အာနာပါနဒီပနီမှာ ကြည့်ကြဖို့ တိုက်တွန်းပါတယ်။

"ချစ်သား ရာဟုလာ... အာနာပါနကမ္မဋ္ဌာန်းပွားများမယ့်သူဟာ တောမှာဖြစ်ဖြစ်၊ သစ်ပင်ရင်းမှာဖြစ်ဖြစ်၊ ဆိတ်ငြိမ်တဲ့ တစ်နေရာရာ

မှာ ဖြစ်ဖြစ် တင်ပျဉ်ခွေ ထိုင်လိုက်ပါ၊ နောက်ပြီး အပေါ်ပိုင်း ခန္ဓာကိုယ်ကို ဖြောင့်ဖြောင့်မတ်မတ်ထားပြီး စိတ်ကို နှာသီးဖျားမှာ စိုက်ထားပါ”

**အာနာပါနပွားများသူတိုင်း စတင်အားထုတ်ရမည့် ပထမ လေးနည်း ခေါ် ပထမစတုက္က**

* “ထက်ဝယ်တင်ပျဉ်ခွေ ထိုင်နေပြီးတဲ့ ယောဂီဟာ သတိမလွတ်စေဘဲ ထွက်သက်ကို ဖြစ်စေရမယ်၊ သတိမလွတ်စေဘဲ ဝင်သက်ကို ဖြစ်စေရမယ်။
* ထွက်သက်၊ ဝင်သက်ကို ရှည်ရင် ရှည်တယ်၊ တိုရင် တိုတယ်လို့ သိအောင် အားထုတ်ရမယ်။
* ထွက်သက်၊ ဝင်သက်တို့ကို အစ၊ အလယ်၊ အဆုံး သုံးပါးလုံး ထင်လင်းအောင် အားထုတ်ရမယ်။
* ရှန့်ရှင်းကြမ်းတမ်းနေတဲ့ ထွက်သက်၊ ဝင်သက်တို့ကို အစဉ်အတိုင်း ချုပ်ငြိမ်းစေပြီး သိမ်မွေ့သွားအောင် အားထုတ်ရမယ်”

**ဆောင်ပုဒ်**။ ။ သတိမြဲရာ, ပထမာ၊ ဒု မှာ ရှည်, တို သိ။
လုံးစုံလင်းရာ, တ ၌ သာ၊ စ မှာ ငြိမ်းစေဘိ။

**ဒုတိယ လေးနည်း ခေါ် ဒုတိယစတုက္က (ဈာန်အဆင့်ဆင့်ရပုံ)**

* “ပထမဈာန် ပီတိ၊ ဒုတိယဈာန်ပီတိကို ထင်ရှားစေပြီး ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်၊
* တတိယဈာန် သုခကို ထင်ရှားစေပြီး ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* စတုတ္ထဈာန် ဥပေက္ခာဝေဒနာ ခေါ် စိတ္တသင်္ခါရကို ထင်ရှားစေပြီး ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* ကြမ်းတမ်းတဲ့ ဝေဒနာ၊ သညာ စတဲ့ စိတ္တသင်္ခါရကို အဆင့်ဆင့် ချုပ်ငြိမ်းစေပြီး ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်”



**တတိယ လေးနည်း ခေါ် တတိယစတုက္က (ဈာန်ဝင်စားပုံ)**

* “ဈာန်စိတ်ကို ထင်ရှားစေပြီး ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* ပီတိနဲ့ယှဉ်တဲ့ ပထမဈာန်၊ ဒုတိယဈာန်ကို ဝင်စားခြင်းဖြင့် စိတ်ကို အထူးရွှင်လန်းစေလျက် ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* တတိယဈာန်၊ စတုတ္ထဈာန်ဝင်စားခြင်းဖြင့် စိတ်ကို အထူးတည်ကြည်စေလျက် ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* ဈာန် လေးပါးလုံးကို အဖန်ဖန် ဝင်စားခြင်းဖြင့် ဆန့်ကျင်ဘက် နီဝရဏတရားတို့မှ လွတ်စေလျက် ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်”

**စတုတ္ထ လေးနည်း ခေါ် စတုတ္ထ စတုက္က (အာနာပါနမှ ဝိပဿနာသို့ ကူးပုံ)**

* “အနိစ္စသဘောကို အဖန်ဖန်ရှုလျက် ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* ပျောက်ကင်းမှု သဘောကို အဖန်ဖန်ရှုလျက် ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* ချုပ်ကွယ်မှု သဘောကို အဖန်ဖန်ရှုလျက် ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။
* တစ်ဖန် စွန့်ပစ်မှုကို အဖန်ဖန် ရှုလျက် ထွက်သက်၊ ဝင်သက်ကို ဖြစ်စေရမယ်။

ချစ်သား ရာဟုလာ··· အာနာပါနဿတိ ဘာဝနာကို ကြိမ်ဖန်များစွာ ပွားများ အားထုတ်ထားမယ်ဆိုရင် တစ်ဘဝတာ နောက်ဆုံး ထွက်သက်၊ ဝင်သက် ချုပ်ငြိမ်းတာကိုတောင် ထင်ထင်

ရှားရှား သိတယ်၊ ထင်ထင်ရှားရှား မသိဘဲ ချုပ်ငြိမ်းသွားတယ် ဆိုတာ မရှိဘူး”

ဒါကတော့ မဟာရာဟုလောဝါဒသုတ်ပဲ ဖြစ်ပါတယ်။

---------------

ဒီနောက်မှာတော့ မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာ အသက် ၂၀-ပြည့်လို့ ရဟန်းဖြစ်ပြီးစ အချိန်မှာ အရှင်ရာဟုလာရဲ့ ဉာဏ်ပညာ ရင့်ကျက်လာတာကို သိတော်မူတာနဲ့ ရဟန္တာဖြစ်စေဖို့ အတွက် စူဠရာဟုလောဝါဒသုတ်ကို ဟောခဲ့ပါတယ်။ ဒီသုတ်ကို ဥပရိပဏ္ဏာသပါဠိတော်မှာ မှတ်တမ်းတင်ထားပါတယ်။ အကျဉ်းချုပ် ဖော်ပြပါ့မယ်။

မြတ်စွာဘုရားရှင်ဟာ ရှင်ရာဟုလာ ရဟန်းဖြစ်ပြီးစ အချိန်မှာ အရှင်ရာဟုလာကို သာဝတ္ထိပြည်အနီးက အန္ဓဝန်တောအုပ်ထဲ ခေါ်သွားပြီး ဖော်ပြပါအတိုင်း တရား အမေး၊ အဖြေ ပြုလုပ်တဲ့နည်းနဲ့ တရားဟောခဲ့ပါတယ်။ မြတ်စွာဘုရားက မေးပြီး၊ ရှင်ရာဟုလာက ဖြေခဲ့ပါတယ်။

**(မေး)** ချစ်သား ရာဟုလာ… မျက်စိရုပ်ဟာ မြဲတဲ့တရားလား၊ မမြဲတဲ့ တရားလား။

**(ဖြေ)** မြတ်စွာဘုရား…မျက်စိရုပ်ဟာ မမြဲတဲ့တရား ဖြစ်ပါတယ် ဘုရား။

**(မေး)** မမြဲတဲ့ ဒီ မျက်စိရုပ်ဟာ ဆင်းရဲတဲ့ တရားလား၊ ချမ်းသာတဲ့ တရားလား။

**(ဖြေ)** ဆင်းရဲတဲ့ တရား ဖြစ်ပါတယ် ဘုရား။

**(မေး)** မမြဲ၊ ဆင်းရဲ၊ ဖောက်ပြန်တတ်တဲ့ မျက်စိရုပ်ကို ‘ဒီမျက်စိရုပ်ဟာ ငါ၏ ဥစ္စာပဲ၊ ဒီ မျက်စိရုပ်ဟာ ငါပဲ၊ ဒီမျက်စိရုပ်ဟာ ငါ၏ အတ္တကောင်လေးပဲ’ လို့ နှလုံးသွင်းဖို့ သင့်ပါရဲ့လား။

**(ဖြေ)** မသင့်ပါ ဘုရား။



မျက်စိရုပ်နဲ့ ပတ်သက်ပြီး အမေး၊ အဖြေပြုပြီးတဲ့နောက် မြတ်စွာဘုရားရှင်ဟာ -

* မျက်စိရုပ်မှာ လာထင်တဲ့ အဆင်းမျိုးစုံ ရူပါရုံ၊
* မျက်စိရုပ်နဲ့ အဆင်းအာရုံ ဆုံလိုက်လို့ ဖြစ်ပေါ်လာတဲ့ မြင်စိတ်၊
* မျက်စိ၊ အဆင်း၊ မြင်စိတ် သုံးမျိုး ဆုံတွေ့မှုကြောင့် ဖြစ်ပေါ်လာတဲ့ ဖဿ၊
* ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ ခံစားမှု၊ မှတ်သားမှု၊ စေ့ဆော်မှု၊ သိမှု ဆိုတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် တရားတွေကိုလည်း မျက်စိရုပ်ကို မေးတဲ့အတိုင်း မေးတော်မူခဲ့ပြီး ရှင်ရာဟုလာကလည်း မျက်စိရုပ်မှာ ဖြေခဲ့တဲ့အတိုင်း ဖြေခဲ့ပါတယ်။

ဒီနောက် ဆက်ပြီး ကြားမှုနဲ့ ပတ်သက်တဲ့ -

* နားရုပ်၊
* အသံ - သဒ္ဒါရုံ၊
* ကြားစိတ်၊
* အသံ အာရုံနဲ့ ကြားစိတ်ကို တွေ့ပေးတဲ့သဘော ဖြစ်တဲ့ ဖဿ၊
* ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ တရားတွေ၊

နံမှု နဲ့ ပတ်သက်တဲ့ -

* နှာခေါင်းရုပ်၊
* အနံ့ - ဂန္ဓာရုံ၊
* နံစိတ်၊
* အနံ့ နဲ့ နံစိတ်ကို တွေ့ပေးတဲ့သဘော - ဖဿ၊
* ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ဝိညာဏ် ဆိုတဲ့ တရားတွေ

စားမှုနဲ့ ပတ်သက်တဲ့ -

* လျှာရုပ်၊
* အရသာ - ရသာရုံ၊
* စားစိတ်၊
* ရသာရုံနဲ့ စားစိတ်ကို တွေ့ပေးတဲ့သဘော - ဖဿ၊
* ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ တရားတွေ

ထိတွေ့မှုနဲ့ ပတ်သက်တဲ့ -

* ကိုယ်ရုပ်၊
* အတွေ့ ဖောဋ္ဌဗ္ဗာရုံ၊
* ထိစိတ်၊
* ဖောဋ္ဌဗ္ဗာရုံ နဲ့ ထိစိတ်ကို တွေ့ပေးတဲ့ သဘော - ဖဿ၊
* ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ တရားတွေ

သိမှုနဲ့ ပတ်သက်တဲ့ -

* ဘဝင် မနော အကြည်ဓာတ်၊
* အာရုံမျိုးစုံ ဓမ္မာရုံ၊
* တွေးကြံသိစိတ်၊
* ဓမ္မာရုံ အဖုံဖုံနဲ့ တွေးကြံသိစိတ်ကို ထိတွေ့ပေးတဲ့ - ဖဿ၊
* ဖဿကြောင့် ဖြစ်ပေါ်လာတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ဆိုတဲ့ တရားတွေ အားလုံးကို မျက်စိရုပ်ကို အမေး၊ အဖြေ ပြုလုပ်တဲ့ အတိုင်း ဆက်ပြီး အမေး၊ အဖြေ ပြုလုပ်တော်မူခဲ့ကြပါတယ်။



ဆက်ပြီး မြတ်စွာဘုရားက "ချစ်သား ရာဟုလာ... ခု ဖော်ပြခဲ့တဲ့ တရားတွေရဲ့ မမြဲတဲ့ သဘော၊ ဆင်းရဲတဲ့ သဘော၊ ဖောက်ပြန်တတ်တဲ့ သဘောကို ဉာဏ်နဲ့ သိမြင်ပြီး 'ဒီတရားတွေဟာ ငါ၏ ဥစ္စာ မဟုတ်ပါတကား၊ ငါ မဟုတ်ပါတကား၊ ငါ၏ အတ္တ မဟုတ်ပါတကား' လို့ ကြိမ်ဖန်များစွာ ရှုပွားနေမယ်ဆိုရင် ဒီတရားတွေအပေါ်မှာ ငြီးငွေ့တဲ့ နိဗ္ဗိန္ဒာဉာဏ်တွေ ထင်လာမယ်၊ ငြီးငွေ့ဖန်များလာရင် တပ်မက်ခြင်း ကင်းလာမယ်၊ တပ်မက်မှုတွေ ကင်းလာတာနဲ့ အမျှ ကိလေသာတွေကနေ လွတ်မြောက်လာမယ်၊ အဲဒီလို ကိလေသာတွေကနေ စိတ်ဟာ လွတ်မြောက်လာပြီဆိုရင် 'ငါဟာ ကိလေသာတွေကနေ လွတ်မြောက်သူ ဖြစ်သွားပြီ' ဆိုတာ ကိုယ်တိုင် ဉာဏ်နဲ့ သိလာလိမ့်မယ်" လို့ ဟောတော်မူပြီး ဒေသနာတော်ကို အဆုံးသတ်လိုက်ပါတယ်။

အရှင်ရာဟုလာလည်း မြတ်စွာဘုရားရှင် မေးတော်မူတိုင်း မေးတော်မူတိုင်း ကိုယ်ပိုင် အားထုတ်ထားတဲ့ အသိဉာဏ်နဲ့ ဖြေတော်မူခဲ့ပါတယ်။ မြတ်စွာဘုရားတရားဟောတာကို နားနဲ့ သေချာဂရုစိုက် နားထောင်ပြီး ဉာဏ်က ခန္ဓာဖြစ်ပျက်ကို ရှုမှတ်နေတဲ့အတွက် တရားဒေသနာတော် အဆုံးမှာပဲ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

---------------------------

## (၂) အရှင်ရဋ္ဌပါလမထေရ်နဲ့ ဆက်စပ်သည့် တရားတော်အပိုင်း

အရှင်မြတ်နဲ့ ဆက်စပ်တဲ့ မှတ်သားဖွယ်ရာ တရားတော်ကို မဇ္ဈိမနိကာယ်၊ မဇ္ဈိမပဏ္ဏာသ ပါဠိတော်ကနေ ကောက်နုတ်ပြီး ဖော်ပြပါ့မယ်။

အရှင်ရဋ္ဌပါလမထေရ် ရဟန္တာဖြစ်ပြီးနောက် မြတ်စွာဘုရားထံ ခွင့်ပန်ကာ မိဘတွေကို တွေ့ဖို့ မွေးရပ်ဇာတိဖြစ်တဲ့ ကုရုတိုင်းကို

ပြန်ကြွခဲ့ပါတယ်။ ထုလ္လကောဋ္ဌိကနိဂုံးရွာရောက်လို့ အိမ်စဉ်ဆွမ်းခံရင်းက မိဘတွေအိမ်ရှေ့ ရောက်ခဲ့ပါတယ်။ ကျွန်မတစ်ယောက်က ညစာအကျန်တွေကို အမှိုက်ပုံမှာ သွန်ပစ်ဖို့ အပြင်ထွက်လာခိုက်နဲ့ ကြုံလို့ အရှင်ရဋ္ဌပါလက သွန်ပစ်မယ့်အစာ ဖြစ်တယ်ဆိုရင် သူ့သပိတ်ထဲ လောင်းပါလို့ ပြောလိုက်ပါတယ်။ ဒီအခါ ကျွန်မက အရှင်ရဋ္ဌပါလရဲ့ သပိတ်ထဲ လောင်းရင်းက လက်တွေ၊ ခြေတွေ မြင်လိုက်တာနဲ့ သူ့ရဲ့ အရှင်သခင် ရဋ္ဌပါလသူဌေးသားမှန်း မှတ်မိသွားပါတယ်။ အရှင်ရဋ္ဌပါလဟာ အဲဒီနေ့မှာ ဘယ်အိမ်ကမှ ဆွမ်းမရတာနဲ့ သူ့အိမ်က ကျွန်မ လောင်းလိုက်တဲ့ ထမင်းသိုးတွေကိုပဲ ရွာ့ပြင်ဇရပ်ပေါ်မှာ ဉာဏ်နဲ့ ဆင်ခြင်ပြီး ဘုဉ်းပေးနေပါတယ်။

ကျွန်မလည်း သူ့သခင်ဖြစ်တဲ့ သူဌေးကြီးလင်မယားထံ ရဋ္ဌပါလသူဌေးသား ရဟန်း ပြန်ရောက်နေပြီ ဖြစ်ကြောင်း အားရဝမ်းသာ ပြောဆိုလိုက်ပါတယ်။ ဒီအခါ သူဌေးကြီးဟာ ကပျာကယာ လိုက်သွားပြီး ရွာ့ပြင်ဘက် ဇရပ်ပေါ်မှာ နံရံမှီပြီး ထမင်းသိုးတွေ စားနေတဲ့ သားဖြစ်သူကို ကြည့်ပြီး စိတ်မကောင်းတွေ ဖြစ်ကာ အိမ်မှာ လိုက်ပြီး ဆွမ်းဘုဉ်းပေးဖို့ ပင့်ပါတယ်။ အရှင်ရဋ္ဌပါလက ဒီနေ့အတွက်တော့ ဆွမ်းကိစ္စ ပြည့်စုံပြီ ဖြစ်တဲ့အကြောင်း ပြန်မိန့်လို့ သူဌေးကြီးက နောက်တစ်နေ့ ဆွမ်းကို အိမ်ကြွပြီး ဘုဉ်းပေးဖို့ ပင့်ပါတယ်။ အရှင်ရဋ္ဌပါလလည်း လက်ခံလိုက်ပါတယ်။

နောက်တစ်နေ့ ရောက်တဲ့အခါ သူဌေးကြီး လင်မယားဟာ အိမ်မှာရှိတဲ့ သူတို့ပိုင်ဆိုင်သမျှ ရွှေ၊ ငွေ ပစ္စည်းဥစ္စာတွေကို သေချာပြင်ဆင်ထားပြီး အရှင်ရဋ္ဌပါလရဲ့ ဇနီးဟောင်းကိုလည်း အလှဆုံးဖြစ်အောင် ပြင်ဆင်ထားခိုင်းလိုက်ပါတယ်။ အရှင်ရဋ္ဌပါလ ဆွမ်းစားကြွလာတဲ့အခါ သူဌေးကြီး လင်မယားက ရွှေ၊ ငွေ ပစ္စည်း ဥစ္စာတွေကို ပြပြီး လူထွက်ဖို့ စည်းရုံးပါတော့တယ်။ ပစ္စည်းတွေ ပြပြီး



စည်းရုံးလို့ မရတဲ့အခါ အလှပဆုံး ဖြီးလိမ်းပြင်ဆင်ထားတဲ့ ဇနီးဟောင်းကို စည်းရုံးစေပြန်ပါတယ်။ ဇနီးဟောင်းကလည်း အရှင်ရဋ္ဌပါလရဲ့ ခြေထောက်ကို ဖက်ပြီး လူပြန်ထွက်ဖို့ အမျိုးမျိုး အသနားခံ တောင်းပန်ပြောဆိုပါတယ်။ ဒါပေမယ့် အရှင်မြတ်က ကိလေသာ အာသဝေါကုန်ခန်းပြီးတဲ့ ရဟန္တာဖြစ်တာမို့ လူထွက်လိုတဲ့ စိတ် မဖြစ်ခဲ့ပါဘူး။ အရှင်ရဋ္ဌပါလက သူ့ရဲ့ ခမည်းတော်နဲ့ မယ်တော်တွေကို ဥစ္စာပစ္စည်းတွေ၊ မိန်းမတွေ ပြပြီး သူ့ကို မညဉ်းဆဲပါနဲ့၊ ဆွမ်းကပ်မှာဆိုရင်လည်း ကပ်ပါလို့ မိန့်လိုက်မှပဲ သူဌေးကြီး လင်မယားက ဆွမ်းဆက်ကပ်ပါတယ်။

အရှင်ရဋ္ဌပါလဟာ ဆွမ်းဘုဉ်းပေးပြီးတဲ့နောက် မိဘများကို တရားဟောကာ ကောင်းကင်ခရီးနဲ့ ကောရဗျရှင်ဘုရင်ရဲ့ ဥယျာဉ်တော်ကို ကြွသွားပြီး သစ်ပင်တစ်ပင်အောက်မှာ တရားနှလုံးသွင်းကာ နေ့သန့်စင်တော်မူခဲ့ပါတယ်။

## **ကောရဗျဘုရင် အရှင်ရဋ္ဌပါလကို လာရောက်တွေ့ဆုံ မေးမြန်းပုံ**

အဲဒီအချိန်က ကုရုတိုင်းကို အုပ်ချုပ် မင်းလုပ်နေတာက ကောရဗျ ရှင်ဘုရင် ဖြစ်ပါတယ်။ ဘုရင် ကောရဗျဟာ ရဋ္ဌပါလသူဌေးသား ရဟန်းပြုသွားတာနဲ့ ပတ်သက်ပြီး အတော်လေးကို အံ့ဩနေပြီး ငယ်ငယ်ရွယ်ရွယ်နဲ့ ဘာလို့ ရဟန်းပြုသွားတာလဲ ဆိုတာကိုလည်း သိချင်နေတာပါ။

အရှင်ရဋ္ဌပါလ ဘုရင့်ဥယျာဉ်မှာ ရောက်ရှိနေကြောင်း ကြားကြားချင်းပဲ ကောရဗျ ရှင်ဘုရင်ဟာ အရှင်ရဋ္ဌပါလဆီ သွားပြီး သူသိချင်နေတဲ့ အကြောင်းအရာကို ခုလို မေးမြန်းပါတော့တယ်။

"အရှင်ဘုရား ရဋ္ဌပါလ... လောကမှာ လူတွေဟာ ပါရိဇုည - ပျက်စီးခြင်း လေးမျိုးနဲ့ ကြုံမှ ရဟန်းဝတ်ကြတယ် လို့ ကြားဖူးတယ်။

၁။ ဇရာပါရိဇုည - အသက်ကြီး အိုမင်းလို့ ပျက်စီးခြင်း၊

၂။ ဗျာဓိပါရိဇုည - အနာရောဂါ ဖိစီးနှိပ်စက်လို့ ပျက်စီးခြင်း၊

၃။ ဘောဂပါရိဇုည - ပစ္စည်းဥစ္စာ ကုန်ခန်းပျက်စီးခြင်း၊

၄။ ဉာတိပါရိဇုည - ဆွေမျိုးတွေ ပျက်စီးခြင်း။

ဒီ ပျက်စီးခြင်း လေးမျိုးတွေနဲ့ တွေ့ကြုံမှ အားကိုးရာ မရှိတော့လို့ ရဟန်းပြုကြပါတယ်။ ခုတော့ အရှင်ဘုရားက အသက်လည်း မကြီးသေး၊ ခုမှ ပဌမအရွယ် နုနယ်တုန်းပဲ ရှိပါသေးတယ်။ နောက်ပြီး ရောဂါဝေဒနာ ဖိစီးနှိပ်စက်တာလည်း မရှိ၊ ပကတိ ကျန်းမာနေတုန်းပဲ၊ ပစ္စည်းဥစ္စာ ဆိုတာကလည်း အရှင်ဘုရားတို့မှာ သုံးမကုန်အောင် ပေါများချမ်းသာ ကြွယ်ဝပါတယ်၊ နောက်ဆုံး ဆွေမျိုးတွေဆိုတာကလည်း အရှင်ဘုရားတို့မှာ အသိုင်းအဝိုင်း အဆွေအမျိုးတွေ များပြားလှပါတယ်ဘုရား၊ ဒါနဲ့များ ဘာဖြစ်လို့ အရှင်ဘုရားဟာ ရဟန်းဝတ်သွားရတာလဲ သိချင်ပါတယ် ဘုရား" လို့ မေးမြန်းလျှောက်ထားပါတယ်။

## တရားလမ်းညွှန် - ဓမ္မုဒ္ဒေသ လေးမျိုး

ဒီအခါ အရှင်ရဋ္ဌပါလက ကောရဗျ ရှင်ဘုရင်ကို "အို··· မင်းမြတ်၊ ငါတို့ မြတ်စွာဘုရားက တရားလမ်းညွှန်စကား လေးမျိုးကို ဟောထားတယ်၊ ငါဟာ ဒီ တရားလမ်းညွှန် စကားလေးမျိုးကို ကြားနာ သိမြင် သဘောပေါက်ပြီးတာနဲ့ ခုလို ရဟန်းဝတ်လိုက်တာ ဖြစ်တယ်။

အဲဒီ တရားလမ်းညွှန်စကား လေးမျိုးက -

၁။ ဥပနိယျတိ လောကော အဒ္ဓုဝေါ ။

လောကမှာ ရှိတဲ့ သတ္တဝါတွေဟာ အိုမည့်ဘက်၊ နာမည့်ဘက်၊ သေမည့်ဘက်သို့ပဲ သွားနေကြတယ်၊ မအို မနာ မသေဘဲ အမြဲတည်နေတဲ့သူဆိုတာ တစ်ဦးတစ်ယောက်မျှ မရှိ။



၂။ အတာဏော လောကော အနဘိဿရော။

တကယ့် အိုနာသေ ဒုက္ခနဲ့ ကြုံလာပြီ ဆိုရင် သတ္တဝါတွေမှာ အားကိုးစရာ မရှိ၊ အစိုးရသူ မရှိ။

၃။ အဿကော လောကော သဗ္ဗံ ပဟာယ ဂမနီယံ။

သတ္တဝါတွေမှာ ကိုယ်ပိုင်ဥစ္စာဆိုလို့ တစ်ခုမှ မရှိ၊ သေရင် အကုန်ထားခဲ့ပြီး တမလွန်ခရီး သွားရမှာချည်း ဖြစ်တယ်။

၄။ ဦနော လောကော အတိတ္တော တဏှာဒါသော။

သတ္တဝါတွေဟာ အမြဲ လိုအပ်လျက် ရှိနေကြတယ်၊ ဘယ်တော့မှ တင်းတိမ်ရောင့်ရဲနိုင်တယ် လို့လည်း မရှိ၊ တဏှာခိုင်းတာ လုပ်နေရတဲ့ တဏှာ့ကျွန်တွေချည်း ဖြစ်တယ်။

အို··· မင်းမြတ် မြတ်စွာဘုရားက ဒီ တရားလမ်းညွှန်စကား လေးမျိုးကို ဟောကြားခဲ့တယ်၊ ငါဟာ ဒီ တရားကို ကြားနာ သိမြင် သဘောပေါက်ပြီးတဲ့နောက် အိုနာသေက လွတ်ဖို့၊ အားကိုးစရာ ရဖို့၊ ကိုယ်ပိုင်ဥစ္စာရဖို့နဲ့ တဏှာ့ကျွန်ဘဝကနေ လွတ်မြောက်ဖို့အတွက် ခုလို ငယ်ငယ်ရွယ်ရွယ်မှာပဲ ရဟန်းပြုခဲ့တာ ဖြစ်တယ်" လို့ ရှင်းပြဖြေကြားတော်မူပါတယ်။

ဒီ တရားလမ်းညွှန်စကား လေးမျိုးကို မှတ်သားလို့ လွယ်အောင် မဟာစည်ဆရာတော်ကြီးက အောက်ပါအတိုင်း လင်္ကာစာပိုဒ်လေးပိုဒ် သီကုံးထားခဲ့ပါတယ်။

၁။ အို နာ သေသို့၊ မောင်းနှင်ပို့၊ လူတို့ မမြဲပါတကား။

၂။ စောင့်ရှောက်သူမဲ့၊ ကိုးရာမဲ့၊ အားနွဲ့လှချေပါတကား။

၃။ ကိုယ်ပိုင်ဥစ္စာ၊ မရှိပါ၊ စွန့်ကာ သွားရမှာပါတကား။

၄။ လိုမပြည့်ဝ၊ အားမရ၊ တဏှာ့ကျွန်ချည်းပါတကား။

## တရားလမ်းညွှန်စကား လေးမျိုး အကျယ်အဓိပ္ပာယ်

### ပထမ ဓမ္မုလမ်းညွှန်စကား အဓိပ္ပာယ်

အရှင်ရဋ္ဌပါလက ကောရဗျ ရှင်ဘုရင်ကို တရားလမ်းညွှန်စကား လေးမျိုး အကျဉ်းညွှန်ပြပြီးတဲ့အခါ အကျယ်အဓိပ္ပာယ်ကို သိလိုတဲ့အတွက် ကောရဗျဘုရင်က ဆက်လက်ပြီး မေးခွန်းတွေ မေးခဲ့ပါတယ်။

"အရှင်ဘုရား ရဋ္ဌပါလ… 'ဥပနိယျတိ လောကော အဒ္ဓုဝေါ - သတ္တဝါတွေဟာ အိုနာသေဆီသို့ သွားနေတယ်၊ မြဲတဲ့သူဆိုတာ မရှိဘူး' ဆိုတဲ့ ပထမ တရားလမ်းညွှန်စကားရဲ့ အကျယ်အဓိပ္ပာယ်က ဘယ်လိုပါလဲ ဘုရား" လို့ ကောရဗျဘုရင်က မေးပါတယ်။ ဒီအခါ အရှင်ရဋ္ဌပါလက "အို… မင်းမြတ်၊ သင်ဟာ အသက် နှစ်ဆယ်၊ အစိတ်အရွယ်လောက်က ဆင်စီးအတတ်၊ မြင်းစီးအတတ်၊ ရထားစီးအတတ်၊ လေးပစ်အတတ်၊ လှံပစ်အတတ်တွေ တတ်မြောက်ခဲ့တယ် မဟုတ်လား၊ အဲဒီအရွယ်က သင်ဟာ လက်ရုံးအားတွေ၊ ခြေအားတွေကလည်း ကောင်းခဲ့ပြီး စစ်မြေပြင်မှာ ရန်သူနဲ့အပြိုင် ရင်ဆိုင် တိုက်နိုင်ခဲ့တယ် မဟုတ်လား" လို့ ကောရဗျဘုရင်ကို ပြန်မေးလိုက်တယ်။

ကောရဗျ ဘုရင်က "အရှင်ဘုရား…သိပ်မှန်တာပေါ့ ဘုရား၊ အဲဒီ အသက် နှစ်ဆယ်၊ အစိတ်အရွယ်ကဆိုရင် တပည့်တော်ဟာ စစ်ရေးစစ်ရာအတတ်တွေ အကုန်ကျွမ်းကျင်တတ်မြောက်ပြီး တွေ့သမျှ စစ်ပွဲအကုန် နိုင်အောင် တတ်နိုင်ခဲ့ပါတယ်၊ အဲဒီတုန်းကဆိုရင် ကိုယ့်ကိုယ်ကိုယ် တန်ခိုးရှင် တစ်ယောက်လိုတောင် ထင်မိခဲ့တာပါ၊ တပည့်တော်နဲ့ အားအစွမ်းတူတဲ့လူ လောကမှာ ရှိတယ်လို့ကို မထင်ခဲ့ပါ ဘုရား" လို့ ပြန်လည် ဖြေကြားပါတယ်။

ဒီအခါ အရှင်ရဋ္ဌပါလက "အို… မင်းမြတ်၊ ဘယ်လိုလဲ၊ ခုနေအခါ သင့်မှာ အဲဒီလို လက်ရုံးအားတွေ၊ ခြေအားတွေ၊ စစ်မြေပြင်မှာ စစ်ထိုးနိုင်တဲ့ အစွမ်းသတ္တိတွေ ရှိပါသေးသလား" လို့ ထပ်ပြီး



မေးလိုက်တဲ့အတွက် ကောရဗျ ဘုရင်က " အရှင်ဘုရား ရဋ္ဌပါလ… မရှိတော့ပါ ဘုရား၊ တပည့်တော်ဟာ အသက်အရွယ် ကြီးရင့်လို အိုမင်းမစွမ်းတဲ့ ဘဝရဲ့ နောက်ဆုံးအရွယ် ရောက်ခဲ့ပါပြီ ဘုရား၊ အသက် ရှစ်ဆယ် ရှိနေပါပြီ ဘုရား၊ တစ်ခါ တစ်ခါ ဒီနေရာကို ခြေထောက်ချမယ်ဆိုပြီး လှမ်းလိုက်တယ်၊ ကိုယ်လှမ်းတဲ့နေရာ မရောက်ဘဲ ခြေထောက်က ဟိုရောက်ဒီရောက် ဖြစ်နေပါပြီ ဘုရား" လို့ ဖြေကြားခဲ့ပါတယ်။

"အို… မင်းမြတ်၊ ဒီသဘောကို သိတော်မူ မြင်တော်မူလို့ ငါတို့ မြတ်စွာဘုရားက 'ဥပနိယျတိ လောကော အဒ္ဓုဝေါ' ဆိုတဲ့ ပထမတရားလမ်းညွှန်စကားကို မိန့်ကြားတော်မူခဲ့တာ ဖြစ်တယ်၊ ငါဟာ ဒီသဘောကို နာကြား သိမြင် သဘောပေါက်တဲ့အတွက် ရဟန်းဝတ်ခဲ့တာ ဖြစ်တယ်" လို့ အရှင်ရဋ္ဌပါလက ဆက်ပြီး မိန့်လိုက်ပါတယ်။ ဒီအခါ ကောရဗျ ရှင်ဘုရင်က " အရှင်ဘုရား… သိပ်မှန်တာပဲ ဘုရား၊ မြတ်စွာဘုရားဟာ တကယ့်ကို သိတော်မူ မြင်တော်မူပါပေတယ် ဘုရား၊ မြတ်စွာဘုရား ဟောတဲ့ ဒီ ပထမတရားလမ်းညွှန်စကားဟာလည်း တကယ့်ကို သုဘာသိတ - ကောင်းစွာ မိန့်တော်မူအပ်တဲ့ စကားတော် ဖြစ်ပါတယ် ဘုရား၊ အရှင်ဘုရား… လောကမှာ ရှိတဲ့ သတ္တဝါ မှန်သမျှ အချိန်တိုင်း အချိန်တိုင်း အိုမည့်ဘက်၊ နာမည့်ဘက်၊ သေမည့်ဘက်ကိုပဲ သွားနေကြတာပါ ဘုရား" လို့ သဘောကျကျေနပ်စွာနဲ့ ဝမ်းမြောက်ဝမ်းသာ လျှောက်ထားခဲ့ပါတယ်။

### ဒုတိယဓမ္မုလမ်းညွှန်စကား အဓိပ္ပာယ်

ဆက်လက်ပြီး ကောရဗျ ရှင်ဘုရင်က ဒုတိယလမ်းညွှန်စကားနဲ့ ပတ်သက်ပြီး "အရှင်ဘုရား… တပည့်တော်မှာ ဆင်တပ်တွေ၊ မြင်းတပ်တွေ၊ ရထားတပ်တွေ၊ ခြေလျင်တပ်တွေ ရှိပါတယ် ဘုရား၊ ဘယ်လို ရန်သူမျိုးကို မဆို တိုက်နိုင်ပြီး တပည့်တော်တို့ကို

လုံခြုံအောင် ကာကွယ်ပေးနိုင်ပါတယ် ဘုရား၊ အရှင်ဘုရား မိန့်တဲ့ 'အတာဏော လောကော အနဘိဿရော - စောင့်ရှောက်ပေးမည့်သူ၊ ကာကွယ်ပေးမည့်သူ၊ အစိုးရသူ မရှိ' ဆိုတဲ့ ဒီစကားကို တပည့်တော် သိပ်သဘောမပေါက် ဖြစ်နေပါတယ်၊ အကျယ်ရှင်းပြပါဦး ဘုရား'' လို့ မေးမြန်းခဲ့ပါတယ်။

ဒီအခါ အရှင်ရဋ္ဌပါလက ''အို… မင်းမြတ်၊ သင့်မှာ တစ်ခါတစ်လေ သေလုမြောပါး ပြင်းထန်တဲ့ ရောဂါဝေဒနာဖြစ်ပြီး သေရာညောင်စောင်း လဲလျောင်းခဲ့ရဖူးတယ် မဟုတ်လား'' လို့ မေးတော့ ကောရဗျဘုရင်က ''အရှင်ဘုရား… တပည့်တော် အဲလို သေလုမြောပါး အပြင်းအထန် ခံစားရတဲ့ ရောဂါဝေဒနာတွေ ဖြစ်ခဲ့ဖူးပါတယ် ဘုရား၊ ဒီအခါ တပည့်တော်ရဲ့ မိဖုရားတွေ၊ သားတွေ၊ သမီးတွေ၊ မိတ်ဆွေသင်္ဂဟတွေ၊ အမတ်တွေ၊ ဝန်ကြီးတွေဟာ တပည့်တော် အိပ်ရာဘေးနားကနေပြီး 'ကောရဗျဘုရင် မကြာခင် သေတော့မယ်၊ ကောရဗျဘုရင် မကြာခင် သေတော့မယ်' ဆိုတဲ့ အတွေးနဲ့ ဝိုင်းအုံကြည့်နေကြတယ် ဘုရား'' လို့ ပြန်လည် ဖြေကြားပါတယ်။

ဒီအခါ အရှင်ရဋ္ဌပါလက ''အို… မင်းမြတ်၊ အဲဒီလို သေကောင်ပေါင်းလဲ ရောဂါဝေဒနာ ပြင်းထန်စွာ ခံစားရတဲ့အခါ ဝိုင်းအုံကြည့်နေကြတဲ့ သား၊ သမီး၊ မိဖုရားစတဲ့ ပုဂ္ဂိုလ်တွေကို 'ငါ့ ရောဂါ ဝေဒနာတွေ သက်သာအောင် သင်တို့ နည်းနည်းစီ မျှဝေပြီး ယူပေးကြ' လို့ဆိုပြီး မျှဝေပေးလို့ ရပါရဲ့လား၊ ဒါမှမဟုတ် သင် ကိုယ်တိုင်ပဲ ရောဂါဝေဒနာတွေကို ကြိတ်မှိတ်ပြီး ခံစားရပါသလား'' လို့ ထပ်ပြီး မေးခွန်းထုတ်လိုက်တဲ့အတွက် ကောရဗျ ဘုရင်က ''အရှင် ဘုရား… ရောဂါဝေဒနာတွေကို သက်သာအောင် အဲဒီလို မျှဝေ ပေးလို့ ဘယ်ရပ့ါမလဲ ဘုရား၊ တပည့်တော်ကိုယ်တိုင်ပဲ ကြိတ်မှိတ်ပြီး ခံစားရတာပေါ့ ဘုရား''လို့ ပြန်လည် ဖြေကြားခဲ့ပါတယ်။



''အို… မင်းမြတ်၊ ဒီလို အိုဘေး၊ နာဘေး၊ သေဘေးကြုံ လာပြီဆိုရင် သတ္တဝါတွေဟာ တစ်ယောက်နဲ့ တစ်ယောက် ဘယ်သူ့ ဘယ်သူမှ မကယ်နိုင်၊ မစောင့်ရှောက်ပေးနိုင်၊ အမိန့်ပေးတားနိုင်တဲ့ အစိုးတရ အာဏာမရှိပုံကို ရည်ရွယ်ပြီး သိတော်မူ မြင်တော်မူတဲ့ ငါတို့ ဘုရားရှင်က 'အတာဏော လောကော အနဘိဿရော' ဆိုတဲ့ ဒုတိယ တရားလမ်းညွှန်စကားကို မိန့်ကြားခဲ့တာ ဖြစ်တယ်၊ ငါဟာ ဒီတရားတော်ကို နာယူ သိမြင် သဘောပေါက်တဲ့အတွက် ရဟန်းဝတ်ခဲ့ရတာ ဖြစ်တယ်'' လို့ ရှင်းပြတဲ့အခါ ကောရဗျဘုရင်က ''အရှင်ဘုရား….ဒီ ဒုတိယ လမ်းညွှန်စကားဟာလည်း သိပ်မှန်တာပဲ ဘုရား၊ တကယ့်ကို သုဘာသိတ-ကောင်းစွာ ဟောထားတဲ့ တရားစကားပါပဲ ဘုရား၊ တကယ့်အရေး တကယ့်ဘေးရောက်လာပြီဆိုရင် သတ္တဝါတွေဟာ တစ်ဦးနဲ့တစ်ဦး ဘယ်လောက် ချစ်ပါတယ်ပဲ ပြော ပြော ကယ်လို့ မရ၊ စောင့်ရှောက်ပေးလို့မရ။ စောင့်ရှောက်မည့်သူ မရှိ၊ ကာကွယ် တားဆီးပေးနိုင်တဲ့ အစိုးရတဲ့ အာဏာရှိသူ မရှိတဲ့ လောက စင်စစ်ဖြစ်ပါတယ်ဘုရား'' လို့ ကျေနပ်စွာနဲ့ လျှောက်ထားခဲ့ ပါတယ်။

## တတိယ ဓမ္မလမ်းညွှန်စကား အဓိပ္ပာယ်

''အရှင်ဘုရား… တပည့်တော်မှာ ပိုင်ဆိုင်တဲ့ မြေပေါ် မြေအောက် ဥစ္စာရတနာတွေ များစွာရှိ ပါတယ်၊ အရှင်ဘုရားပြောတဲ့ 'အဿကော လောကော သဗ္ဗံ ပဟာယ ဂမနီယံ - သတ္တဝါတွေမှာ ကိုယ်ပိုင်ဥစ္စာမရှိ၊ အကုန်ထားပြီး သွားရမှာ ဖြစ်တယ်' ဆိုတဲ့ တတိယ လမ်းညွှန်စကားကို တပည့်တော် စိတ်ထဲမှာ သိပ်မရှင်းမလင်း ဖြစ်နေတယ်၊ ဒီသဘောကို အမြင်ရှင်းအောင် ရှင်းပြပါဦး ဘုရား'' လို့ ဆက်ပြီး လျှောက်ထားခဲ့ပါတယ်။

ဒီအခါ အရှင်ရဋ္ဌပါလက “ အို… မင်းမြတ်၊ သင်ဟာ ခုဘဝမှာ သင်ပိုင်တယ်ဆိုတဲ့ သက်ရှိ သက်မဲ့ ငါးဖြာအာရုံ ကာမဂုဏ်တွေနဲ့ ပြည့်ပြည့်စုံစုံ ပျော်ပျော်ပါးပါး ခံစားပြီး နေသလို ဒီ သက်ရှိ၊ သက်မဲ့ အာရုံတွေကို ယူသွားပြီး နောက်တမလွန်ဘဝမှာ ပျော်ပါးခံစားလို့ ရပါသလား၊ ဒါမှမဟုတ် ခု သင်ပိုင်တဲ့ သက်ရှိ၊ သက်မဲ့အရာတွေကို အခြားသူတွေက သုံးဆောင်ခံစားပြီး သင်ကတော့ ကံအားလျော်စွာ တမလွန်ခရီးကို ဆက်ရမှာလား” လို့ မေးခွန်းထုတ်လိုက်ပါတယ်။ ကောရဗျ ဘုရင်က “အရှင်ဘုရား… တပည့်တော် ခုဘဝပိုင်တဲ့ သုံးဆောင်ခံစားနေရတဲ့ သက်ရှိ၊ သက်မဲ့ ငါးဖြာအာရုံ ကာမဂုဏ်တွေကို နောက်ဘဝယူသွားပြီး ဘယ်ခံစားလို့ ရမှာလဲဘုရား၊ ဒါတွေ အကုန်လုံး ထားခဲ့ရမှာ ဘုရား၊ အခြားသူတွေပဲ သုံးဆောင်ကြမှာပါ ဘုရား၊ တပည့်တော်ကတော့ ကံအတိုင်းပဲ သံသရာခရီး ဆက်ရမှာပါ ဘုရား” လို့ ပြန်လည် ဖြေကြားခဲ့ပါတယ်။

“ဒီသဘောကို သိတော်မူ မြင်တော်မူလို့ ငါတို့ ဘုရားရှင်က ဒီ တတိယ ဓမ္မုဒ္ဒေသ မိန့်ကြားခဲ့တာ ဖြစ်တယ်၊ ငါဟာ ဒီတရားတော်ကို ကြားနာရပြီး သိမြင်သဘောပေါက်နားလည်တဲ့အတွက် ရဟန်းဝတ်ခဲ့တာ ဖြစ်တယ်” လို့ အရှင်ရဋ္ဌပါလက မိန့်ကြားတဲ့အခါ ကောရဗျ ဘုရင်က “အရှင်ဘုရား… ဒီ တတိယလမ်းညွှန် စကားဟာလည်း တကယ့်ကို မှန်တာပါပဲ ဘုရား၊ လောက ဘယ်သူမဆို ကိုယ်ပိုင်ဥစ္စာ ဆိုတာ မရှိပါ၊ ခေတ္တခဏ ဆိုင်ရုံသာ ဆိုင်တာပါ ဘုရား၊ ကွယ်လွန်ကြပြီဆိုရင် အကုန် ထားခဲ့ပြီး ကိုယ့်ကံအတိုင်း နောက်ဘဝ ခရီးဆက်ရမယ့်သူတွေချည်းပါ ဘုရား” လို့ သဘောကျကျေနပ်စွာ ပြန်လည်လျှောက်ထားခဲ့ပါတယ်။

**စတုတ္ထ ဓမ္မလမ်းညွှန်စကား အဓိပ္ပာယ်**

နောက်ဆုံး ဓမ္မလမ်းညွှန်စကားဖြစ်တဲ့ ‘ဦနော လောကော



အတိတ္တော တဏှာဒါသော - လောက သတ္တဝါတွေဟာ အမြဲတမ်းလိုအပ်နေတာပဲ၊ ရောင့်ရဲတင်းတိမ်သွားပြီ ဆိုတာမရှိ၊ တဏှာခိုင်းသမျှ လုပ်နေရတဲ့ တဏှာ့ကျွန်တွေချည်းပဲ’ ဆိုတဲ့ စကားရဲ့ အဓိပ္ပာယ်ကို အကျယ်ရှင်းပြဖို့ ကောရဗျ ဘုရင်က ဆက်ပြီး တောင်းဆိုခဲ့ပါတယ်။

အရှင်ရဋ္ဌပါလက “ အို… မင်းမြတ်၊ သင်ဟာ ခု ပြည့်စုံကြွယ်ဝ ချမ်းသာတဲ့ ကုရုတိုင်းကို အုပ်စိုးနေရတယ် မဟုတ်လား”လို့ မေးလိုက်ပါတယ်။ ဒီအခါ ကောရဗျ ဘုရင်က ဟုတ်မှန်ကြောင်း ဖြေဆိုလို့ အရှင်ရဋ္ဌပါလက ဆက်ပြီး “အို… မင်းမြတ်၊ ခု ငါမေးမည့် မေးခွန်းကို သင် ဘယ်လို သဘော ရပါသလဲ၊ သင်မင်းကြီး ယုံကြည်လောက်တဲ့ လူတစ်ယောက်က အရှေ့အရပ်ကနေ လာပြီး သင်မင်းကြီးရဲ့ တိုင်းပြည်ရဲ့ အရှေ့အရပ်ဒေသမှာ ဆန်ရေစပါးတွေ၊ ရွှေငွေ သယံဇာတတွေ ပေါကြွယ်ဝပြီး အလွယ်တကူ တိုက်ခိုက်သိမ်းပိုက်လို့ ရနိုင်တဲ့ နယ်ပယ်ဒေသတစ်ခု ရှိတယ်ဆိုတဲ့အကြောင်း လာရောက်သံတော်ဦးတင် လျှောက်ထားခဲ့ရင် သင် ဘယ်လို လုပ်မလဲ” လို့ မေးလိုက်ပါတယ်။ ကောရဗျ ဘုရင်က “အရှင်ဘုရား… ဒါဆို တပည့်တော် အဲဒီနယ်ပယ်ဒေသကို တိုက်ခိုက်သိမ်းပိုက်ပြီး တပည့်တော်နိုင်ငံ နယ်နိမိတ်ထဲ ထည့်လိုက်မှာပေါ့ ဘုရား” လို့ သူ့စိတ်ထဲ ရှိတဲ့အတိုင်း ဖြေဆိုခဲ့ပါတယ်။

ဒီအခါ အရှင်ရဋ္ဌပါလက ဆက်ပြီး “အို… မင်းမြတ်၊ ဒါဖြင့် ကောင်းပြီ၊ ဒီ့အတူပဲ အရှင်မင်းကြီး ယုံကြည်ရလောက်တဲ့ အနောက်အရပ်က လူတစ်ယောက်၊ မြောက်အရပ်က လူတစ်ယောက်၊ တောင်အရပ်က လူတစ်ယောက်၊ နောက်ဆုံး သမုဒ္ဒရာတစ်ဖက်ကမ်းက လူတစ်ယောက်ကလည်း အရှင်မင်းကြီးကို သူတို့ နေတဲ့ နယ်ပယ်ဒေသမှာ ပြည့်စုံကြွယ်ဝတဲ့အကြောင်း၊ အလွယ်တကူ သိမ်းပိုက်လို့ ရနိုင်တယ်ဆိုတဲ့အကြောင်း စောစောက လူလို လာပြောခဲ့ရင်ကော

သင် ဘယ်လို လုပ်မလဲ” လို့ ဆက်ပြီး မေးပါတယ်။ ကောရဗျ ဘုရင်က ဒီဒေသတွေ အားလုံးကို သွားရောက်သိမ်းပိုက်မှာဖြစ်တဲ့ အကြောင်း ရိုးသားစွာပဲ ရင်ထဲရှိတဲ့အတိုင်း ဖြေပါတယ်။

အရှင်ရဋ္ဌပါလက “အို… မင်းမြတ်၊ ဒီလို မရောင့်ရဲ မတင်းတိမ်နိုင်တဲ့ သဘောကို သိတော်မူ မြင်တော်မူလို့ ငါတို့ မြတ်စွာဘုရားက ဒီ ‘ဦနော လောကော အတိတ္တော တဏှာဒါသော’ ဆိုတဲ့ စတုတ္ထ လမ်းညွှန် စကားကို ဟောတော်မူခဲ့တာ ဖြစ်တယ်၊ ငါဟာ ဒီတရားတော်ကို နာကြားရပြီး သိမြင် သဘောပေါက်တဲ့အတွက် ရဟန်းပြုခဲ့တာ ဖြစ်တယ်”လို့ ရှင်းပြတော်မူခဲ့ပါတယ်။ ဒီအခါမှာလည်း ကောရဗျ ဘုရင်က “အရှင်ဘုရား… အံ့သြစရာ ကောင်းပါပေတယ်၊ မြတ်စွာဘုရားရှင်ဟာ တကယ့်ကို သိတော်မူ မြင်တော်မူပါပေတယ် ဘုရား၊ ဒီ လမ်းညွှန်စကားဟာလည်း တကယ့်ကို သုဘာသိတ - ကောင်းမွန်စွာ မိန့်ကြားခဲ့တဲ့ အဖိုးတန် လမ်းညွှန် စကားပါ ဘုရား၊ လောကသားတွေဟာ အမြဲတမ်း လိုအပ်နေတဲ့ သူတွေချည်းပါ ဘုရား၊ ငါ့မှာ ပြည့်စုံနေပါပြီဆိုပြီး ရောင့်ရဲတင်းတိမ် နိုင်သူ မရှိပါ ဘုရား၊ အမြဲတမ်း လိုချင်နေတဲ့ တဏှာခိုင်းတာ လုပ်နေ ရတဲ့ တဏှာ့ကျွန်တွေချည်းပါ ဘုရား” လို့ အားရဝမ်းသာ လျှောက်ထားခဲ့ပါတယ်။

အရှင်ရဋ္ဌပါလက ဒီတရားသဘော လေးမျိုး သိမြင်တဲ့ အတွက် ရဟန်းပြုရတာဖြစ်ကြောင်း အကျယ်တဝင့် ရှင်းပြတာကို ကောရဗျဘုရင် သဘောကျ ကျေနပ်နားလည်သွားခဲ့ပါတယ်။ ဒါကတော့ အရှင်ရဋ္ဌပါလမထေရ်နဲ့ ဆက်စပ်တဲ့ မှတ်သားဖွယ်ရာ တရားတော်ပဲ ဖြစ်ပါတယ်။

---------------

နိဂုံးချုပ်အနေနဲ့ အရှင်ရာဟုလာမထေရ်အကြောင်း ကြည်ညို ရတဲ့အတွက် အရိုန်အဝါ ရှိတဲ့ မိဘတွေ၊ ဆရာသမားတွေ အနေနဲ့ မိမိတို့ရဲ့ တပည့်၊ သား၊ သမီးတွေကို မလိမ်တတ်တဲ့သူတွေ ဖြစ်အောင်၊ မာန်မာနမရှိဘဲ ရိုးသားတဲ့ သူတွေဖြစ်အောင်၊ ကိုယ့်အားကိုကိုယ် အားကိုးတတ်တဲ့ အမြင်တွေရအောင် လမ်းမှန်ပြရမှာ ဖြစ်ပါတယ်။



တပည့်၊ သား၊ သမီးတွေအနေနဲ့လည်း မိဘအရှိန်၊ ဆရာသမားအရှိန်ဟာ ကိုယ့်ဟာ မဟုတ်၊ ကိုယ့်အရှိန်အဝါကို ကိုယ် ကိုယ်တိုင်ပဲ မိဘ၊ ဆရာသမားစကားတွေ နားထောင်ပြီး မလိမ်တတ်၊ မညာ တတ်၊ မာန်မာနမရှိ၊ ရိုးသားဖြောင့်မတ်စွာနဲ့ ကြိုးစားယူမှ ရနိုင်မယ်ဆိုတာကို သိမြင်ပြီး ကြိုးစားကြရမှာ ဖြစ်ပါတယ်။

နောက်ပြီး မိမိတို့ ပုထုဇဉ်တွေဟာ သတိလက်လွတ် ဖြစ်သွား တဲ့အခါ မိဘတွေ၊ ဆရာသမားတွေအပေါ် ကံသုံးပါးနဲ့ ပြုမှား၊ ပြောမှား၊ ကြံမှားမိတတ်ကြပါတယ်။ ဒီလို အမှားတွေ မဖြစ်ရလေ အောင် မြတ်စွာဘုရားက ကိုရင်လေး ရာဟုလာကို ဟောကြားဆုံးမ ခဲ့တဲ့အတိုင်း ကျင့်နိုင်အောင် ကြိုးစားသင့်ပါတယ်။

တကယ်လို့ ကာယကံမြောက် ပြုမှား၊ ဝစီကံမြောက် ပြောမှား ခဲ့တာတွေ ရှိခဲ့ရင်လည်း ကိုယ် ပြစ်မှားခဲ့တဲ့ မိဘ၊ ဆရာသမားတွေ အထံမှာ ဖြစ်ဖြစ်၊ ကိုယ်လေးစားတဲ့ ပုဂ္ဂိုလ်တွေထံမှာ ဖြစ်ဖြစ်၊ နောက် ပိတ်ဆုံး မြတ်စွာဘုရား ရုပ်ပွားဆင်းတုတော်ထံမှာဖြစ်ဖြစ် ‘မိမိဟာ ပြုမှား၊ ပြောမှားခဲ့သည်ကို ဝန်ခံပါကြောင်း၊ နောင်ဒါမျိုး မဖြစ်ရအောင် ကောင်းမွန်စွာ စောင့်ထိန်းပါမည် ဖြစ်ကြောင်း’ ဝန်ချ ပြောဆို တောင်းပန် ကတိပေးရမှာ ဖြစ်ပါတယ်။

ဒီလို အပြစ်ကို ဝန်ခံခြင်း၊ နောင်မဖြစ်အောင် စောင့်စည်းပါ မည်ဟု ကတိပေးခြင်းတွေဟာ အရိယာသူတော်ကောင်းတွေရဲ့ ကျင့်ထုံး ဖြစ်ပါတယ်။ အခုလို ဝန်ချ တောင်းပန်၊ ကတိပေးလိုက်ရင် ကြီးတဲ့အပြစ်တွေ သေးငယ်သွားပြီး ငယ်တဲ့အပြစ်တွေ လုံးဝ အကျိုး မပေးတော့ပါဘူး။

ဥပမာအနေနဲ့ အဖသတ်ပြီး ပိတုဃာတကကံ ကျူးလွန်ခဲ့တဲ့ အဇာတသတ်ရှင်ဘုရင်ဟာ ဒီအကုသိုလ်ကံကြောင့် အိပ်မပျော် စားမဝင်ဖြစ်ပြီး နောင်တတွေ နှိပ်စက်တဲ့ဒဏ်နဲ့ ပူလောင်နေရာကနေ မြတ်စွာဘုရားထံ သွားပြီး 'တပည့်တော်ဟာ အဖေကို သတ်ခဲ့မိပါ ကြောင်း၊ အပြစ်တွေ ရှိပါကြောင်း၊ ဒီအပြစ်တွေကို နောင်အခါ စောင့်စည်းနိုင်ရန် အပြစ်အနေနဲ့ လက်ခံတော်မူပါဘုရား၊ သည်းခံ ခွင့်လွှတ်တော်မူပါဘုရား' လို့ လျှောက်ထား တောင်းပန်ခဲ့ပါတယ်။ မြတ်စွာဘုရားကလည်း 'ဒီလို အပြစ်ကို အပြစ်မှန်း သိပြီး ဝန်ချ တောင်းပန်ခြင်း၊ နောင်မဖြစ်အောင် စောင့်ထိန်းပါ့မယ်လို့ ကတိပေး ခြင်းတွေဟာ သူတော်ကောင်းတို့ရဲ့ အဆုံးအမ နယ်ပယ်မှာ ကြီးပွား ကြောင်း ဖြစ်တယ်' လို့ မိန့်တော်မူခဲ့ပါတယ်။ အဲဒီလို ဝန်ချ တောင်းပန် ကတိပြုလိုက်ပြီးတဲ့ နောက်ပိုင်း ဘုရင်အဇာတသတ်ဟာ စိတ်အေးချမ်းသာ အိပ်စက်နိုင်တော့တယ်။ သေပြီးနောက် အဝီစိငရဲ လားရမည့်ဘေးကနေ လွတ်ခဲ့ပြီး သက်တမ်းတိုတဲ့ လောဟကုမ္ဘီ ငရဲငယ်မှာပဲ ခံရတော့တယ်။ ဒီလို ကန်တော့တောင်းပန်တဲ့ အကျိုး ကြောင့် အဲဒီ ငရဲကလွတ်ရင် သူဟာ 'ဝိဇိတာဝီ' အမည်ရှိတဲ့ ပစ္စေကဗုဒ္ဓါ ဖြစ်ပြီး ကျွတ်တမ်းဝင်မှာ ဖြစ်ပါတယ်။

ဒါကြောင့် မပြစ်မှားသင့်တဲ့ ပုဂ္ဂိုလ်တွေအပေါ် ပြုမှား၊ ပြောမှားမိခဲ့ရင်လည်း မာန်မာန မထားဘဲ ဝန်ချတောင်းပန် ကန်တော့ နိုင်တဲ့ပုဂ္ဂိုလ်တွေ ဖြစ်ဖို့ မမေ့သင့်ပါဘူး။

ရှင်ရာဟုလာလောင်း ပထဝိန္ဒရ နဂါးမင်းလို ဆုတောင်း နေရာ မကျခဲ့လို့ မရောက်သင့်တဲ့ ဘုံဌာနရောက်ရတာမျိုး မဖြစ်ရလေ အောင် ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်တွေ ပြုပြီးတဲ့အခါတိုင်း အမြင့်ဆုံး ပန်းတိုင်ဖြစ်တဲ့ ဒုက္ခခပ်သိမ်း ချုပ်ငြိမ်းရာ နိဗ္ဗာန်ကို ဦးတည်ပြီး ဆုတောင်း ပတ္ထနာ ပြုကြရမှာ ဖြစ်ပါတယ်။

အရှင်ရဋ္ဌပါလ မထေရ်ဝတ္ထုကနေ 'ကုသိုလ်ပြုတယ်၊ သီလ၊ သမာဓိ၊ ပညာတရားတွေ ကျင့်ကြံပွားများ အားထုတ်တယ်ဆိုတာ–



- * အို နာ သေ ဒုက္ခတွေက လွတ်ဖို့၊
- * အားကိုးစရာ တရား ရဖို့၊
- * ကိုယ်ပိုင်ဥစ္စာ အစစ်ဖြစ်တဲ့ တရားကို ရဖို့၊
- * တဏှာကျွန်အဖြစ်ကနေ လွတ်မြောက်ဖို့

ဆိုတဲ့ ကောင်းမြတ်တဲ့ ရည်ရွယ်ချက်တွေနဲ့ ပြုကြ၊ ကျင့်ကြ၊ အားထုတ်ကြတာ ဖြစ်တယ်' ဆိုတဲ့ ဓမ္မဒေသနမြင်ထောင့်ကို ရယူကြရမှာပါ။ အရှင်မြတ်ဟာ ဒီလို ရည်ရွယ်ချက်တွေနဲ့ တရားကို ကျင့်ကြံ အားထုတ်ခဲ့တာ ဖြစ်ပါတယ်။ ခန္ဓာရှိတဲ့အတွက် အစား ရှာရသလို သံသရာဒုက္ခတွေ ရှိနေလို့လည်း ဒီဒုက္ခတွေက လွတ်အောင် ကုသိုလ်တရား ရှာရတာ ဖြစ်ပါတယ်။

ဒါကြောင့် သံသရာခရီးသည်တွေ ဖြစ်တဲ့ မိမိတို့မှာ အားခါမှ ကုသိုလ်တရား လုပ်မယ်ဆိုတဲ့ အတွေးကို ဖယ်ထားပြီး နေ့စဉ် ဘဝထဲမှာ ခန္ဓာ့တာဝန်တွေ ထမ်းရင်းပဲ သံသရာဝဋ်က လွတ်မြောက် စေနိုင်တဲ့ ကုသိုလ်တရားတွေ တစ်ခါတည်းရအောင် ကျင့်ကြံပွားများ အားထုတ်ဖို့ အရေးကြီးလှပါတယ်ဆိုတဲ့အကြောင်း အကြံပြုရင်း အရှင်မြတ်နှစ်ပါးအကြောင်းကို နိဂုံးချုပ်လိုက်ပါတယ်။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမအုပ်၊ စာ ၁၉၆။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ စာ ၃၂၇။
၃။ သုတ္တနိပါတပါဠိ၊ စာ ၃၂၉။
၄။ သုတ္တနိပါတအဋ္ဌကထာ၊ ၂။ ၇၆။
၅။ မဇ္ဈိမပဏ္ဏာသပါဠိ၊ စာ ၇၇။ ၈၃။
၆။ မဇ္ဈိမပဏ္ဏာသအဋ္ဌကထာ၊ စာ ၈၉ ၊ ၉၁။ ၉၆။ ၂၄၄။
၇။ ဥပရိပဏ္ဏာသပါဠိတော်၊ စာ ၃၂၄။



### ပထမဦးဆုံး စာရေးတံမဲ နှိုက်ယူသည့်အရာ အထူးဆုံး

### သလာကဂ္ဂါဟက ဧတဒဂ်ရ

## အရှင်ကုဏ္ဍဓာနမထေရ်

လောကလူ့ဘောင်မှာ ကိုယ်က ဘယ်လောက်ပဲ ကောင်းတာတွေ လုပ်နေပါစေ မကောင်းတာ လုပ်တဲ့သူလို့ အထင်ခံရတာ ရှိတတ်စမြဲပါ။ ဘယ်လိုပဲ ရှင်းပြ ရှင်းပြ ကိုယ်ရှင်းပြတာကို လက်မခံတတ်ကြပါဘူး။ ဒီအလို အခြေအနေမျိုး ကြုံလာရင် သူတို့နဲ့ တုဖက်ပြီး ပြန်ရန်လုပ်မလား၊ ဒါမှ မဟုတ် ကိုယ်လျှောက်နေတဲ့ ကောင်းတဲ့လမ်းအတိုင်း သည်းခံပြီး ဆက်သွားမလား၊ ဘယ်လိုလုပ်ရင် အကောင်းဆုံးလဲလို့ စဉ်းစားစရာ ဖြစ်လာပါပြီ။

အဲဒီလို အခြေအနေမျိုးကို မိမိတို့သာ ကြုံရတာမဟုတ်ပါဘူး၊ ပါရမီအရင့်အမာတွေ ဖြစ်တဲ့ ဧတဒဂ်ရ အရှင်မြတ်လောင်းတွေတောင်

ကြုံရတာပါလားဆိုတာ ခု ကြည့်ညိုကြမယ့် အရှင်ကုဏ္ဍဓာန အကြောင်းမှာ တွေ့မြင်ရမှာပါ။ အခုလို စဉ်းစားစရာ အဖြစ်မျိုး ကြုံလာရင် အကောင်းဆုံး ဖြေရှင်းနည်းကို မြတ်စွာဘုရားက အရှင်ကုဏ္ဍဓာနမထေရ်ကို ဆုံးမတဲ့အခန်းမှာ တွေ့ရမှာပါ။

ဒီလို အထင်မြင်လွဲ စွပ်စွဲခံရတဲ့ အခြေအနေမျိုးတွေဟာ တကယ်တော့ အကြောင်းမဲ့ ဖြစ်လာတတ်တာ မဟုတ်ပါဘူး။ အကြောင်းရှိလို့ အကျိုးထင်လာတဲ့သဘောပါ။ ဒီသဘောကိုလည်း ဒီမထေရ်ရဲ့ ဘဝဇာတ်ကြောင်းမှာ သံဝေဂယူ ရှောင်ကြဉ်စရာအဖြစ် မြင်တွေ့ရမှာ ဖြစ်ပါတယ်။

မိုးကုတ်ဆရာတော်ကြီးကတော့ သံသရာက ပါလာတဲ့ ဝဋ်ကြွေးကို ဉာဏ်နဲ့ မဖြတ်ရင် ခန္ဓာနဲ့ ပေးဆပ်ရတတ်တယ်လို့ ဟောပါတယ်။ မိမိတို့ ပုထုဇဉ်တွေဟာ ကိလေသာ ထူပြောသူတွေ ဖြစ်ကြတာမို့ ကိလေသာဝဋ်က အမြဲရှိနေတာပါ၊ ကိလေသာဝဋ် ရှိနေတဲ့အတွက် ကိလေသာခိုင်းတဲ့အတိုင်း ကံတွေကိုလည်း လုပ်ကြရတာမို့ ကမ္မဝဋ်ကလည်း ရှိနေကြပါတယ်။ ကိလေသဝဋ်နဲ့ကမ္မဝဋ် နှစ်ခု ရှိပြီ ဆိုရင်တော့ ဝိပါကဝဋ် ဆိုတဲ့ ဆိုးကျိုး၊ ကောင်းကျိုးတွေဟာ သံသရာလည်နေသရွေ့တော့ အမြဲ တောက်လျှောက် တစ်ခုမဟုတ် တစ်ခု ဖြစ်နေမှာပါပဲ။ ဒါကို ဝဋ်သုံးပါး မပြတ်လည်ပြီး ဒုက္ခဖြစ်စဉ်ကြီး အဆက်မပြတ် ဖြစ်နေတဲ့ ပဋိစ္စသမုပ္ပာဒ်ဖြစ်စဉ်လို့ ခေါ်ပါတယ်။

ဒီလို ဝဋ်သုံးပါးလည်နေတာ ရပ်ပြီး ဝဋ်ကြွေးတွေ ကုန်အောင် ဆိုရင်တော့ ခန္ဓာနဲ့ပဲ ပေးဆပ်သွားလို့ကတော့ မဆုံးနိုင်ပါဘူး။ ဝိပဿနာတရား အားထုတ်ပြီး ဝိပဿနာဉာဏ်နဲ့ ဖြည်းဖြည်းချင်း ပါးအောင် ဖြတ်ပြီးတဲ့အခါ မဂ်ဉာဏ်ဆိုတဲ့ ထူးမြတ်တဲ့ဉာဏ်နဲ့ အမြစ်ပြတ် ပယ်ဖြတ်လိုက်မှပဲ ဝဋ်ကြွေးတွေ ကုန်မှာ ဖြစ်ပါတယ်။ ဒီသဘောကို ရည်ညွှန်းပြီး မိုးကုတ်ဆရာတော်ကြီးက ဟောခဲ့တာ ဖြစ်ပါတယ်။



ဒီလို ဝဋ်ကြွေးကုန်အောင် ဖြတ်နည်းကိုလည်း ဒီ အရှင်ကုဏ္ဍဓာနမထေရ် ဝတ္ထုကပဲ မိမိတို့ကို သတိပေး လမ်းညွှန်နေပါတယ်။

ဒါကြောင့် အဖိုးတန် လိုက်နာကျင့်သုံးစရာ နည်းတွေကို ညွှန်ပြပေးနေတဲ့ အရှင်ကုဏ္ဍဓာန မထေရ်အကြောင်းကို ကြည့်ညိုကြပါစို့။

## အရှင်မြတ်ရတဲ့ ဧတဒဂ် အမိပ္ပာယ်

အရှင်ကုဏ္ဍဓာနမထေရ်ဟာ ပထမဦးဆုံး စာရေးတံမဲ နှိုက်တဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး အမြတ်ဆုံး ဧတဒဂ်ရ အရှင်မြတ် ဖြစ်ပါတယ်။ ဒီဧတဒဂ်ကို 'သလာကဂ္ဂါဟက ဧတဒဂ်' လို့ ခေါ်ပါတယ်။

အရှင်မြတ်ဟာ တစ်ခါမှာတော့ အနာထပိဏ်သူဌေးရဲ့ သမီးဖြစ်တဲ့ မဟာသုဘဒ္ဒါက မြတ်စွာဘုရားကို ဆွမ်းစားပင့်လို့ ဥဂ္ဂမြို့ကို ကြွတဲ့အခါ "ဒီနေ့ မြတ်စွာဘုရားရှင်ဟာ အဝေးကို ဆွမ်းစားကြွမှာ ဖြစ်ပါတယ်၊ ပုထုဇဉ်ရဟန်းတွေဆိုရင် စာရေးတံမဲကို မနှိုက်ပါနဲ့၊ ရဟန္တာဖြစ်တဲ့ ပုဂ္ဂိုလ်ငါးရာသာ မဲနှိုက်ရမှာ ဖြစ်ပါတယ်" လို့ အရှင်အာနန္ဒာက သံဃာတွေကို လျှောက်ထားတယ်ဆိုရင်ပဲ ပထမဦးဆုံး ရဲရဲတောက် ကြုံးဝါးပြီး မဲကို နှိုက်ယူခဲ့ပါတယ်။

အလားတူပဲ အနာထပိဏ်သူဌေးရဲ့ သမီးငယ် ဖြစ်တဲ့ သာကေတမြို့မှာ အိမ်ထောင်ကျနေတဲ့ စူဠသုဘဒ္ဒါက ဆွမ်းစားပင့်တဲ့ နေ့မှာရော မြတ်စွာဘုရား သုနာပရန္တဇနပုဒ်ကို ကြွတဲ့အခါမှာပါ "ရဟန္တာပုဂ္ဂိုလ်တွေသာ နှိုက်ရမှာ ဖြစ်ပါတယ်" လို့ မဲနှိုက်ဖို့ လျှောက်တဲ့အခါမှာလည်း အရှင်ကုဏ္ဍဓာနမထေရ်ပဲ အရင်ဆုံး မဲကို ရဲရဲတင်းတင်း နှိုက်တော်မူခဲ့ပါတယ်။

ဒီအကြောင်း သုံးရပ်ကြောင့်ပဲ အရှင်ကုဏ္ဍဓာန မထေရ်ဟာ ပထမဦးဆုံး စာရေးတံမဲ နှိုက်တဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး ဧတဒဂ်ရတဲ့ ပုဂ္ဂိုလ် ဖြစ်ခဲ့တာပါ။

## (က) အရှင်မြတ်ရဲ့ အတိတ်ဘဝ ပါရမီဖြည့်ပုံနဲ့ ဆုပန်ပုံ

အရှင်မြတ်အလောင်းဖြစ်တဲ့ အမျိုးကောင်းသားဟာ ပဒုမုတ္တရမြတ်စွာဘုရားရှင် လက်ထက်တော်အခါက ဟံသာဝတီမင်းနေပြည်မှာ ဖြစ်ခဲ့ပြီး အခြားမြို့သူမြို့သားတွေနဲ့ အတူ မြတ်စွာဘုရားထံ သွားရောက်ကာ တရားတော် နာယူခဲ့ပါတယ်။ အဲဒီတရားပွဲမှာ မြတ်စွာဘုရားက ရဟန်းတော် တစ်ပါးကို 'ပထမဦးဆုံး စာရေးတံမဲ နှိုက်ယူတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး' ဆိုတဲ့ ဧတဒဂ်ရာထူး ပေးခဲ့ပါတယ်။ ဒီလို ဧတဒဂ်ရာထူး ပေးတာကို အရှင်မြတ်လောင်းက တွေ့မြင်ရပြီးတဲ့နောက် အားကျပြီး မြတ်စွာဘုရားအမှူးပြုတဲ့ ရဟန်းသံဃာတော်များကို ပင့်ဖိတ်ပြီး အလှူဒါနပြုလုပ်ကာ အဲဒီ ဧတဒဂ်ရာထူးကို ဆုပန်ခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားရှင်ကလည်း ဒီအမျိုးသားရဲ့ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို သိမြင်တော်မူပြီး ဗျာဒိတ်ပေးတော်မူခဲ့ပါတယ်။

အရှင်မြတ်အလောင်း အမျိုးကောင်းသားဟာ တစ်ခါမှာလည်း ပဒုမုတ္တရ မြတ်စွာဘုရား နိရောဓသမာပတ်ဝင်စားရာမှ ထပြီးခါစ အချိန် ငှက်ပျောခိုင်ကြီးတစ်ခိုင် ဆက်ကပ်လှူဒါန်းခဲ့ပါတယ်။ မြတ်စွာဘုရားက အကပ်ခံပြီး ဘုဉ်းပေးတော်မူခဲ့ပါတယ်။ ဒီကုသိုလ်ကံကြောင့် အရှင်မြတ် အလောင်းတော်ဟာ သိကြားမင်း ၁၁-ကြိမ်၊ စကြဝတေးမင်း ၂၄-ကြိမ် ဖြစ်ခဲ့ပါတယ်။ ဒီအကြောင်းကို အပဒါန်ပါဠိတော် မှတ်တမ်းမှာ ဖော်ပြထားပါတယ်။



## ကဿပဘုရားရှင်လက်ထက် ဝင်္ဂလိုက်မည့် အကုသိုလ်ကံ ကျူးလွန်ပုံ

အရှင်မြတ်အလောင်းဟာ ပဒုမုတ္တရ ဘုရားရှင်လက်ထက်မှာ ယခုလို ကုသိုလ်ကောင်းမှုများကို အသက်ထက်ဆုံး ပြုလုပ်အားထုတ်ပြီးနောက် လူ့ပြည်၊ နတ်ပြည်တွေမှာ သံသရာကျင်လည်ရင်းက ကဿပဘုရားရှင်လက်ထက် ရောက်တဲ့အခါ ဘုမ္မစိုးနတ် ဖြစ်ခဲ့ပါတယ်။

ကဿပဘုရားရှင် လက်ထက်မှာ ခြောက်လ တစ်ကြိမ် ရဟန်းတော်များ ဥပုသ်ပြုရပါတယ်။ ဥပုသ်ပြုတယ်ဆိုတာ ရဟန်းတော်တိုင်း ခြောက်လ တစ်ခါ ကဿပမြတ်စွာဘုရား မိန့်တော်မူတဲ့ ဩဝါဒ ပါတိမောက် အဆုံးအမကို နာယူရတာ ဖြစ်ပါတယ်။ သီလ စင်ကြယ်တဲ့ ရဟန်းတွေမှ ဥပုသ်ပြုတဲ့ အခမ်းအနားကို တက်ရတာပါ။

တစ်ခုသော ဥပုသ်ပြုရမယ့်နေ့မှာ တစ်ပါးနဲ့တစ်ပါး အတော်ရင်းနှီးကျွမ်းဝင်တဲ့ အရှင်မြတ်နှစ်ပါး ဥပုသ်ပြုဖို့အတွက် ကဿပဘုရားရှင် ရှိရာကို သွားကြပါတယ်။ သူတို့နှစ်ပါးဟာ ဘုရားရှင်နဲ့ အတန်အသင့်ဝေးတဲ့ ရပ်ဝေးဒေသမှာ နေကြတာပါ။ ဒီရဟန်းတော် နှစ်ပါး ကြွလာတာကို အရှင်ကုဏ္ဍဓာန မထေရ်လောင်းဖြစ်တဲ့ ဘုမ္မစိုးနတ်က မြင်တွေ့တဲ့အခါ 'ဩော်… ဒီ အရှင်မြတ်နှစ်ပါးဟာ တစ်ပါးနဲ့ တစ်ပါး အတော်လေးကို ချစ်ခင်ရင်းနှီး ညီညွတ်ကြတာပဲ၊ ကွဲပြားအောင် လုပ်တဲ့သူ ရှိခဲ့မယ်ဆိုရင် ဒီ အရှင်မြတ်နှစ်ပါး စိတ်ဝမ်းကွဲမလား၊ မကွဲဘူးလား' လို့ စဉ်းစား ကြံစည်မိခဲ့ပါသတဲ့။ ဒါနဲ့ စိတ်ဝမ်းကွဲပြားအောင် လုပ်နိုင်မယ့် နည်းလမ်းကို ရှာကြံရင်း အရှင်မြတ် နှစ်ပါးနောက်ကနေ ဘုမ္မစိုးနတ်ကြီး လိုက်ပါလာခဲ့ပါတယ်။

အဲဒီနောက်မှာတော့ အရှင်မြတ်တစ်ပါးဟာ အခြားတစ်ပါးရဲ့ လက်ထဲမှာ သပိတ်၊ သင်္ကန်းတွေကို အပ်နှံခဲ့ပြီး ကိုယ်လက်သုတ်သင် တပိုးတပါး သွားဖို့ရန်အတွက် ရေမိုး အဆင်ပြေတဲ့ နေရာကို ထွက်သွားခဲ့ပါတယ်။ ဒီအရှင်မြတ်ဟာ ကိုယ်လက်သုတ်သင် ကိစ္စဝိစ္စပြီး

တဲ့နောက် လက်ခြေ ဆေးကြောကာ ချုံပုတ်တစ်ခုအနီးကနေ ထွက်လာခဲ့ပါတယ်။

ဒီအခါ ဘုမ္မစိုးနတ်ဟာ ကိုယ်လက်သုတ်သင်ပြီး ထွက်လာတဲ့ ရဟန်းရဲ့ နောက်နားကနေ အလွန်အဆင်းလှတဲ့ မိန်းမအသွင် ဖန်ဆင်းပြီး ဖွာကျဲနေတဲ့ ဆံပင်ကို ပြင်ထုံး၊ ပြေလျော့နေတဲ့ ထဘီကို ပြန်ပြင်ဝတ်တဲ့ ပုံစံမျိုး ပြုလုပ်ကာ အဲဒီရဟန်းနဲ့ ရှေ့ဆင့်နောက်ဆင့် ချုံပုတ်ထဲကနေ ထွက်လာခဲ့ပါတယ်။

ဒီအခြင်းအရာကို စောင့်နေတဲ့ အဖော်ရဟန်းက မြင်တွေ့လိုက်ရတဲ့အခါ အတော် စိတ်မကျေမချမ်းဖြစ်ပြီး 'ဒီအချိန်က စပြီးတော့ ငါ ဒီရဟန်းနဲ့ ကာလတာရှည် ချစ်ခင်ရင်းနှီးခဲ့တဲ့ မေတ္တာအစေး ပြယ်သွားပြီ၊ အစကတည်းက ဒီရဟန်း ဒီလို ယုတ်မာမှန်းသိခဲ့ရင် ငါ ဒီရဟန်းနဲ့ ဒီလောက် အကျွမ်းတဝင် ရင်းနှီးခင်မင်မှု ပြုခဲ့မှာ မဟုတ်ဘူး' လို့ ကြံစည်မိကာ ကိုယ်လက်သုတ်သင်ပြီး ပြန်ထွက်လာတဲ့ ရဟန်း အနီးရောက်ရင် ရောက်ချင်းပဲ "ငါ့ရှင်... ရော့၊ သင့်သပိတ်၊ သင်္ကန်းတွေ ယူပါ၊ ငါဟာ သင့်လို ယုတ်မာတဲ့သူနဲ့ တစ်ခရီးတည်း ဘယ်နည်းနဲ့မှ မသွားတော့" လို့ မိတ်ပြတ်စကား ပြောကြားခဲ့ပါတယ်။

ဒီလို စွပ်စွဲပြစ်တင် မိတ်ပြတ်စကား ကြားလိုက်ရတယ်ဆိုရင်ပဲ အစွပ်စွဲခံရတဲ့ ရဟန်းဟာ ရင်ဝကို လှံနဲ့ အားကုန် ဆောင့်ထိုးလိုက်သလို ခံစားသွားရတယ်။ တကယ်တော့ ဒီရဟန်းဟာ တကယ့်ကို သီလ စင်ကြယ်တဲ့ လဇ္ဇီ သူတော်ကောင်း ရဟန်းပါ။ ဒါနဲ့ အစွပ်စွဲခံရတဲ့ ရဟန်းက စွပ်စွဲတဲ့ မိတ်ဆွေ ရဟန်းကို "ငါ့ရှင်... သင် ဘယ်လို စကားမျိုး ပြောလိုက်တာလဲ၊ ငါဟာ ဒီအချိန်ထိ အာပတ်အသေးစား ဖြစ်တဲ့ ဒုက္ကဋ်အာပတ်လေးတောင် မသင့်ခဲ့ဖူးဘူး။ ဘာလို့ သင်က ဒီနေ့ ငါ့ကို 'ပါပ - ယုတ်မာသူ' လို့ စွပ်စွဲရတာတုံး၊ သင် ဘာမြင်လို့လဲ" လို့ မေးမြန်းပြောဆိုခဲ့ပါတယ်။



ဒီအခါ စွပ်စွဲပြစ်တင်တဲ့ ရဟန်းက "ငါ့ရှင်... တခြားအရာကို မြင်တယ်ဆိုရင် ငါ ဘာမှ မပြောလိုပါဘူး၊ သင်ဟာ ဖြီးလိမ်းပြင်ဆင်ထားတဲ့ အမျိုးသမီးနဲ့ တစ်နေရာမှာ အတူနေပြီး ချုံထဲကနေ ထွက်လာခဲ့တယ် မဟုတ်ဘူးလား" လို့ သူ မြင်တဲ့အတိုင်း ပြစ်တင်ပြောဆိုခဲ့ပါတယ်။ ဒီလို အပြစ်တင်တဲ့အခါ အစွပ်စွဲခံရတဲ့ ရဟန်းက "ငါ့ရှင်... ဒီလို ဖြစ်ရပ်မျိုး ငါ့မှာ လုံးဝ မရှိဘူး၊ ငါဟာ သင် ယခုပြောတဲ့ အမျိုးသမီးကို လုံးဝ တွေ့လည်း မတွေ့ဘူး၊ မြင်လည်း မမြင်ဘူး" လို့ ရိုးသားစွာ ရှင်းပြခဲ့ပါတယ်။ တစ်ကြိမ်တောင် မကပါဘူး၊ သုံးကြိမ်သုံးခါအထိ ရှင်းပြခဲ့တာပါ။

ဒါပေမယ့် စွပ်စွဲတဲ့ရဟန်းက ဒီဖြေရှင်းချက်စကားကို လုံးဝ မယုံကြည်နိုင်ဘဲ သူမြင်ခဲ့တဲ့ အကြောင်းအရာကိုပဲ အမှန်လို့ ထင်ခဲ့ပါတယ်။ ဒါကြောင့် ဒီ စွပ်စွဲတဲ့ရဟန်းဟာ စွပ်စွဲခံရတဲ့ သူငယ်ချင်း ရဟန်းနဲ့ တစ်လမ်းတည်း မသွားတော့ဘဲ အခြားတစ်လမ်းနဲ့ ကဿပ ဘုရားထံ သွားခဲ့ပါတယ်။ အစွပ်စွဲခံရတဲ့ ရဟန်းလည်း အခြားတစ်လမ်းနဲ့ ကဿပ မြတ်စွာဘုရားထံကိုပဲ သွားခဲ့ပါတယ်။

ဒီ့နောက်တော့ ရဟန်းသံဃာတော်တွေ ဥပုသ်ပြုမယ့်သိမ်ထဲ ဝင်တဲ့အချိန်ရောက်တဲ့အခါ စွပ်စွဲတဲ့ရဟန်းက အစွပ်စွဲခံရဟန်းကို သိမ်ထဲ ရောက်နေတာ မြင်လိုက်တာနဲ့ "ဒီသိမ်ထဲမှာ ယုတ်မာတဲ့ ရဟန်းတစ်ပါး ပါနေပါတယ်၊ တပည့်တော်ဟာ အဲဒီရဟန်းယုတ်နဲ့ အတူ ဘယ်နည်းနဲ့မှ ဥပုသ်မပြုနိုင်ပါ" လို့ နှုတ်မြွက်ပြောဆိုကာ သိမ်ထဲကနေ ထွက်ပြီး အပြင်ဘက်မှာ ရပ်နေခဲ့ပါတယ်။

အဲဒီအခါမှ ဘုမ္မစိုးနတ်ဟာ 'ဩော်... ငါတော့ အလွန်ကြီးလေးတဲ့ အပြစ်ကို ကျူးလွန်မိခဲ့ပြီ' လို့ နောင်တရခဲ့ပြီး အသက်ကြီးတဲ့ ဒကာတစ်ယောက်ပုံစံမျိုးနဲ့ စွပ်စွဲတဲ့ ရဟန်းထံ သွားကာ "အရှင်ဘုရား... အရှင်ဘုရားဟာ ဘာလို့ သိမ်အပြင်ဘက်မှာ ရပ်နေရတာလဲ ဘုရား" လို့ လျှောက်ထား မေးမြန်းခဲ့ပါတယ်။ ဒီလိုမေး

လိုက်တဲ့အခါ စွပ်စွဲတဲ့ရဟန်းက သိမ်ထဲမှာ ရဟန်းယုတ်တစ်ပါး ပါနေလို့ သူနဲ့အတူ ဥပုသ် မပြုနိုင်တဲ့အတွက်ကြောင့် ခုလို သိမ်ပြင် ဘက်ထွက်ပြီး ရပ်နေတာဖြစ်ကြောင်း ဖြေကြားပါတယ်။

ဒီအခါ ဘုမ္မစိုးနတ်က "အရှင်ဘုရား... အဲဒီလို မထင်ပါနဲ့ ဘုရား၊ အရှင်ဘုရား စွပ်စွဲတဲ့ရဟန်းဟာ သီလစင်ကြယ်တဲ့ လဇ္ဇီရဟန်း စစ်စစ် ဖြစ်ပါတယ် ဘုရား၊ အရှင်ဘုရား မြင်လိုက်တဲ့ အမျိုးသမီး ဆိုတာ တပည့်တော်ပါပဲ ဘုရား၊ တပည့်တော်က အရှင်ဘုရားတို့ နှစ်ပါး တစ်ပါးနဲ့တစ်ပါး အလွန်ရင်းနှီး ချစ်ခင်တာကို ခွဲလို့ ရနိုင်၊ မရနိုင် သိချင်တာနဲ့ အခုလို အမျိုးသမီးယောင်ဆောင်ပြီး အဲဒီရဟန်း နောက်က လိုက်ပါခဲ့တာ ဖြစ်ပါတယ် ဘုရား" လို့ ရှင်းလင်း လျှောက်ထားခဲ့ပါတယ်။

ဒီအခါ စွပ်စွဲတဲ့ရဟန်းက "အို... သူတော်ကောင်း၊ သင်က ဘယ်သူတုံး" လို့ မေးမြန်းလိုက်ပါတယ်။ ဒါနဲ့ ဘုမ္မစိုးနတ်က "တပည့်တော် ဘုမ္မစိုးနတ် ဖြစ်ပါတယ် ဘုရား" လို့ လျှောက်ထား ရင်ပဲ နတ်ရဲ့ အသွင်အပြင်အတိုင်း ရပ်တည်ပြီး အဲဒီရဟန်းရဲ့ ခြေတော် ရင်းမှာ ဝပ်စင်းကာ "အရှင်ဘုရားတို့... တပည့်တော်ကို သည်းခံ ခွင့်လွှတ်တော်မူပါ ဘုရား၊ ဒီအဖြစ်ကို အစွပ်စွဲခံရတဲ့ ရဟန်း လုံးဝ မသိရှာပါ ဘုရား၊ ဥပုသ်ကို စိတ်ချစွာ ပြုတော်မူကြပါ ဘုရား" လို့ ရှိခိုးတောင်းပန်ပြီး ဥပုသ်ပြုမယ့် သိမ်ထဲကို သွင်းပေးခဲ့ပါတယ်။

အဲဒီလို ဘုမ္မစိုးနတ်က ရှင်းပြတောင်းပန်ခဲ့ပေမယ့် ဒီ စွပ်စွဲတဲ့ ရဟန်းဟာ သိမ်ထဲဝင်ပြီး ဥပုသ်တော့ ပြုလိုက်ပါတယ်၊ ဒါပေမယ့် သူ့သူငယ်ချင်း အစွပ်စွဲခံရတဲ့ ရဟန်းနဲ့ အရင်ကလိုမျိုး မိတ်ဆွေအဖြစ်နဲ့ တစ်နေရာတည်း အတူမနေတော့ပါဘူး။ စွပ်စွဲတဲ့ရဟန်းဟာ နောက် ပိုင်း တရားထူးရတယ်၊ မရဘူး ဆိုတဲ့အကြောင်း ပိဋကတ်မှတ်တမ်း တွေမှာ မတွေ့ရပေမယ့် အစွပ်စွဲခံရတဲ့ ရဟန်းကတော့ အဆင့်ဆင့် ဝိပဿနာကမ္မဋ္ဌာန်း စီးဖြန်းပွားများ အားထုတ်ခဲ့တဲ့အတွက်



အရဟတ္တဖိုလ်ဆိုက်ရောက်ကာ ရဟန္တာ ဖြစ်တော်မူခဲ့တယ်လို့တော့ မှတ်တမ်းတွေမှာ ရေးထိုးထားပါတယ်။

## ဘုမ္မစိုးနတ်ကြီး ငရဲမှာ ခံရပြီ

ဘုမ္မစိုးနတ်ကြီးဟာ ဒီ မကောင်းမှုအကုသိုလ်ကံရဲ့ အကျိုး ဆက်ကြောင့် ကဿပ မြတ်စွာဘုရားနဲ့ အကျွန်ုပ်တို့ ဂေါတမမြတ်စွာ ဘုရား နှစ်ဆူအကြား နှစ်ပေါင်း မရေမတွက်နိုင်အောင် အပါယ် ငရဲမှာ ခံခဲ့ရပါတယ်။ ရံဖန်ရံခါ လူလာဖြစ်တဲ့အခါလည်း အခြားသူ တွေ ပြုသမျှ အပြစ်တွေဟာ သူ့အပေါ်ပဲ ကျရောက်ပြီး စွပ်စွဲခံခဲ့ရ ပါတယ်။

## (ခ) နောက်ဆုံး ပစ္ဆိမဘဝ ဇာတ်ကြောင်းနဲ့ ရဟန္တာဖြစ်ပုံ

အဲဒီနောက် အကျွန်ုပ်တို့ မြတ်စွာဘုရား လက်ထက်တော် ရောက်တဲ့အခါ သာဝတ္ထိပြည်က ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူ့ နာမည်ကို 'ဓာနလုလင်' လို့ မိဘတွေက မှည့်ခေါ်ခဲ့ကြတယ်။ ဓာနလုလင် အရွယ်ရောက်တဲ့အခါ ဝေဒကျမ်းဂန်ဖြစ်တဲ့ ဗေဒင်သုံးပုံ တတ်မြောက်ခဲ့ပြီး အသက်အရွယ် ကြီးရင့်တဲ့အခါမှာတော့ မြတ်စွာ ဘုရားတရား နာရတဲ့အတွက် သဒ္ဓါတရားဖြစ်ပြီး ရဟန်းပြုခဲ့ပါတယ်။

## ဝင်နေလည် ဝင်နေလိုက်ခံရပုံ

အရှင်ဓာနမထေရ် ရဟန်းဖြစ်တဲ့နေ့က စပြီး သေချာကျနန ဖြီးလိမ်းပြင်ဆင်ထားတဲ့ အမျိုးသမီးတစ်ယောက်ဟာ မထေရ်နောက် တကောက်ကောက် လိုက်ပါနေတော့တယ်။ တကယ်တော့ အမျိုးသမီး စစ်စစ်က လိုက်နေတာ မဟုတ်ပါဘူး။ အရှင်မြတ်ရဲ့ ဝိပါက်ဝဋ်ကြွေး ကြောင့် ထင်နေတဲ့ အမျိုးသမီးရုပ်ပါ။ ဒီ အမျိုးသမီးရုပ်က မထေရ် မြတ် ရွာထဲဝင်ရင် နောက်ကနေ လိုက်ဝင်လာပြီး မထေရ်မြတ် ရပ်ရင်

ရပ်နေတယ်၊ မထေရ် သွားရင် သွားနေတယ်။ ရွာထဲက ပြန်ထွက်လာရင်လည်း အမျိုးသမီးရုပ်က အတူ ထွက်လာပြီး၊ ကျောင်းထဲဝင်ပြန်တော့လည်း နောက်က တစ်ပါတည်း လိုက်ဝင်လာတယ်။ တခြားသူတွေက ကြည့်ရင် မထေရ်နောက် တကောက်ကောက် လိုက်ပါနေတဲ့အသွင်မျိုး ထင်နေရပါတယ်။ အဲဒီ အမျိုးသမီးရုပ်ကို ခာနမထေရ်ကတော့ မမြင်ရပါဘူး။ ရှေးမကောင်းမှု အကုသိုလ်ကံရဲ့ အကျိုးဆက်ကြောင့် အခြားသူတွေက ဒီ မိန်းမရုပ်ကို မြင်နေရတာ ဖြစ်ပါတယ်။

ရပ်ထဲရွာထဲ ဆွမ်းလောင်းလှူကြတဲ့ အမျိုးသမီးတွေက ဆွမ်းလောင်းတဲ့အခါ "ဒီတစ်ဇွန်းက အရှင်ဘုရားအတွက်ပါ ဘုရား၊ ဒီ တစ်ဇွန်းကတော့ တပည့်တော်တို့ရဲ့ သူငယ်ချင်းမ အရှင်ဘုရားနောက်က ပါလာတဲ့ အမျိုးသမီးအတွက် ဖြစ်ပါတယ် ဘုရား" လို့ ပြက်ရယ်ပြောင်လှောင်ပြီး လောင်းလှူကြပါတယ်။ ဒီအခါ ခာနမထေရ်မှာ အတော်လေးကို စိတ်မချမ်းမသာ ဖြစ်ရပါတယ်။

ကျောင်းရောက်ပြန်တော့လည်း ရှင်ငယ်၊ ရဟန်းငယ်တွေက ဝိုင်းအုံလာပြီး "ခာနဟာ မိန်းမ ကြူးသူပဲ" လို့ လှောင်ပြောင်ကြတယ်။ ဒါကြောင့်ပဲ အဲဒီအချိန်က စပြီး ခာနမထေရ်ရဲ့ အမည်ဟာ "ကုဏ္ဍခာနမထေရ်" လို့ အမည်တွင်လာခဲ့ပါတယ်။ 'ကုဏ္ဍ - ဆိုတာ ကြူးသူ လိုက်စားသူ' လို့ အဓိပ္ပာယ် ရပါတယ်။

ကုဏ္ဍခာနမထေရ်ဟာ ဒီလို ကိုရင်ငယ်တွေ၊ ရဟန်းငယ်တွေက ခဏ ခဏ လှောင်ပြောင်ကြတဲ့အတွက် သည်းမခံနိုင်တော့ပါဘူး၊ ဒေါသတွေ အရမ်းထွက်လာပါတယ်။ ဒါနဲ့ သူ့ကို လှောင်ပြောင်တဲ့သူတွေကို "သင်တို့သာ မိန်းမကြူးသူတွေ ဖြစ်တယ်၊ သင်တို့ရဲ့ ဆရာဥပဇ္ဈာယ်တွေသာ မိန်းမ လိုက်စားသူတွေ ဖြစ်တယ်" လို့ ပြန်လှန် ပြောဆိုခဲ့ပါတယ်။



ဒီအခါ အခြားရဟန်းတွေက မြတ်စွာဘုရားထံ သွားပြီး ကုဏ္ဍခာနမထေရ် ကြမ်းကြမ်းတမ်းတမ်း ဆဲရေးတဲ့အကြောင်း လျှောက်ထားခဲ့ကြလို့ မြတ်စွာဘုရားက ကုဏ္ဍခာနမထေရ်ကို ခေါ်ပြီး ရဟန်းတွေ လျှောက်တဲ့စကား မှန်ရဲ့လားလို့ မေးပါတယ်။ ကုဏ္ဍခာနမထေရ်ကလည်း မှန်တဲ့အကြောင်း လျှောက်ထားဖြေဆိုခဲ့ပါတယ်။ ဒါနဲ့ မြတ်စွာဘုရားက ဆက်ပြီး ဘာလို့ ခုလို ဆဲရေးတဲ့ စကား ပြောရတာလဲလို့ မေးတာနဲ့ ကုဏ္ဍခာနမထေရ်က "မြတ်စွာဘုရား··· သူတို့က တပည့်တော်ကို အမြဲတမ်း စိတ်ဆင်းရဲအောင် ဝိုင်းပြောကြတဲ့အတွက် သည်းမခံနိုင်လို့ ခုလို ကြမ်းတမ်းစွာ ဆဲရေးမိပါတယ် ဘုရား" လို့ ပြန်လည် လျှောက်ထားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက "ချစ်သား··· သူတို့က သင့်ကို မြင်လို့ ပြောကြတာ ဖြစ်တယ်၊ သင်က ဘာမြင်လို့ သူတို့ ပြောသလို လိုက်ပြန်ပြောရတာလဲ၊ သင် ရှေးက လုပ်ခဲ့တဲ့ အကုသိုလ်ကံရဲ့ ဝဋ်ကြွေးက ခုထိ မကုန်သေးဘူးကွယ်၊ ဒါကြောင့် သူများတွေ ဘယ်လိုပဲ ပြောပါစေ၊ ကြမ်းကြမ်းတမ်းတမ်း ပြန်မဆဲပါနဲ့၊ ဒီလို ကံတွေကြောင့်ပဲ သင် အခု ဒုက္ခရောက်နေရတယ် မဟုတ်လား" လို့ မိန့်တော်မူပြီး အောက်ဖော်ပြပါ ဂါထာ နှစ်ဂါထာနဲ့ တရားဟောခဲ့ပါတယ်။ ဒါကို ဓမ္မပဒ အဋ္ဌကထာ ဒုတိယအုပ်မှာ မှတ်တမ်းတင်ထားပါတယ်။

"ချစ်သား ခာန··· ကြမ်းတမ်းတဲ့ စကားကို မပြောနဲ့၊ ဒီလို ကိုယ်က တစ်ဖက်သားကို ကြမ်းကြမ်းတမ်းတမ်း ပြောလိုက်မယ်ဆိုရင် အပြောခံရသူက ငြိမ်နေမှာ မဟုတ်ဘူး၊ ပြန်ပြီး ကြမ်းတမ်းတဲ့စကားနဲ့ပဲ တုံ့ပြန်ကြမှာ။ ဘာကြောင့် ဒီလို ကြမ်းတမ်းတဲ့ စကား မပြောရတာလဲ ဆိုရင် သူတစ်ဖက်သားကို ချုပ်ချယ်တဲ့ အကြမ်းစကား ပြောကြားခြင်းဟာ တကယ်ပဲ ဆင်းရဲလှပြီး ကိုယ်ပြောလိုက်တဲ့ အပြစ်ရဲ့

တန်ပြန်ဒဏ်ဟာ လေညာကို ပြာမှုန့်တွေ ပစ်ကြဲလိုက်သလို ကိုယ့်ဆီ ပြန်ရောက်လာမှာ ဖြစ်တဲ့အတွက်ကြောင့် ဖြစ်တယ်။

ချစ်သား ဓာန… သင် ချစ်သားဟာ အနားရေး ကွဲပျက်နေတဲ့ ကြေးခွက်လို ကြမ်းတမ်းတဲ့ စကားသံတွေ မထွက်အောင် ကျင့်ကြံပါ၊ အဲဒီလို ကျင့်နိုင်ရင် ဒုက္ခခပ်သိမ်း ငြိမ်းအေးတဲ့ နိဗ္ဗာန်ကို ဆိုက်ရောက်ပါလိမ့်မယ်၊ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ပြီဆိုရင် သူများကို အနိုင်စကား ပြောကြားတာတွေ၊ ကြမ်းတမ်းချုပ်ချယ်တဲ့စကား ပြောကြားတာတွေ လုံးဝ ရှိမှာ မဟုတ်တော့ပါ"

ရဟန်းတွေက အရှင်ကုဏ္ဍဓာန မထေရ်ရဲ့ အမျိုးသမီးနဲ့ အတူလှည့်လည်နေတဲ့အကြောင်းကို ကောသလပြည့်ရှင် ဘုရင် ပသေနဒီ ကောသလမင်းကိုလည်း ပြောပြခဲ့ကြတယ်။ ကောသလမင်းကြီး သိတဲ့အခါ စုံထောက်တွေ လွှတ်ပြီး ဟုတ်၊ မဟုတ် စုံစမ်းခိုင်းပါတယ်။ ကောသလမင်းကြီး ကိုယ်တိုင်လည်း အခြံအရံ ပရိသတ် အနည်းငယ်နဲ့အတူ အရှင်ကုဏ္ဍဓာနမထေရ် နေတဲ့နေရာ သွားပြီး တစ်နေရာကနေ ကြည့်ခဲ့ပါတယ်။ ဒီအခါ အရှင်ကုဏ္ဍဓာနက အပ်ကလေးနဲ့ သင်္ကန်းချုပ်ရင်း ထိုင်နေပါတယ်။ ဝဋ်ကြွေးကြောင့် ပါနေတဲ့ အမျိုးသမီးရုပ်ကတော့ အရှင်မြတ်ရဲ့ အနီးအပါး နောက်နားက ရပ်နေတဲ့ပုံစံမျိုး မြင်နေရပါတယ်။

အဲဒီလို မြင်လိုက်ရတယ်ဆိုရင်ပဲ ကောသလမင်းကြီးက 'အကြောင်းထူးတော့ ဧကန်ရှိမှာပဲ' လို့ စဉ်းစားမိပြီး အဲဒီ အမျိုးသမီး ရပ်နေတဲ့ နေရာကို သွားလိုက်တဲ့အခါ အမျိုးသမီးရုပ်က မထေရ်မြတ် သီတင်းသုံးတဲ့ သစ်ရွက်မိုးကျောင်းထဲ ဝင်သွားတဲ့ပုံစံမျိုး ပြခဲ့ပါတယ်။ ကောသလမင်းကြီးလည်း အဲဒီ အမျိုးသမီးနောက်က လိုက်သွားပြီး ကျောင်းထဲဝင် လိုက်ကြည့်တဲ့အခါ တစ်ကျောင်းလုံးအနှံ့ ရှာကြည့်ပေမယ့် အဲဒီအမျိုးသမီးကို မတွေ့ခဲ့ပါဘူး။ အဲဒီအခါကျမှ ကောသလမင်းကြီး



လည်း 'ဒီ အမျိုးသမီးဟာ တကယ့်မိန်းမအစစ် မဟုတ်နိုင်ဘူး၊ မထေရ်ရဲ့ ကံအကျိုးပေး ဝိပါက်ကြောင့် ထင်နေ မြင်နေရတာပဲ' လို့ ကောက်ချက်ချခဲ့ပြီး အလာတုန်းက မထေရ်မြတ်ကို ရှိမခိုးခဲ့ပေမယ့် ခုလို အကြောင်းရင်းမှန်ကို ကိုယ်တိုင်သိပြီးတဲ့ အခါကျမှ အရှင်ကုဏ္ဍဓာနမထေရ်မြတ်ထံ လာရောက် ရှိခိုးကန်တော့ခဲ့ပါတယ်။

ပြီးတဲ့အခါ "အရှင်ဘုရား… ဆွမ်းကွမ်း အခက်အခဲများ ရှိပါသလား ဘုရား" လို့ မေးလျှောက်ပါတယ်။ ဒီအခါ အရှင်မြတ်က "သင့်ရုံရှိပါတယ် မြတ်သောမင်းကြီး" လို့ ဖြေတဲ့အတွက် ကောသလမင်းကြီးက "အရှင်ဘုရား… အရှင်မြတ်ရဲ့ အဖြေစကားကို တပည့်တော် သဘောပေါက် နားလည်ပါတယ် ဘုရား၊ တပည့်တော် ဆက်ပြီး လျှောက်လိုတာကတော့ ဒီလို အမျိုးသမီး နောက်က လိုက်ပါနေပြီး လှည့်လည်နေတဲ့ အရှင်ဘုရားကို ဘယ်သူက ကြည်ညိုမလဲ ဘုရား၊ ဒီတော့ ဒီနေ့က စပြီးတော့ အရှင်ဘုရား ဘယ်ကိုမှ မကြွနဲ့တော့၊ တပည့်တော် အရှင်ဘုရားကို ပစ္စည်းလေးပါး ထောက်ပံ့လှူဒါန်းပါ့မယ်၊ အရှင်ဘုရားတို့ကသာ ကမ္မဋ္ဌာန်းတရားကို မမေ့မလျော့ ကြိုးစားအားထုတ်တော်မူပါ ဘုရား" လို့ လျှောက်ထားပြီး အမြဲမပြတ် ဆွမ်းလှူဒါန်းခဲ့ပါတယ်။

အခုလို ပသေနဒီ ကောသလမင်းကြီးက ထောက်ပံ့လှူဒါန်း တော့မှပဲ အရှင်ကုဏ္ဍဓာနမထေရ်လည်း အာဟာရ သပ္ပာယမျှတပြီး စိတ်တည်တည်ငြိမ်ငြိမ်နဲ့ ကမ္မဋ္ဌာန်းတရား အားထုတ်နိုင်ခဲ့ပါတော့ တယ်။ ဒီအခါ ဝိပဿနာဉာဏ်စဉ်တွေ တဖြည်းဖြည်း တိုးပွားလာပြီး အရဟတ္တဖိုလ်အထိ ဆိုက်ရောက်ကာ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။ ရဟန္တာဖြစ်တဲ့အချိန်ကစပြီး အကုသိုလ်ကံကြောင့် ထင်နေတဲ့ အဲဒီ အမျိုးသမီးရုပ်လည်း တစ်ခါတည်း ပျောက်ကွယ်သွားခဲ့ပါတော့တယ်။

## အရှင်ကုဏ္ဍဓာနမထေရ် ပထမဦးဆုံး စာရေးတံမဲနှိုက်တော်မူပုံ

ဇေတဝန်ကျောင်းဒကာကြီး အနာထပိဏ်သူဌေးရဲ့ သမီးကြီး မဟာသုဘဒ္ဒါဟာ သာဝတ္ထိပြည်နဲ့ ယူဇနာတော်တော်ဝေးတဲ့ ဥဂ္ဂါမြို့က ဘာသာခြား သူဌေးသား တစ်ယောက်နဲ့ အိမ်ထောင်ကျခဲ့ ပါတယ်။ မဟာသုဘဒ္ဒါဟာ အိမ်ထောင်မကျခင် ဖခင်အိမ်မှာ နေစဉ် တုန်းက ဘုရားအမှူးရှိတဲ့ သံဃာတွေကို နေ့တိုင်း ဆွမ်းဆက်ကပ်နေကျ ဆိုတော့ အခုလို အဝေးရောက်သွားတော့လည်း ဆွမ်းကပ်ချင်စိတ်တွေ ဖြစ်နေခဲ့ပါတယ်။ ဒီအခါ မဟာသုဘဒ္ဒါဟာ အရင်ဆုံး စိတ်ကို ကိလေသာ အညစ်အကြေးတွေ ကင်းစင်အောင် 'မြတ်စွာ ဘုရားရှင်ဟာ ငါ့ကို သနားစောင့်ရှောက်တော်မူပါစေ' လို့ နှလုံးသွင်းပြီး ဥပုသ်သီတင်းသီလ ဆောက်တည်လိုက်ပါတယ်။

ပြီးမှ အိမ်အပေါ်ဆုံးထပ်ကနေ မြတ်လေးပန်း ရှစ်ဆုပ်ကို ကိုင်ပြီး "ဒီမြတ်လေးပန်းတွေဟာ လမ်းခရီးအကြားမှာ ရပ်တည် မနေဘဲ မြတ်စွာဘုရားရှင် ရှိရာ ရောက်သွားပြီး မြတ်စွာဘုရားရှင်ရဲ့ အထက်မှာ မျက်နှာကြက်ပမာ ဖြစ်တည်နေပါစေသား၊ မြတ်စွာ ဘုရားရှင်ဟာ ဒီပန်းအမှတ်သညာနဲ့ မနက်ဖြန် ရဟန်းငါးရာနဲ့အတူ အကျွန်ုပ်ရဲ့ဆွမ်းကို ခံယူတော်မူပါစေသား" လို့ သစ္စာဆိုကာ ကောင်းကင်ပေါ်ကို ပက်ကြဲလိုက်တယ်။ မြတ်လေးပန်းတွေဟာ ကောင်းကင်ခရီးနဲ့ မြတ်စွာဘုရားထံ ရောက်သွားပြီး တရားဟောနေတဲ့ အချိန်မှာပဲ မြတ်စွာဘုရားရှင်ရဲ့ အထက်မှာ မျက်နှာကြက်သဖွယ် ရပ်တည်နေခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ မြတ်လေးပန်း မျက်နှာကြက်ကို မြင် လိုက်တာနဲ့ မဟာသုဘဒ္ဒါ ဆွမ်းစားပင့်တာကို သိလိုက်ပြီး စိတ် တော်နဲ့ပဲ ဆွမ်းစားပင့်တာကို လက်ခံတော်မူလိုက်ပါတယ်။ နောက်နေ့ မနက် အရုဏ်တက်ချိန်မှာတော့ မြတ်စွာဘုရားရှင်က အရှင်အာနန္ဒာကို



"ချစ်သား အာနန္ဒာ... ဒီနေ့ ရပ်ဝေးကို ဆွမ်းစားကြွဖို့ ရှိတယ်၊ ပုထုဇဉ်ရဟန်းတွေကို စာရေးတံမဲ မနှိုက်ခိုင်းဘဲ အရိယာဖြစ်တဲ့ ရဟန်းတွေကိုပဲ စာရေးတံမဲ နှိုက်ခိုင်းပါ" လို့ မိန့်တော်မူခဲ့ပါတယ်။ အရှင်အာနန္ဒာလည်း မြတ်စွာဘုရား မိန့်တဲ့အတိုင်း ရပ်ဝေးကို ဆွမ်းစား ကြွမှာ ဖြစ်တဲ့အတွက် ပုထုဇဉ်ရဟန်းတွေ စာရေးတံမဲ မနှိုက်ဘဲ အရိယာ ရဟန်းတွေသာ စာရေးတံမဲနှိုက်ဖို့ သံဃာတော်တွေကို ပန်ကြား လျှောက်ထားလိုက်ပါတယ်။

ဒီအခါ အရှင်ကုဏ္ဍဓာနမထေရ်ဟာ "ငါ့ရှင်... စာရေးတံမဲ ယူခဲ့ပါ" လို့ ပြောဆိုပြီး ပထမဦးဆုံး မဲနှိုက်ဖို့ လက်ကို ဆန့်တန်း လိုက်ပါတယ်။ အရှင်အာနန္ဒာမထေရ်ဟာ 'မြတ်စွာဘုရားရှင်က ကုဏ္ဍဓာန ရဟန်းလို ပုထုဇဉ်ရဟန်းတွေကို စာရေးတံမဲ နှိုက်စေလိုတာ မဟုတ်ဘူး၊ အရိယာ ရဟန်းတွေကိုပဲ မဲနှိုက်စေလိုတာ ဖြစ်တယ်' လို့ ကြံစည်စဉ်းစားပြီး မြတ်စွာဘုရားထံ သွားရောက်ကာ ကုဏ္ဍဓာန မထေရ် မဲနှိုက်နေတယ်ဆိုတဲ့အကြောင်းကို လျှောက်ထားပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က "ချစ်သား အာနန္ဒာ... ကုဏ္ဍဓာန ရဟန်းက စာရေးတံမဲ နှိုက်ချင်တယ်ဆိုရင်လည်း ပေးနှိုက်လိုက်ပါ" လို့ မိန့်တော်မူခဲ့ပါတယ်။

မြတ်စွာဘုရားက အခုလို မိန့်တဲ့အခါ အရှင်အာနန္ဒာမထေရ် ဟာ 'တကယ်လို့ ကုဏ္ဍဓာန ရဟန်း စာရေးတံမဲ နှိုက်ဖို့ မသင့်တော် ခဲ့ရင် မြတ်စွာဘုရားက တားမြစ်မှာ၊ အကြောင်းတစ်ခုခု ရှိပါလိမ့် မယ်' လို့ စဉ်းစားတော်မူပြီး 'ငါ အခု ကုဏ္ဍဓာန ရဟန်းကို သူတောင်းတဲ့ စာရေးတံမဲ သွားပေးမယ်' လို့ ကြံစည် ဆုံးဖြတ်ကာ စာရေးတံမဲ သွားပေးဖို့ ခြေလှမ်းပြင်ဆင်လိုက်တယ်။ အရှင်ကုဏ္ဍဓာန မထေရ်ဟာ အရှင်အာနန္ဒာ ရောက်မလာမီမှာပဲ အဘိညာဉ်တန်ခိုးနဲ့ ကောင်းကင်ပျံတက် ရပ်တည်ကာ "ငါ့ရှင် အာနန္ဒာ... စာရေးတံမဲ ခွက်ကို ယူခဲ့ပါလော့၊ မြတ်စွာဘုရားရှင်ဟာ ငါ့ကို သိတော်မူပါတယ်၊

ငါ့လို ရဟန်းမျိုး ပထမဦးဆုံး စာရေးတံမဲ နှိုက်ယူတာကို မြတ်စွာဘုရားရှင် မတားမြစ်ပါဘူး" လို့ ရဲရဲတောက် ပြောဆိုကာ လက်ကို ဆန့်တန်းပြီး စာရေးတံမဲ နှိုက်ယူခဲ့ပါတယ်။

ဒါအပြင် အနာထပိဏ်သူဌေးရဲ့ သမီးငယ် ဖြစ်တဲ့ စူဠသုဘဒ္ဒါ ဆွမ်းစားပင့်လို့ မြတ်စွာဘုရားရှင် သာကေတမြို့ကို ဆွမ်းစားကြွတော်မူတဲ့အခါမှာလည်း ရဟန်းငါးရာ အလယ်မှာ အရှင်ကုဏ္ဍဓာနမထေရ်ပဲ ပထမဦးဆုံး စာရေးတံမဲကို နှိုက်ယူ ရရှိခဲ့ပါတယ်။

နောက်ပြီး မြတ်စွာဘုရားရှင် အရှင်ပုဏ္ဏမထေရ်ရှိရာ သုနာပရန္တတိုင်းကို ကောင်းကင်ခရီးနဲ့ ကြွချီတော်မူတဲ့အခါမှာလည်း အရှင်ကုဏ္ဍဓာနမထေရ်ကပဲ ပထမဦးဆုံး စာရေးတံမဲကို နှိုက်ယူ ရရှိခဲ့တာ ဖြစ်ပါတယ်။

ဒီအကြောင်း သုံးရပ်ကြောင့်ပဲ နောက်ပိုင်းကာလ တစ်ချိန်မှာ မြတ်စွာဘုရားရှင်ဟာ အရှင်ကုဏ္ဍဓာနမထေရ်ကို အရိယာသံဃာတော်တွေရဲ့ အလယ်မှာ -

"ရဟန်းတို့... ပထမဦးဆုံး စာရေးတံမဲ နှိုက်ယူရရှိတဲ့ ငါဘုရားရဲ့ တပည့် ရဟန်းတော်တွေထဲမှာ ကုဏ္ဍဓာန ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပါပေတယ်" လို့ ချီးကျူးတော်မူခဲ့ပြီး သလာကဂ္ဂါဟက ဧတဒဂ်အရာထား ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်အပိုင်း

အရှင်ကုဏ္ဍဓာနမထေရ်ဟာ ဝိပါက်ဝဋ်ကြွေးကြောင့် အမျိုးသမီး တစ်ယောက် နောက်က အမြဲလိုက်သလို ထင်နေတဲ့အတွက် အတူနေ ရှင်ရဟန်းတွေကရော ဆွမ်းလောင်းလှူကြတဲ့ ဒကာ၊ ဒကာမတွေကပါ အထင်လွဲ အမြင်လွဲ ဖြစ်ခဲ့ကြပါတယ်။ အတူနေ ရဟန်းတွေကဆို အရှင်မြတ်ကို အတော်လေး စက်ဆုပ်ရွံရှာခဲ့ကြတယ်။ နောက်ပိုင်း ရဟန္တာဖြစ်ပြီးလို့ မြတ်စွာဘုရားက ရဟန္တာတွေသာ



စားရေတံမဲ နှိုက်ရမယ်လို့ မိန့်တဲ့အခါ အရှင်မြတ်က ပထမဦးဆုံး ရဲရဲတင်းတင်း နှိုက်ခဲ့ပါတယ်။ ဒီအခါ ပုထုဇဉ် ရဟန်းတွေအနေနဲ့ မယုံသင်္ကာ သံသယမျက်လုံးတွေနဲ့ ကြည့်ခဲ့ကြပါတယ်။ နောက်ပိတ်ဆုံး အရှင်အာနန္ဒာကတောင် သံသယဖြစ်လို့ ဘုရားရှင်ကို သွားလျှောက်ရတဲ့အထိ ဖြစ်ခဲ့ပါတယ်။

ဒီလို အားလုံးက ဝိုင်းပြီး သံသယမျက်လုံးနဲ့ အထင်သေး အမြင်သေး အကြည့်ခံရတဲ့အခါ အရှင်မြတ်ဟာ အများရဲ့ ယုံမှား သံသယကို ပယ်ပျောက်စေဖို့အတွက် အဘိညာဉ်တန်ခိုးနဲ့ ကောင်းကင် ပျံတက်ပြီး ဉပါယ်တံမျဉ်နဲ့ ရဟန္တာဖြစ်ကြောင်း သိစေချင်တာနဲ့ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာကို ဟောခဲ့ပါတယ်။

'အပါယ်လားစေနိုင်တဲ့ သံယောဇဉ်တွေဖြစ်တဲ့ ကာမရာဂ သံယောဇဉ်၊ ပဋိဃသံယောဇဉ်၊ သီလဗ္ဗတပရာမာသသံယောဇဉ်၊ ဒိဋ္ဌိသံယောဇဉ်၊ ဝိစိကိစ္ဆာသံယောဇဉ်တွေကို အောက်မဂ်သုံးပါးနဲ့ ပယ်ဖြတ်ရမယ်။

အထက်ဗြဟ္မာ့ဘုံတွေကို ရောက်စေနိုင်တဲ့ သံယောဇဉ်တွေ ဖြစ်တဲ့ ရူပရာဂသံယောဇဉ်၊ အရူပရာဂသံယောဇဉ်၊ ဉဒ္ဓစ္စသံယောဇဉ်၊ မာနသံယောဇဉ်၊ အဝိဇ္ဇာသံယောဇဉ်တွေကို အရဟတ္တမဂ်နဲ့ ပယ်ဖြတ်ရမယ်။

အထက်ပိုင်း သံယောဇဉ်တွေကို ပယ်ဖြတ်နိုင်ဖို့ဆိုရင် အနာဂါမ်ဖြစ်ပြီးတာနဲ့ သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာဆိုတဲ့ ဣန္ဒြေ ငါးပါးကို အရဟတ္တမဂ်ရတဲ့အထိ ပွားများရမှာ ဖြစ်ပါတယ်။

အဲဒီလို ပွားနိုင်ပြီဆိုရင်တော့ ရာဂ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိ ဆိုတဲ့ ငြိကပ်ခြင်း ငါးမျိုးကို လွန်မြောက်သွားပြီး ဩဃလေးပါးရဲ့ တစ်ဖက်ကမ်းဖြစ်တဲ့ နိဗ္ဗာန်အထိ ကူးမြောက်နိုင်သွားပြီ'

-------------

ဘဝမှာ ဘယ်လောက်ပဲ ကောင်းအောင်လုပ်ပေး၊ လုပ်ပေး၊ အကောင်းထင် မခံရသူတွေ၊ နောက်ပြီး ကိုယ်က ဘာမှ မဟုတ်တာ မမှန်တာ မလုပ်ရပါဘဲ ကိုယ့်ကို တလွဲ အဆိုးလို့ အမြင်ခံရသူတွေ အတွက်တော့ ဒီ အရှင်ကုဏ္ဍဓာနမထေရ်ဝတ္ထုဟာ ဖြေဆည်ရာ၊ စိတ်သက်သာစရာ ဝတ္ထု ဖြစ်ပါလိမ့်မယ်။ ဒီလို ကြုံရတာတွေဟာ 'သြော်… ပါရမီအရှင့်မာတွေ ဖြစ်တဲ့ အရှင်မြတ်ကြီးတွေတောင် ကြုံရ သေးတာပဲ၊ ငါတို့ ကြုံတာ ဘာဆန်းလဲ၊ နောက်ပြီး ဒါမျိုးတွေဆိုတာ သံသရာလည်နေရလို့ ဖြစ်တာ၊ သံသရာလည်နေရင်တော့ လူတိုင်း ကြုံနေရဦးမှာပဲ' လို့ ဖြေတွေး တွေးပြီး ဖြေဆည်ကြရမှာပါ။

နောက်ပြီး လူဆိုတာ ဒီလို အထင်လွဲ အမြင်လွဲခံရရင် မဟုတ်ကြောင်း၊ မမှန်ကြောင်းတော့ ရှင်းပြဖို့ ကြိုးစားရပါမယ်။ ဒါပေမယ့် ဘယ်လောက်ပဲ ကြိုးစား ရှင်းပြ ရှင်းပြ၊ နားလည် လက်ခံ မပေးတဲ့ အခြေအနေမျိုး ရောက်ပြီဆိုရင်တော့ ဆက်ပြီး ရှင်းပြနေရင် လည်း ပင်ပန်းဆင်းရဲရုံပဲ ရှိတော့မှာပါ၊ နောက်ပြီး ငါ့ကို နားမလည်ကြ လေခြင်းဆိုပြီး ယူကျုံးမရဘဲ အပူလုံးတွေ ကြွနေပါလိမ့်မယ်။

ပြန်တုဖက်ပြီး ရန်တွေ့ရင်တော့ ဒုက္ခတွေဟာ လျော့မသွားတဲ့ အပြင် ပိုတိုးလာရုံပဲ ရှိလာမှာပါ။ ဒါကြောင့် မြတ်စွာဘုရားက အနား ရေး ကွဲနေတဲ့၊ အနားရေး စုတ်နေတဲ့ ကြေးခွက်လို အသံ မထွက်အောင် နေလိုက်တာက အကောင်းဆုံးနည်းလမ်း ဖြစ်တယ်လို့ ဟောခဲ့တာပါ။ အနားရေး ကွဲပြတ်နေတဲ့ ကြေးခွက်ပမာ အသံမထွက်အောင် ကျင့်သုံးမှ အပူတွေငြိမ်းပြီး အေးချမ်းသွားမှာ အမှန် ဖြစ်ပါတယ်။

နောက်တစ်ခုက အရှင်မြတ်အလောင်းဖြစ်တဲ့ ဘုမ္မစိုး နတ်ကြီးဟာ တစ်ပါးနဲ့တစ်ပါး အလွန်ရင်းနှီးကျွမ်းဝင်တဲ့ ရဟန်းတော် နှစ်ပါးကို စိတ်ဝမ်းကွဲ မကွဲ သိချင်လို့ စူးစမ်းလိုစိတ်နဲ့ ကွဲပြားအောင် လုပ်ခဲ့တဲ့ ဖြစ်ရပ်ဟာ ဘာမှ မပြောပလောက်ဘူးလို့ ထင်ရပေမယ့် ဘုရားနှစ်ဆူ အကြားကာလ ဂဏန်းချ ရေတွက်လို့ မရတဲ့ အတိုင်း



အတာအထိ အပါယ်ငရဲမှာ ဝဋ်ကြွေးခံခဲ့ရတယ်။ တစ်ခါတလေ ကုသိုလ်ကံလေး အကျိုးပေးလို့ လူ့ဘဝ ရောက်ပြန်တော့လည်း သူတစ်ပါးလုပ်သမျှ မကောင်းတာတွေကို သူလုပ်တယ်လို့ စွပ်စွဲခံရပြီး ဝဋ်ကြွေးတွေ ပေးဆပ်ခဲ့ရတယ်။ ဒီဖြစ်ရပ်ကို သံဝေဂယူပြီး ချစ်ခင် နေတဲ့ ပုဂ္ဂိုလ်တွေကို စိတ်ဝမ်းကွဲအောင် မလုပ်မိစေဖို့လည်း သတိ ထားကြရမှာပါ။

ဘဝါဘဝက ရှိခဲ့တဲ့ ဘဝဝဋ်ကြွေးတွေ ကျေပြီး သံသရာ တစ်ဖက်ကမ်း အေးငြိမ်းရာ နိဗ္ဗာန်နန်းဆီ တက်လှမ်းချင်ကြတယ် ဆိုရင်တော့ မိမိတို့တစ်တွေဟာ အရှင်ကုဏ္ဍဓာနမထေရ်လို ဉာဏ်နဲ့ ပယ်ဖြတ်နိုင်အောင် ကြိုးစားရုံမှတပါး အခြားမရှိတော့ဘူးလို့ပဲ ဆိုပါ ရစေ။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမအုပ်၊ စာ ၂၀၃။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ စာ ၃၄၆။
၃။ အပဒါန်ပါဠိ၊ ၁၊ ၉၁။
၄။ အပဒါန်အဋ္ဌကထာ၊ ၂။ ၄၇။
၅။ ထေရဂါထာ ပါဠိ၊ ၂၂၃။
၆။ ထေရဂါထာ အဋ္ဌကထာ၊ ၁။ ၇၆။
၇။ ဓမ္မပဒအဋ္ဌကထာ၊ ၂။ ၃၃။



ဆန်းကြွယ်တဲ့ဉာဏ်ရှိသည့်အရာ
အသာဆုံး

ပဋ္ဌာနဝန္ဒ တေဒင်္ဂ ဝါဋ္ဌိဂါထာဓမ္မစာဆိုတော်

အရှင်ဝိဂီသမထေရ်

မြတ်စွာဘုရားက လူတွေ ဘယ်လောက်ပဲများများ အမြင်မျက်စိ ရှိ၊ မရှိ ပေတံနဲ့ တိုင်းတာကြည့်ရင် လောကအမြင်လည်း မရှိ၊ ဓမ္မ အမြင်လည်း မရှိတဲ့ မျက်စိနှစ်ဖက်လုံး ကန်းနေတဲ့ အန္ဓပုဂ္ဂိုလ်တွေ၊ လောကအမြင်တော့ ရှိပြီး ဓမ္မအမြင် လုံးဝ မရှိတဲ့ တစ်ဖက်မြင် ဧကစက္ခု ပုဂ္ဂိုလ်တွေ၊ လောကအမြင်လည်း ရှိ၊ ဓမ္မအမြင်လည်း ရှိတဲ့ မျက်စိအမြင် နှစ်ခုလုံး ပြည့်စုံတဲ့ ဒွိစက္ခုပုဂ္ဂိုလ်တွေ ဆိုပြီး သုံးမျိုးသုံးစားသာ ရှိတဲ့ အကြောင်း ဟောကြားခဲ့ပါတယ်။

ဒီသုံးမျိုးသုံးစားကို ပိုပြီး နားလည်လွယ်အောင် တိပိဋကယော ဆရာတော်ကတော့ ကုသိုလ်မရ၊ ဝမ်းမဝတဲ့ သူ၊ ကုသိုလ်မရ ဝမ်းသာ

ဝတဲ့သူနဲ့ ကုသိုလ်လည်းရ ဝမ်းလည်း ဝတဲ့သူ ဆိုပြီး စကားလုံး သုံးနှုန်းကာ ဟောခဲ့ပါတယ်။

ဟုတ်ပါတယ်၊ လောကအမြင်၊ လောကပညာ၊ လောက မျက်လုံး ချို့တဲ့သွားပြီဆိုရင် ကိုယ့်တစ်ဝမ်းတစ်ခါးတောင် ဝလင် အောင် ရှာမစားနိုင်တော့ပါဘူး။ ဝမ်းရေးက ဒီလောက်ခက်နေမှ တော့ ဘယ်မှာ ကုသိုလ်ဓမ္မ တရားရှာတဲ့အလုပ် လုပ်နိုင်တော့မလဲ၊ ဒါကြောင့် ဓမ္မအမြင်၊ ဓမ္မပညာ၊ ဓမ္မမျက်လုံးပါ ချို့တဲ့တော့တာပေါ့။ အဲဒီလို လောကမျက်လုံး၊ ဓမ္မမျက်လုံး နှစ်ခုလုံး ကန်းပြီး ကုသိုလ်မရ၊ ဝမ်းမဝကြတဲ့ လူဖြစ်ကာမတ္တ အန္ဓ ပုဂ္ဂိုလ်တွေလည်း လောကမှာ အများကြီးပါ။

တစ်ချို့လူတွေကျတော့ လောကအမြင်၊ လောကပညာ လောကမျက်လုံး ကောင်းကြပါတယ်။ ဒါကြောင့်လည်း ဒီပညာနဲ့ လောကအလယ်မှာ တင့်တင့်တယ်တယ် ပြည့်ပြည့်စုံစုံ နေနိုင်ကြပါ တယ်။ ဒါပေမယ့် လောကချမ်းသာ ကာမသုခလောက်ကိုပဲ ဘဝရဲ့အနှစ် လောကနိဗ္ဗာန်လို့ ထင်နေတဲ့အတွက် ဓမ္မအမြင်၊ ဓမ္မအလင်းကိုတော့ ရှာရကောင်းမှန်း သိမနေပါဘူး။ ဒါကြောင့် ဒီလိုပုဂ္ဂိုလ်တွေကို ကုသိုလ်မရ ဝမ်းသာဝတဲ့ ဧကစက္ခု အမြင်တစ်ဖက်သာ ရှိတဲ့လူတွေလို့ ခေါ်ပါတယ်။ ဒီ ဧကစက္ခု တစ်ဖက်မြင်ပုဂ္ဂိုလ်တွေဟာ သူတို့အနှစ်လို့ ထင်ထားတဲ့အရာတွေ ဖောက်ပြန်ပျက်စီးတာနဲ့ ကြုံရပြီ ဆိုရင် သေလုမြောပါး၊ ရူးမတတ် ရတက်တွေ ပွေပြီး ပူလောင်ပြင်းထန်တဲ့ သောက ပရိဒေဝမီးတွေ တောက်လောင်ခံရတတ်ပါတယ်။ တချို့ လည်း ကိုယ့်ကိုယ်ကိုယ် တစ်ခါတည်း သေကြောင်းကြံပြီး ဘဝကို မလှမပ အဆုံးသတ်သွားတတ်ကြပါတယ်။ ဒါကြောင့် တစ်ဖက်မြင် ပညာ ရှိရုံနဲ့တော့ လူဖြစ်ကျိုး မနပ်သေးပါဘူး။



အဆင့်မြင့်လူသားတွေကတော့ လောကအမြင် လောက မျက်လုံး၊ ဓမ္မအမြင် ဓမ္မမျက်လုံး နှစ်ခုလုံးကောင်းကြလို့ လောက အလယ်မှာလည်း ထည်ဝါစွာ နေနိုင်ကြတယ်၊ ကုသိုလ်တရားတွေ ပြုလုပ်ကြိုးစား အားထုတ်ပြီး တရားအသိနဲ့ ဘဝကို ထိန်းညှိပြီး တော့လည်း တည်ငြိမ်းအေးချမ်းစွာ နေနိုင်ကြပါတယ်။ ဒါကြောင့် ဒီလိုပုဂ္ဂိုလ်တွေကိုတော့ ကုသိုလ်လည်းရ၊ ဝမ်းလည်း ဝတဲ့ ဒွိစက္ခု နှစ်ဖက် အမြင်ရှိသူတွေလို့ ခေါ်ပါတယ်။ မြတ်စွာဘုရားကတော့ ဒွိစက္ခု နှစ်ဖက်အမြင်ရှိတဲ့ပုဂ္ဂိုလ်တွေသာ လောကမှာ အမြတ်ဆုံး၊ လူဖြစ်ကျိုး အနပ်ဆုံး အဆင့်မြင့်လူသားတွေ ဖြစ်ပါတယ်လို့ ဟော ကြားခဲ့ပါတယ်။

လောက လူဖြစ်ကျိုးနပ်ပြီး အမြတ်ဆုံး လူသားတစ်ယောက် ဖြစ်ဖို့ဆိုရင် လောကအမြင် ရှိရုံတင်နဲ့တော့ မပြည့်စုံသေးဘူးဆိုတာ ဗုဒ္ဓဒေသနာအရ သေချာလှပါတယ်။ ဓမ္မအမြင် ပြည့်စုံဖို့ လိုသေးတယ် ဆိုတာကိုလည်း သတိထား အသိပွားပြီး ကြိုးစားကြရမှာပါ။

အခု ကြည်ညိုကြမည့် အရှင်ဝင်္ဂီသမထေရ်ဆိုတာ မြတ်စွာ ဘုရား ချီးကျူးတဲ့ အဆင့်မြင့် လူသားတစ်ဦး ဖြစ်ပါတယ်။ အရှင်မြတ် ဟာ သူ့ခေတ်သူ့အခါမှာတော့ လောကီနယ်ပယ်ရဲ့ အမြင့်ဆုံးဖြစ်တဲ့ ဝေဒကျမ်းဂန်တွေကို တစ်ဖက်ကမ်းခပ် ပါရဂူမြောက် တတ်မြောက်ခဲ့ သူပါ။ ဒါအပြင် လူအထင်ကြီး ကြည်ညိုစေနိုင်တဲ့ ဆဝသီသမန္တန် အတတ်ကိုတောင် တတ်ခဲ့ပါသေးတယ်။ ဒါကြောင့် အရှင်မြတ်ဟာ လောကအမြင်၊ လောကမျက်လုံး ပြည့်စုံခဲ့သူပါ။

ဒါပေမယ့် အရှင်မြတ်ဟာ လောကအမြင် ရှိရုံနဲ့တော့ ဘဝဟာ ပြီးပြည့်စုံသေးတာ မဟုတ်ဘူးဆိုတာကို ဉာဏ်နဲ့စဉ်းစားပြီး သေချာစွာ မြင်ခဲ့တဲ့အတွက် လိုအပ်နေတဲ့ ဓမ္မအမြင်ကို မြတ်ဗုဒ္ဓထံ ချဉ်းကပ်ပြီး ပြည့်စုံအောင် ဖြည့်ကျင့်ခဲ့ပါတယ်။ ဒါကြောင့် ဓမ္မအမြင်

ဓမ္မအလင်းပါ ပေါက်ပြီး ဒွိစက္ခု ဆိုတဲ့ နှစ်ဖက်မြင် အဆင့်မြင့် ပုဂ္ဂိုလ်တစ်ဦး ဖြစ်ခဲ့ပါတယ်။

လောကမျက်လုံး လောကအမြင် ကောင်းလို့ ရရှိလာတဲ့ ဘဝခန္ဓာနဲ့ ရာထူး၊ ဂုဏ်သိန်၊ စည်းစိမ် ဥစ္စာဆိုတဲ့ လောကအရှိတွေရဲ့ နောက်မှာ ဓမ္မအမြင် ဓမ္မမျက်လုံးနဲ့ အသိပါ ထည့်ပေးနိုင်မှ လောကလူဖြစ်ကျိုး နပ်လိမ့်မယ်ဆိုတဲ့ အမြင်ဒဿနကို အရှင်ဝင်္ဂီသမထေရ်ဝတ္ထုက မီးမောင်းထိုးပြပြီး သက်သေခံလျက် ရှိနေပါတယ်။

---------------------

**အရှင်မြတ်ရတဲ့ ဧတဒဂ် အဓိပ္ပာယ်**

အရှင်ဝင်္ဂီသမထေရ်ဟာ ဆန်းကြယ်တဲ့ ဉာဏ်နဲ့ ပြည့်စုံတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး ဧတဒဂ်ရတဲ့ ပုဂ္ဂိုလ် ဖြစ်ပါတယ်။ ပါဠိလိုတော့ ပဋိဘာနဝန္တဧတဒဂ် လို့ ခေါ်ပါတယ်။ တကယ်တော့ ဒီ ဧတဒဂ်ကို ‘‘ပါဠိဂါထာ ဓမ္မစာဆိုတော် ဧတဒဂ်’’ လို့လည်း ဆိုနိုင်ပါတယ်။

ဘာလို့လဲဆိုတော့ အရှင်မြတ်ဟာ မြတ်စွာဘုရား ဖူးမြော်ဖို့ သွားတဲ့အခါ မြတ်စွာဘုရားကို ဖူးမြင်လိုက်ရတယ်ဆိုရင်ပဲ လမင်းကြီးလို တစ်မျိုး၊ နေမင်းကြီးလို တစ်သွယ်၊ ကောင်းကင်၊ မဟာသမုဒ္ဒရာတို့လို တစ်လီ၊ ဆင်မင်း၊ ခြသေ့်မင်းတွေနဲ့ တစ်ဖုံ ဥပမာမျိုးစုံအောင် နှိုင်းခိုင်းပြီး မြတ်စွာဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို တစ်ခဏချင်း ဉာဏ်မှာ ထင်လာတဲ့အတိုင်း ပါဠိဂါထာတွေ ဖွဲ့သီကာ ချီးကျူးလျှောက်ထားရင်း ချဉ်းကပ်ခဲ့လို့ပါ။ ဒါကြောင့် အရှင်မြတ်ဟာ ပါဠိဂါထာ ဓမ္မစာဆိုတော် ဧတဒဂ်ဖြစ်တဲ့ ပဋိဘာနဝန္တဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။



**(က) အတိတ်ဘဝ ပါရမီဖြည့် ဆုပန်ခဲ့ပုံ**

အရှင်မြတ်အလောင်း အမျိုးကောင်းသားဟာ ပဒုမုတ္တရမြတ်စွာဘုရားရှင် လက်ထက် ဟံသာဝတီ မင်းနေပြည်က ပစ္စည်းဥစ္စာပြည့်စုံကြွယ်ဝတဲ့ အမျိုးမှာ ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်လို့ ရှေးမထေရ်လောင်းများနည်းတူ မြတ်စွာဘုရားကျောင်းတော် တရားသွားရောက် နာယူတဲ့အခါ မြတ်စွာဘုရားက ရဟန်းတစ်ပါးကို ဆန်းကြယ်တဲ့ ဉာဏ်ပဋိဘာန် ရှိသူတွေထဲမှာ အသာဆုံး - ပဋိဘာနဝန္တ ဧတဒဂ်အရာထား ချီးမြှောက်တာကို ဖူးတွေ့လိုက်ရတယ်။ ဒီအခါ အရှင်မြတ်အလောင်းဟာ အဲဒီ ရဟန်းတော်ကို အားကျပြီး ကုသိုလ်ကောင်းမှုပြုကာ မြတ်စွာဘုရားထံမှာ ‘‘မြတ်စွာဘုရား··· တပည့်တော်လည်း ယခုပြုရတဲ့ ကောင်းမှုကုသိုလ်ကြောင့် နောင်အနာဂတ်မှာ ဆန်းကြယ်တဲ့ ဉာဏ်ရှိသူတွေထဲမှာ အသာဆုံး ဧတဒဂ်ရတဲ့ပုဂ္ဂိုလ် ဖြစ်ရပါလို၏ ဘုရား’’ လို့ ဆုပန်ခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ကလည်း ဒီ အရှင်မြတ်လောင်းရဲ့ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူတဲ့အတွက် ဗျာဒိတ်ပေးတော်မူခဲ့ပါတယ်။

**(ခ) ပစ္ဆိမ္ဘဝဇာတ်ကြောင်း**

အရှင်မြတ်အလောင်းဟာ ပဒုမုတ္တရ မြတ်စွာဘုရားထံမှ ဗျာဒိတ်စကား ရပြီးတဲ့နောက် အသက်ထက်ဆုံး ကုသိုလ်ကောင်းမှုတွေ ပြုလုပ်ကာ လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည် ဖြစ်ရင်းက အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရားလက်ထက် ရောက်တဲ့အခါ သာဝတ္ထိပြည်က ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ သူ့မိဘတွေက သူ့ကို ‘‘ဝင်္ဂီသလုလင်’’ လို့ မှည့်ခေါ်ခဲ့ကြတယ်။ သူဟာ အရွယ်ရောက်တဲ့အခါ ပုဏ္ဏားတွေရဲ့ ဝေဒကျမ်းဂန်ဖြစ်တဲ့ ဗေဒင်သုံးပုံအတတ်ကို သင်ကြားတတ်မြောက်ခဲ့ပါတယ်။ ဒါအပြင် ဝင်္ဂီသဟာ ဆရာ့အပေါ်

မှာ ဝတ်ကြီးဝတ်ငယ် ပြုစုတာ တော်တဲ့အတွက် သူ့ဆရာက သူ့ကို 'ဆဝသီသမန္တန်' အတတ်ကို သင်ပေးခဲ့ပါတယ်။ ဆဝသီသမန္တန်ဆိုတာ သေသွားတဲ့ပုဂ္ဂိုလ်တွေရဲ့ ဦးခေါင်းခွံကို လက်သည်းနဲ့ ခေါက်ကြည့်လိုက်တာနဲ့ ဒီပုဂ္ဂိုလ်ဟာ ဘယ်ဘုံမှာ ဖြစ်နေတယ်ဆိုတာကို သိနိုင်တဲ့ မန္တန် ဖြစ်ပါတယ်။

ပုဏ္ဏားတွေက "ဝင်္ဂီသလုလင်ရဲ့ ဒီ ဆဝသီသမန္တန်အတတ်ဟာ တို့ပုဏ္ဏားတွေအတွက် အသက်မွေးဖို့ လမ်းကြောင်းပဲ" လို့ သိရှိနားလည်တဲ့အတွက် ဝင်္ဂီသကို အဝတ်တွေနဲ့ သေချာပြင်ဆင်ကာရံထားတဲ့ လှည်းပေါ်တင်ပြီး မင်းနေပြည်တော်ပါမကျန် ရပ်တကာ၊ ရွာတကာ လှည့်လည်ကြတယ်။ လူစည်ကားတဲ့နေရာတွေ ရောက်တဲ့အခါ ပုဏ္ဏားတွေက "ဝင်္ဂီသလုလင်ကို တွေ့ရတဲ့သူဟာ စီးပွားတက်တယ်၊ ဂုဏ်သတင်းလည်း ကျော်ကြားတယ်၊ နတ်ပြည်လည်း ရောက်နိုင်တယ်" လို့ ပြောပြီး ဝါဒဖြန့်ကြတယ်။ ဒီအခါ လူတွေက လက်ဆောင်ပဏ္ဏာတွေ ပေးပြီး ဝင်္ဂီသလုလင်ကို တွေ့ချင်မြင်ချင်ဖြစ်လာကြတယ်။

သာမန်လူတွေတင်မက ရှင်ဘုရင်တွေ၊ မှူးမတ်တွေကလည်းပဲ အဲဒီ ဝါဒဖြန့် ပုဏ္ဏားတွေထံ သွားရောက်ပြီး "ဆရာတို့··· ဆရာဝင်္ဂီသမှာ ဘယ်လို အသိဉာဏ် ထူးခြားချက် ရှိပါသလဲ" လို့ မေးမြန်းကြတယ်။ ဒီအခါ ဝါဒဖြန့်ပုဏ္ဏားတွေက "သင်တို့မသိကြဘဲကိုး၊ ဇမ္ဗူဒိပ်တစ်ကျွန်းလုံးမှာ အကျွန်ုပ်တို့ ဆရာဝင်္ဂီသနဲ့ တူတဲ့ အခြားပညာရှိ တစ်ဦးတစ်ယောက်မှ မရှိဘူး၊ ဆရာဝင်္ဂီသဟာ လွန်ခဲ့တဲ့ သုံးနှစ် အထက်က ကွယ်လွန်သွားကြတဲ့ ပုဂ္ဂိုလ်တွေရဲ့ ဦးခေါင်းခွံကို လက်သည်းနဲ့ ခေါက်ကြည့်လိုက်တာနဲ့ 'ဒီပုဂ္ဂိုလ်ဘယ်ဘုံ၊ ဘယ်ဘဝ ရောက်နေတယ်' ဆိုတာ သိနိုင်တယ်" လို့ ပြောပြကြတယ်။



ဝင်္ဂီသကလည်း လာရောက်မေးမြန်းကြတဲ့ လူတွေရဲ့ ယုံမှားသံသယကို ပယ်ဖျောက်ဖို့အတွက် သူ့ရဲ့ မန္တန်အစွမ်းနဲ့ ကွယ်လွန်သွားတဲ့ ပုဂ္ဂိုလ်တွေကို ခေါ်ကာ ပူးဝင်စေပြီး သူတို့ ဘယ်ဘုံ၊ ဘယ်ဘဝ ရောက်နေတယ်ဆိုတာကို ပြောပြခိုင်းပါတယ်။ ဝင်္ဂီသရဲ့ ဒီ ဆဝသီသမန္တန်အစွမ်းကြောင့် လာမေးတဲ့သူတွေက ပိုက်ဆံ တစ်ရာ၊ တစ်ထောင် စသည် ပေးကြလို့ ပုဏ္ဏားတွေမှာ အတော်လေး ငွေဝင်လမ်း ဖြောင့်နေခဲ့ပါတယ်။

ပုဏ္ဏားတွေဟာ ဝင်္ဂီသလုလင်ကို သယ်ဆောင်ပြီး ရပ်တကာ၊ ရွာတကာ၊ နယ်တကာ လှည့်လည်ရင်းက သာဝတ္ထိပြည် ရောက်လာခဲ့ကြတယ်။ ဝင်္ဂီသလုလင်ဟာ ဇေတဝန်ကျောင်းနဲ့ မနီးမဝေးနေရာ ရောက်တဲ့အခါ 'ရဟန်းဂေါတမဟာ ပညာရှိပုဂ္ဂိုလ်ပဲလို့ လူတွေက ပြောကြတယ်၊ ငါဟာ ဒီ ပုဏ္ဏားတွေရဲ့ စကားနားထောင်ပြီး ဒီလိုချည်း အမြဲတမ်း လှည့်လည်နေလို့ မတော်ဘူး၊ ပညာရှိပုဂ္ဂိုလ်တွေထံလည်း ချဉ်းကပ်ဦးမှ သင့်တော်မယ်' လို့ စဉ်းစားမိခဲ့တယ်။ ဒါနဲ့ ဝင်္ဂီသလုလင်ဟာ ပုဏ္ဏားတွေကို "သင်တို့သွားနှင့်ကြ၊ ရဟန်းဂေါတမထံ လူအများနဲ့ မသွားချင်လို့ တစ်ယောက်တည်းပဲ သွားပါရစေ" လို့ ပြောလိုက်ပါတယ်။ ဒီအခါ ပုဏ္ဏားတွေက "အို··· ဝင်္ဂီသ၊ သင် ရဟန်းဂေါတမထံ မသွားချင်ပါနဲ့၊ ရဟန်းဂေါတမက သူ့ဆီ ရောက်လာတဲ့သူကို မျက်လှည့်မာယာ အတတ်နဲ့ လှည့်ဖြားတတ်သူ ဖြစ်တယ်" လို့ ဆိုပြီး တားမြစ်ကြတယ်။

ဝင်္ဂီသလုလင်ကတော့ ပုဏ္ဏားတွေ ပြောတဲ့စကား နားမထောင်ခဲ့ပါဘူး။ မြတ်စွာဘုရားထံ ရောက်အောင် သွားပြီး နှုတ်ဆက်စကား ပြောဆိုကာ သင့်တော်တဲ့ နေရာမှာ ထိုင်နေလိုက်ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ဝင်္ဂီသလုလင်ကို "ဝင်္ဂီသ··· သင်ဟာ အတတ်ပညာ တစ်ခုခု တတ်သိ နားလည်ပါသလား" လို့ မေးတော်

မှုတဲ့အတွက် ဝင်္ဂီသလုလင်က ''အို... အရှင်ဂေါတမ၊ အကျွန်ုပ်ဟာ ဆဝသီသမန္တန်ဆိုတဲ့ အတတ်ပညာ တစ်ခုကို တတ်သိ နားလည်ပါတယ်'' လို့ ဖြေကြားခဲ့ပါတယ်။ ဆက်ပြီး မြတ်စွာဘုရားက ''ဝင်္ဂီသ... သင့်ရဲ့ ဆဝသီသမန္တန်က ဘယ်လို အစွမ်းရှိသလဲ'' လို့ မေးတော်မူတဲ့အခါ ဝင်္ဂီသလုလင်က ''အို... အရှင်ဂေါတမ၊ ဒီ မန္တန်ကို စုတ်ပြီး သုံးနှစ်အထက်က သေသွားတဲ့ပုဂ္ဂိုလ်ရဲ့ ဦးခေါင်းခွံကို လက်သည်းနဲ့ ခေါက်လိုက်ရင် သူ့ရောက်နေတဲ့ ဘုံဌာနကို သိနိုင်ပါတယ်'' လို့ ဖြေဆိုခဲ့ပါတယ်။

ဒီ့နောက်တော့ မြတ်စွာဘုရားက ငရဲရောက်နေသူ တစ်ယောက်ရဲ့ ဦးခေါင်းခွံ တစ်ခု၊ လူ့ပြည် ရောက်နေသူ တစ်ယောက်ရဲ့ ဦးခေါင်းခွံ တစ်ခု၊ နတ်ပြည် ရောက်နေသူ တစ်ယောက်ရဲ့ ဦးခေါင်းခွံ တစ်ခုနဲ့ ပရိနိဗ္ဗာန်စံပြီးတဲ့ ရဟန္တာပုဂ္ဂိုလ်ရဲ့ ဦးခေါင်းခွံတစ်ခု၊ စုစုပေါင်း ဦးခေါင်းခွံ လေးခုကို တစ်ခုချင်းစီ တန်ခိုးနဲ့ ယူဆောင်ပြခဲ့ပါတယ်။ ဝင်္ဂီသလုလင်က ပထမ ဦးခေါင်းခွံကို ခေါက်ကြည့်ပြီး ''အရှင် ဂေါတမ... ဒီ ပုဂ္ဂိုလ်ကတော့ ငရဲ ရောက်နေပါတယ်'' လို့ ဖြေဆိုခဲ့ပါတယ်။ မြတ်စွာဘုရားရှင်က ''သာဓု သာဓု ဝင်္ဂီသ... သင်ဟာ ကောင်းမွန် မှန်ကန်စွာ မြင်ပါပေတယ်၊ ဒီ ပုဂ္ဂိုလ်ကကော အဘယ်ဘုံ ရောက်နေပါသလဲ'' လို့ ဒုတိယ ဦးခေါင်းခွံကို ပြပြီး ဆက်မေးခဲ့ပါတယ်။ ''အို... အရှင်ဂေါတမ၊ သူကတော့ လူ့ပြည်ကို ရောက်နေပါတယ်'' လို့ ဖြေပါတယ်။ ဒီအခါ မြတ်စွာဘုရားက ဆက်ပြီး တတိယ ဦးခေါင်းခွံကို ပြကာ မေးတဲ့အခါ ဝင်္ဂီသက ''အရှင်ဂေါတမ... သူကတော့ နတ်ပြည် ရောက်နေပါတယ်'' လို့ ဖြေဆိုခဲ့ပါတယ်။ ဒီလိုနဲ့ ဝင်္ဂီသလုလင်ဟာ သုံးယောက်စလုံးရဲ့ လားရောက်ရာ ဌာနတွေကို မှန်အောင် ဖြေဆိုနိုင်ခဲ့ပါတယ်။



မြတ်စွာဘုရားက စတုတ္ထမြောက် ရဟန္တာပုဂ္ဂိုလ်ရဲ့ ဦးခေါင်းခွံကို ပြပြီး မေးတဲ့အခါမှာတော့ ဝင်္ဂီသလုလင်ဟာ မန္တန်စုတ်ပြီး ဦးခေါင်းခွံကို လက်သည်းနဲ့ အခါခါ ခေါက်ကြည့်ပေမယ့် အဆုံးနဲ့ အစ ဘာကိုမျှ မမြင်ခဲ့ပါဘူး။ ဒီအခါ မြတ်စွာဘုရားက ဝင်္ဂီသကို ''ဝင်္ဂီသ... သင် မဖြေနိုင်ဘူး မဟုတ်လား'' လို့ မေးတော်မူခဲ့ပါတယ်။ ဝင်္ဂီသက ''အို... ရဟန်း ဂေါတမ၊ ကြည့်ပါဦး၊ စူးစမ်း ကြည့်ပါဦးမယ်'' လို့ ဆိုပြီး ဦးခေါင်းခွံကို ထပ်ကာထပ်ကာ ခေါက်ကြည့်နေပါတယ်။ သာသနာပ မန္တန်တွေနဲ့ ဘယ်လိုလုပ်ပြီး ရဟန္တာပုဂ္ဂိုလ်ရဲ့ လားရာဂတိကို သိနိုင်မလဲ။ ဒီလိုနဲ့ ဦးခေါင်းခွံကို ခေါက်ရင်း ဝင်္ဂီသ ချွေးပြန်လာပါတယ်။ နောက်ဆုံး ရှက်ပြီး ဘာမှမပြောနိုင်ဘဲ တုဏှိဘော ထိုင်နေပါတော့တယ်။

ဒီအခါမှ မြတ်စွာဘုရားက ''ချစ်သား ဝင်္ဂီသ... ပင်ပန်းနေသလား'' လို့ မိန့်တော်မူလိုက်ပါတယ်။ ဝင်္ဂီသက ''မှန်ပါ အရှင် ဂေါတမ... ဒီ ပုဂ္ဂိုလ်ရဲ့ လားရာ ဘုံဌာနကို မသိနိုင်ပါ၊ အကယ်၍ အရှင်ဘုရားတို့ သိခဲ့ရင် ဖြေကြားပေးပါ'' လို့ လက်လျှော့ တောင်းပန်စကား ဆိုခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ ဝင်္ဂီသလုလင်ကို ''ချစ်သား ဝင်္ဂီသ... ငါဘုရားဟာ ဒီ ပုဂ္ဂိုလ် ဘယ်လို ပုဂ္ဂိုလ် ဆိုတာလည်း သိတယ်၊ ဒီ့ထက် လွန်တဲ့ အကြောင်းအရာတွေကိုလည်း သိတယ်'' လို့ မိန့်တော်မူပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာ နှစ်ဂါထာကို ဟောတော်မူခဲ့ပါတယ် –

''ချစ်သား ဝင်္ဂီသ... ရဟန္တာပုဂ္ဂိုလ်ဆိုတာ သတ္တဝါတွေရဲ့ သေရခြင်းသဘော၊ ပဋိသန္ဓေ နေရခြင်းသဘောကိုလည်း သိတယ်၊ ငါးဖြာအာရုံ ကာမဂုဏ်တွေအပေါ်မှာလည်း မကပ်ငြိတော့၊ မဂ္ဂင် ရှစ်ရပ် အကျင့်မြတ်နဲ့ နိဗ္ဗာန်ကို ဆိုက်ရောက်ပြီ၊ သစ္စာလေးပါး

ကိုလည်း သိမြင်ပြီးပြီ၊ ဒါကြောင့် ရဟန္တာပုဂ္ဂိုလ်ကို 'ကိလေသာ ကင်းကွာပြီးတဲ့ ဗြာဟ္မဏ' လို့ ခေါ်တယ်။

ချစ်သား ဝင်္ဂီသ… (ရဟန္တာပုဂ္ဂိုလ်မှာ ခန္ဓာဇာတ်သိမ်း ချုပ်ငြိမ်းသွားပြီ ဖြစ်တဲ့အတွက် ရဟန္တာပုဂ္ဂိုလ်ရဲ့ လားရာဂတိ ဘုံဌာနဆိုတာ မရှိတော့။) ဒါကြောင့် ရဟန္တာပုဂ္ဂိုလ်ရဲ့ လားရာဂတိကို နတ်တွေ၊ ဗြဟ္မာတွေ မသိနိုင်၊ လူတွေလည်း မသိနိုင်၊ ဒီလို လားရာဂတိ မရှိတော့ဘဲ ကိလေသာ အာသဝေါကုန်ပြီးတဲ့ ပုဂ္ဂိုလ်ကို 'ကိလေသာ ကင်းပြီးတဲ့ ဗြာဟ္မဏ' လို့ ခေါ်တယ်။

ဒီအခါ ဝင်္ဂီသလုလင်က မြတ်စွာဘုရားကို "အို… အရှင်ဂေါတမ… မန္တန် မန္တန်ချင်း လဲတဲ့အတွက် အရှုံး မရှိပါဘူး၊ အကျွန်ုပ်တတ်တဲ့ ဆဝသီသမန္တန်ကို သင့်ကို ပေးမယ်၊ အသင်တတ်တဲ့ ဗုဒ္ဓမန္တန်ကို အကျွန်ုပ်ကို ပေးပါ" လို့ လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားက "ဝင်္ဂီသ… ငါဘုရားရှင်တို့ဆိုတာ မန္တန် မန္တန်ချင်း လဲတဲ့ အလုပ် မလုပ်ပါဘူး၊ လိုချင်ရင် ဒီအတိုင်းပဲ မေတ္တာနဲ့ အလကား သင်ပေးပါတယ်" လို့ မိန့်တော်မူလိုက်ပါတယ်။ ဝင်္ဂီသ လုလင်က "ကောင်းပါပြီ အရှင်ဂေါတမ… အကျွန်ုပ်ကို ဗုဒ္ဓမန္တန် ပေးပါ" လို့ ပြောဆိုပြီးနောက် အရိုအသေပေးကာ လက်နှစ်ဖက်ကို လိပ်ငယ် ပုံသဏ္ဌာန် တောင်းခံတဲ့ဟန်ပြုပြီး ထိုင်နေခဲ့ပါတယ်။

ဝင်္ဂီသလုလင်က မန္တန်ကို သင်ပေးဖို့ လျှောက်ထားတဲ့အခါ မြတ်စွာဘုရားရှင်က ဝင်္ဂီသလုလင်ကို "ဝင်္ဂီသ… သင်တို့ ပုဏ္ဏား တွေရဲ့ အယူမှာ တန်ဖိုးကြီးတဲ့ မန္တန်ကို ဖြစ်ဖြစ်၊ အခြား တစ်စုံ တစ်ခုကို ဖြစ်ဖြစ် တောင်းခံတဲ့ပုဂ္ဂိုလ်တွေအဖို့ရာ ပြုကျင့်ရတဲ့ ကျင့်ဝတ် ဆိုတာ မရှိဘူးလား" လို့ မေးတော်မူပါတယ်။ ဝင်္ဂီသလုလင်က "အရှင်ဂေါတမ… ရှိပါတယ်" လို့ ဖြေကြားပါတယ်။ ဒီအခါ



မြတ်စွာဘုရားရှင်က "ငါတို့ မန္တန်ကျတော့ရော မသင်ယူခင် ပြုကျင့်ရတဲ့ ကျင့်ဝတ် မရှိဘူးလို့ သင် ထင်ပါသလား" လို့ ဆက်ပြီး မေးတော်မူပါတယ်။

ပုဏ္ဏားတွေဆိုတာ မန္တန်နဲ့ ပတ်သက်လာရင် မရောင့်ရဲ မတင်းတိမ်နိုင်ကြပါဘူး။ ဒါကြောင့် ဝင်္ဂီသလုလင်ဟာ မြတ်စွာဘုရားကို "အရှင်ဂေါတမ… အရှင်ဘုရားတို့ ဆိုတဲ့ နည်းလမ်း ကျင့်ဝတ် မှန်သမျှ အကုန်လိုက်နာ ပြုကျင့်ပါ့မယ်" လို့ ပြန်လည် လျှောက်ထား ခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက "ဝင်္ဂီသ… ငါတို့ဟာ ဒီ ဗုဒ္ဓမန္တန်ကို သင်ပေးတော့မယ်ဆိုရင် အသွင်တူတဲ့သူတွေကိုပဲ ပေး တာ" လို့ မိန့်လိုက်ပါတယ်။

ဒီအခါ ဝင်္ဂီသလုလင်ဟာ 'ငါသည်ကား အရှင်ဂေါတမ စေခိုင်းတာ မှန်သမျှ အကုန်လုပ်ပြီး မန္တန် သင်ပြီးခါမှပဲ သွားမှ သင့်တော်မယ်' လို့ ကြံစည် စဉ်းစားမိပြီးနောက် အနားမှာရှိတဲ့ ပုဏ္ဏားတွေကို "ငါ အရှင်ဂေါတမထံမှာ ရဟန်းဝတ်သွားတယ်ဆိုပြီး တောင်တောင်ဥဩ လျှောက်စဉ်းစားမနေကြပါနဲ့၊ ငါဟာ ဒီ ဗုဒ္ဓ မန္တန်ကို သင်ယူပြီးသွားရင် ဇမ္ဗူဒိပ် တစ်ကျွန်းလုံးမှာ အကြီးဆုံး ဆရာကြီး ဖြစ်ပါလိမ့်မယ်၊ ဒီလို ဖြစ်သွားရင် သင်တို့အတွက်လည်း ပိုကောင်းတာပေါ့" လို့ နှစ်သိမ့် အားပေးစကား ပြောကြားလိုက်ပါ တယ်။ ဒီနောက်တော့ ဗုဒ္ဓမန္တန်ကို သင်ဖို့အတွက် မြတ်စွာဘုရားအထံ သွားပြီး ရဟန်းဝတ်ခွင့် တောင်းခဲ့ပါတယ်။

ဒါနဲ့ မြတ်စွာဘုရားက အနားမှာ ရှိနေတဲ့ အရှင်နိဂြောဓကပ္ပ ရဟန္တာမထေရ်ကို "ချစ်သား နိဂြောဓကပ္ပ… ဝင်္ဂီသလုလင်ကို ရဟန်းပြုပေးလိုက်ပါ" လို့ မိန့်တော်မူတဲ့အတွက် အရှင်နိဂြောဓကပ္ပ မထေရ်က မြတ်စွာဘုရား မိန့်တဲ့အတိုင်း တစပဉ္စက ကမ္မဋ္ဌာန်း ပြောကြားကာ ဝင်္ဂီသလုလင်ကို ရဟန်းပြုပေးလိုက်ပါတယ်။

မြတ်စွာဘုရားရှင်က အရှင်ဝင်္ဂီသကို "ချစ်သား ဝင်္ဂီသ··· ဗုဒ္ဓမန္တန် သင်ယူဖို့အတွက် ကြိုတင် ကျင့်ရမယ့် ကျင့်ဝတ်ကို အရင်ဆုံး သင်ပါဦး" လို့ မိန့်တော်မူပြီး ၃၂-ကောဋ္ဌာသ ကမ္မဋ္ဌာန်း ရှုပွားနည်းကို သင်ပေးပါတယ်။ အရှင်ဝင်္ဂီသဟာ ဉာဏ်ပညာ ထက်မြက်သူ ဖြစ်တဲ့အတွက် ၃၂-ကောဋ္ဌာသ ကမ္မဋ္ဌာန်းကို ရွတ်ဆိုရင်းနဲ့ပဲ ၃၂-ကောဋ္ဌာသ အစိတ်အပိုင်းတွေ အပေါ်မှာ အပျက်သဘော၊ အဖြစ်သဘောတွေ ရှင်းရှင်းလင်းလင်း သိမြင်လာပြီး ဝိပဿနာဘက်ကူးကာ ပွားများ အားထုတ်တဲ့အတွက်ကြောင့် ရဟန်းဖြစ်ပြီး သိပ်မကြာခင်မှာပဲ အရဟတ္တဖိုလ် ဆိုက်ရောက်ကာ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

အရှင်ဝင်္ဂီသမထေရ် ရဟန္တာဖြစ်ပြီးတဲ့နောက် ပုဏ္ဏားတွေဟာ "ဝင်္ဂီသ ဘယ်လို ဖြစ်နေလဲမသိ၊ ဝင်္ဂီသကို ငါတို့ သွားကြည့်ကြဦးစို့" လို့ တိုင်ပင်ကြပြီး အရှင်ဝင်္ဂီသထံ သွားရောက်ခဲ့ကြပါတယ်။ ရောက်တဲ့အခါ ပုဏ္ဏားတွေက "အို··· ဝင်္ဂီသ၊ ဘယ်လိုလဲ၊ ရဟန်းဂေါတမထံမှာ မန္တန် သင်ပြီးပြီ မဟုတ်လား" မေးကြတဲ့အတွက် အရှင်ဝင်္ဂီသကလည်း သင်ပြီးတဲ့အကြောင်း ပြန်ဖြေပါတယ်။ ဒီအခါ ပုဏ္ဏားတွေက "အခုလို မန္တန် သင်ပြီးပြီ ဆိုရင်လည်း လာ သွားကြစို့" လို့ ခေါ်ကြတယ်။ ဒါပေမယ့် အရှင်ဝင်္ဂီသကတော့ "သင်တို့ သွားကြတော့၊ ငါ့အတွက်တော့ သင်တို့နဲ့ အတူတကွ သွားဖို့ ကိစ္စ မရှိတော့ပါ" လို့ အပြတ်စကား မိန့်ကြားလိုက်ပါတယ်။

ဒီအခါ ပုဏ္ဏားတွေက "ရဟန်းဂေါတမဟာ လှည့်ပတ်တတ်တဲ့ မာယာရှိတယ်လို့ ငါတို့ စောစောကတည်းက သင့်ကို ပြောခဲ့တယ် မဟုတ်လား၊ ခုတော့ သင်ဟာ ရဟန်းဂေါတမ အလိုအကြိုက် လိုက်သွားခဲ့ပြီပေါ့၊ ဒီလိုဆိုတော့လည်း ငါတို့ သင့်ထံမှာ နေလို့ ဘာထူးတော့မလဲ" လို့ ရန်တွေ့စကား ပြောကြားပြီး လာလမ်းအတိုင်းပဲ ပြန်သွားခဲ့ကြတယ်။



အရှင်ဝင်္ဂီသမထေရ်ဟာ မြတ်စွာဘုရားထံ ဘယ်အချိန်ပဲ ချဉ်းကပ် ချဉ်းကပ် ချဉ်းကပ်တဲ့ အခါတိုင်းမှာ မြတ်စွာဘုရား ဂုဏ်ရည်တွေကို တစ်ခဏချင်း ပါဠိဂါထာတွေနဲ့ ဖွဲ့ဆိုသီကုံးပြီး လျှောက်ထားလေ့ ရှိပါတယ်။ ဒါကြောင့်ပဲ မြတ်စွာဘုရားရှင်က အရှင်ဝင်္ဂီသမထေရ်ကို သံဃာ့အလယ်မှာ -

"ချစ်သား ရဟန်းတို့··· ဆန်းကြယ်တဲ့ ဉာဏ်ရှိတဲ့ တပည့်သာဝက ရဟန်းတွေထဲမှာ ဝင်္ဂီသ ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ရဟန်းပဲ" လို့ ချီးကျူးတော်မူပြီး ပဋိဘာနဝန္တ ဧတဒဂ်အရာထားကာ ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်အပိုင်း

အရှင်ဝင်္ဂီသမထေရ် ရတဲ့ ပဋိဘာနဝန္တ ဧတဒဂ်ဆိုတာ တစ်ခဏချင်း ဉာဏ်မှာ ထင်လာတဲ့ ဓမ္မနဲ့ ဆက်စပ်တဲ့ အကြောင်းအရာတွေကို ပါဠိဂါထာသီကုံးပြီး ရွတ်ဆိုပြခဲ့လို့ ရခဲ့တာ ဖြစ်ပါတယ်။ ဒါကြောင့် ဒီ ဧတဒဂ်ကို မင်းကွန်းဆရာတော်ကြီးက "ပါဠိဂါထာ ဓမ္မစာဆို ဧတဒဂ်" လို့ ခေါ်နိုင်ကြောင်း မဟာဗုဒ္ဓဝင်မှာ မိန့်ဆိုထားခဲ့ပါတယ်။ အရှင်ဝင်္ဂီသမထေရ် ဘယ်လိုအကြောင်းအရာတွေကို သီကုံးဖွဲ့ဆိုခဲ့တာလည်း ဆိုတာ သိရှိ ကြည်ညိုနိုင်အောင် သံယုတ်ပါဠိတော်၊ ဝင်္ဂီသသံယုတ် ပါဠိတော်လာ သုတ်ပေါင်း ၁၂- သုတ်ကို သံယုတ်အဋ္ဌကထာ အဖွင့်နဲ့ တန်ဆာဆင်ပြီး ဖော်ပြပါ့မယ်။

### (၁) နိက္ခန္တသုတ်

တစ်ခါမှာတော့ အရှင်ဝင်္ဂီသမထေရ်ဟာ သူ့ရဲ့ ဥပဇ္ဈာယ်ဆရာဖြစ်တဲ့ အရှင်နိဂြောဓကပ္ပမထေရ်နဲ့ အတူ အာဠဝီပြည် အဂ္ဂါဠဝကျောင်းမှာ သီတင်းသုံးနေပါတယ်။ အဲဒီအချိန်က အရှင်ဝင်္ဂီသဟာ

ရဟန်းဝတ်တာ မကြာသေးတဲ့အတွက် ဆွမ်းခံမလိုက်ရဘဲ ကျောင်းစောင့်အနေနဲ့ နေရစ်ခဲ့ရပါတယ်။ အဲဒီအချိန်မှာ အမျိုးသမီးလေးတွေဟာ ဝတ်ကောင်းစားလှ အလှတန်ဆာတွေ ဆင်ယင်ဝတ်ဆင်ပြီး အဂ္ဂါဠဝကျောင်း ကြည့်ဖို့အတွက် ရောက်လာကြတယ်။ အရှင်ဝင်္ဂီသဟာ အဲဒီအမျိုးသမီးတွေကို မြင်လိုက်ရတဲ့အခါ ရာဂစိတ်တွေဖြစ်လာပြီး သာသနာ့ဘောင်မှာ မပျော်တဲ့စိတ်တွေ ဖြစ်လာတယ်။

ဒီအခါ အရှင်ဝင်္ဂီသဟာ 'ဩော်… အရ မတော်လိုက်တာ၊ ရာဂစိတ်တွေက ငါ့ကို နှိပ်စက်နေပါပေါ့လား၊ မပျော်ပိုက်တဲ့ စိတ်တွေ တောင် ဖြစ်လာပြီ။ ဒီစိတ်ရိုင်း စိတ်မိုက်တွေ မြန်မြန် နှင်ထုတ်မှ တော်မယ်' လို့ အသိသတိ ဝင်ပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ပါဠိဂါထာတွေ ရွတ်ဆိုကာ ရာဂစိတ်တွေ၊ မပျော်ပိုက်တဲ့စိတ်တွေကို မောင်းထုတ်ခဲ့ပါတယ်။

* လူ့ဘောင် ခွါရှောင် ရဟန်းဘောင် ဝင်လာပြီး ငြိမ်သက်နေတဲ့ ငါ့ထံ ကာမအကြံ၊ ကာမအတွေးတွေ ဝင်လာပါပေါ့လား။ မာရ်နတ်လွှတ်လိုက်တဲ့ ဒီ ကိလေသာတွေဟာ ကြမ်းကြုတ်လိုက်တာ။

* ဘယ်လောက်တော်တဲ့ လေးသမား ဖြစ်ပါစေ တစ်ခါပစ်မှ မြားတစ်ချောင်းပဲ ပစ်လွှတ်နိုင်တယ်။ ဣတ္ထိယခေါ်တဲ့ လေးသည်တော်တွေကတော့ တစ်ကြိမ်တည်းနဲ့ မြားငါးချောင်း တစ်ပေါင်းတည်း ပစ်နိုင်စွမ်းပကား ရှိငြားပေတကား။

* ကျွမ်းကျင်တဲ့ တစ်ထောင် လေးသမား ပစ်လွှတ်လိုက်တဲ့ မြားတွေထက် အဆပေါင်း များစွာ ပြင်းထန်တဲ့ ကိလေသာမြားတွေ ပစ်နိုင်စွမ်းရှိ ဣတ္ထိယတွေ ငါ့ထံ လာပါစေ။ ငါ တရားမှာ တည်နေရင် သူတို့ ဘယ်လိုမှ အဆိပ်တက်အောင် မပစ်နိုင်ပါဘူးလေ။



* ရှင်တော် မြတ်ဘုရား ဟောကြားတဲ့ ဝိပဿနာတရား ငါ နာကြားခဲ့ပြီ။ ငါရဲ့ စိတ်က ဝိပဿနာ မြတ်ဓမ္မမှာ ပျော်ပိုက်လို့ နေပါပြီ။

* ဟယ်… ကိလေသာယုတ်၊ နောက်သို့ ဆုတ်လော့။ ပြေးဝင်ကပ်လာ နင် ရောက်လာလည်း နင် မမြင်နိုင်တဲ့ ဓမ္မလမ်းဆီ ငါ ကြွချီပေအံ့။

## (၂) အရတိသုတ်

တစ်ခါမှာလည်း အရှင်ဝင်္ဂီသဟာ ဥပဇ္ဈာယ်ဆရာဖြစ်တဲ့ အရှင်နိဂြောဓကပ္ပမထေရ်နဲ့ အတူ အာဠဝီပြည်က အဂ္ဂါဠဝကျောင်းမှာပဲ သီတင်းသုံးနေပါတယ်။ ဥပဇ္ဈာယ်ဆရာက မကြာခဏ အပြင်ကြွနေရတော့ အရှင်ဝင်္ဂီသ တစ်ပါးတည်း ကျောင်းမှာ နေရတာ များပါတယ်။ ဒီအခါ အရှင်ဝင်္ဂီသမှာ သာသနာတော်မှာ မပျော်ပိုက်တဲ့ စိတ်တွေ၊ ကာမဂုဏ်နဲ့ စပ်ယှဉ်တဲ့ အတွေးတွေ ဝင်ဝင်လာပါတယ်။ ဒီလို ဝင်လာတဲ့အခါလည်း တစ်ယောက်တည်း ကိုယ့်ဘာသာ ကြိတ်မှိတ်ပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေ ရွတ်ဆိုကာ မပျော်တဲ့စိတ်တွေ၊ ကိလေသာကာမ အတွေးတွေကို မောင်းထုတ်ခဲ့ပါတယ်။

* သာသနာမှာ မပျော်တာကို ပယ်ရှား။ ကိလေသာရမ္မက် တပ်မက်တာကိုလည်း ပယ်ခွါ။ ကာမနဲ့ပတ်သက်တဲ့အကြံ၊ နည်းနည်းမှ လက်မခံ၊ သတိနဲ့ တွန်းလှန်။ ကိလေသာ အရှုပ်ကင်း၊ ရမ္မက်တွေ ရှင်းမှ၊ "ရှင်ရဟန်း" မည်ပေမပေါ့။

* မြေပြင်နဲ့ ဝေဟင်၊ မြေအောက်ပင် မကျန်ရ၊ ရှိသမျှ ရူပါရုံ လုံးစုံပင် မမြဲ။ ဖြစ်လာလည်း ပျက်ရ၊ အားလုံးဟာ အနိစ္စ၊ ဒီသဘာဝ ဓမ္မတာကို ပညာရှိ ဖြစ်မှတော့ မြင်အောင် ကြည့်ရပေမပေါ့။

* သာမန်လူတွေကတော့ တွေ့သမျှ အာရုံ အဖုံဖုံပေါ်မှာ ကပ်ငြိကြပေမပေါ့။ ရှင်ရဟန်းဆိုတော့ သူတို့လို ငြိတွယ်နေလို့ ဘယ်လိုလုပ် သင့်မလဲ။ အငြိကို အသိနဲ့ ဖယ်ရှား ရမ္မက်တွေ ပါးပါမှ သင့်လှပေမပေါ့။

* အခမ္မ အတွေးအကြံဆိုတာ အာရုံခြောက်တန် အကြောင်းခံကာ လူတွေမှာ ဖြစ်လာကြတယ်။ ရှင်ရဟန်းမှန်ရင်တော့ အာရုံတွေ အကြောင်းပြု ညစ်ညမ်းမှု ကိလေသာ ဖြစ်မလာရအောင် သတိဆောင် ကျင့်မှ တော်လှပေမပေါ့။

* ရင့်ကျက်လို့ စိတ်တည်ကြည်၊ ဟန်ဆောင်မှုတွေ တစ်လီ ကင်းပြီး အသိ ဉာဏ်ပညာနဲ့ တဏှာ ရမ္မက်တွေ ပယ်ဖျက်နိုင်လေမှ ထာဝရ ငြိမ်းချမ်းတဲ့၊ မသေရာ ပြည်ခေမာ နိဗ္ဗာန်နန်းဆီ၊ လှမ်းမီနိုင်ပေမပေါ့။

## (၃) ပေသလသုတ်

အရှင်ဝင်္ဂီသဟာ လူ့ဘဝတုန်းက ဗေဒင်သုံးပုံ ခေါ်တဲ့ ဝေဒကျမ်းဂန်တွေ တစ်ဖက်ကမ်းခပ် တတ်တဲ့အပြင် ဆဝသီသမန္တန်နဲ့ သေသူတွေရဲ့ လားရာဘုံဌာနကိုတောင် ခေါ်ပြီး မေးနိုင်တဲ့အစွမ်းရှိခဲ့သူ ဖြစ်ပါတယ်။ သာသနာ့ဘောင်ရောက်တော့လည်း ဉာဏ်ကောင်းသူ ဖြစ်တာမို့ ပိဋကတ်စာပေ ကျွမ်းကျင် တတ်မြောက်ခဲ့ပါတယ်။ ဒီအခါ မာန်မာနတွေ တက်လာပြီး အခြား သီလရှိတဲ့ ရဟန်းတွေအပေါ် မထီမဲ့မြင်ပြု ရိုင်းရိုင်းစိုင်းစိုင်း ဆက်ဆံပြောဆိုမိခဲ့ပါတယ်။

ဒီလို အမှားအယွင်းတွေ ဖြစ်လာတဲ့အခါ အရှင်ဝင်္ဂီသဟာ 'ဩော်… ငါဟာ ငါ့ရဲ့ ပဋိဘာန် ဉာဏ်ပညာနဲ့ သီလရှိတဲ့ ရဟန်းတွေအပေါ် မထီမဲ့မြင် ပြုမိပေပြီ၊ ငါဟာ လူ့ဘဝ၊ ရဟန်းဘဝကို ကောင်းသော ရခြင်းနဲ့ ရခဲ့သူ မဟုတ်ပေဘူး၊ အရ မတော်လိုက်



တာ' လို့ စိတ်နှလုံး မသာမယာ ဖြစ်ခဲ့ပြီး ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေနဲ့ မာန်မာနကြီးတဲ့သူ မဖြစ်အောင် ကိုယ့်ကိုယ်ကို ဆုံးမခဲ့ပါတယ်။

* သာကီနွယ်ဖွား မြတ်ဗုဒ္ဓရဲ့ သားဖြစ်တဲ့ ဟယ် ဝင်္ဂီသ… မာန်မာနနဲ့ မာန်တက်စရာ၊ အကြောင်းအရာ ပယ်သတ်ကာ ဖယ်ရှားပါလော့။ မာနအလို အလိုက်ပိုခဲ့တဲ့အတွက် တွေဝေကာ နှလုံးတွေ မသာမယာ ဖြစ်ခဲ့ပါပေါ့။

* မာနဂုဏ်တွေ မောက်ကာ သူ့ဂုဏ် သူ့ကျေးဇူးတွေကို ချေဖျက်ပြီး မာနတွေ ကြီးခဲ့တဲ့သူတွေဟာ သေခါမယ် အပါယ်ရောက် ဒုက္ခမီးတွေ တောက်လိမ့်မပေါ့။

* မဂ်ဉာဏ်နဲ့ ကိလေသာတွေကို ပယ်သတ်နိုင်ပါမှ စိုးရိမ်သောက လုံးဝ ကင်းပြီး သတင်း ကောင်းဂုဏ် တစ်ဖုံ သုခဇကန်ရလိမ့်မပေါ့။ ကိုယ်နှင့် အသက် မငဲ့ကွက်ဘဲ အထက် နိဗ္ဗာန်နန်းဆီ စိတ်ညွှတ်ရည်မှ ခမ္မအမြင် ပေါက်လိမ့်မပေါ့။

* ထို့ကြောင့် သာသနာ ကြုံကြိုက်ခါဝယ် မာန်မာနနဲ့ ဒေါသတွေ ပယ်၊ နီဝရဏတွေ ကွယ်နိုင်အောင် ဝီရိယနဲ့ ကြိုးစား၊ ဉာဏ်နဲ့ ပယ်ရှားပြီး ကျင့်ပွားကာ နေထိုင်ပါမှ ကိလေသာတွေ ဆိတ်သုဉ်းတဲ့ ထိပ်ဆုံး နိဗ္ဗာန်နန်းဆီ ဦးတည်နိုင်လိမ့်မပေါ့။

## (၄) အာနန္ဒသုတ်

တစ်ခါမှာတော့ အရှင်အာနန္ဒာမထေရ်ဟာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းမှာ သီတင်းသုံး နေတော်မူပါတယ်။ တစ်နေ့မှာတော့ အရှင်အာနန္ဒာ သာဝတ္ထိမြို့ထဲ ဆွမ်းခံကြွတဲ့အခါ အရှင်ဝင်္ဂီသကို နောက်ပါ တပည့်အဖြစ် ခေါ်သွားပါတယ်။ အရှင်အာနန္ဒာဟာ အလွန် ဘုန်းကံ ကြီးမားပြီး ကြည်ညို ဆည်းကပ်သူလည်း ပေါများပါတယ်။

ရှင်ဘုရင်တွေ၊ မှူးမတ်တွေ၊ သူဌေးတွေဟာ အရှင်အာနန္ဒာကို ပင့်ဖိတ်ပြီး ဆွမ်းကပ်လေ့ရှိပါတယ်။ နန်းတော်တွေ၊ အိမ်တွေ ရောက်သွားတဲ့အခါမှာလည်း အဝတ်အစား အဆင်တန်ဆာ ကောင်းမွန်စွာ ဆင်ယင်ဝတ်ဆင်ထားတဲ့ အမျိုးသမီးတွေက အရှင်အာနန္ဒာကို ယပ်လေ ခတ်ပေးကြတယ်၊ အရှင်အာနန္ဒာ အနီးမှာ လာထိုင်ပြီး မေးခွန်းတွေ မေးလျှောက်ကာ တရားလည်း နာလေ့ရှိကြပါတယ်။

အဲဒီလို အခြေအနေဆိုတော့ နောက်ပါ တပည့်ဖြစ်တဲ့ အရှင်ဝင်္ဂီသဟာ ရဟန်းဘောင်လည်း ရောက်ခါစ၊ တရားလည်း အားထုတ်နေခါစ ဆိုတော့ အမျိုးသမီး ဝိသဘာဂအာရုံတွေ မြင်ပြီး သူ့မှာ ရာဂစိတ်တွေ ဖြစ်ပါတော့တယ်။ အရှင်ဝင်္ဂီသဟာ သဒ္ဓါတရားနဲ့ ရဟန်းပြုလာသူပီပီ ဖြောင့်မတ်သူလည်း ဖြစ်တာကြောင့် ရာဂစိတ်တွေ ဖြစ်လာတာနဲ့ တစ်ပြိုင်နက် 'ငါ့သန္တာန်မှာ ဒီ ရာဂစိတ်တွေ တိုးပွားလာရင် ပစ္စုပ္ပန်အကျိုးစီးပွား၊ တမလွန်ကျိုးစီးပွားတွေ ဆုတ်ယုတ်ပျက်စီးသွားနိုင်တယ်' လို့ ဆင်ခြင်စဉ်းစားပြီး အရှင်အာနန္ဒာမထေရ်ထံ ခုလို ဂါထာနဲ့ ဖွင့်ဟဝန်ခံပြီး လမ်းညွှန်ဆုံးမ ဩဝါဒစကား တောင်းခံခဲ့ပါတယ်။

"ဂေါတမနွယ်ဖွား အရှင်အာနန္ဒာ အရှင်မြတ်ဘုရား... ကာမရာဂမီးတွေ တပည့်တော်မှာ တညီးညီး တောက်လောင်နေပါတယ် ဘုရား၊ တပည့်တော်ရဲ့ စိတ်တွေ ပူလောင်နေပါတယ် ဘုရား၊ တပည့်တော် တောင်းပန်လျှောက်ထားပါ၏၊ တပည့်တော်အား သနားသောအားဖြင့် ရာဂငြိမ်းကြောင်း တရားကောင်းကို ဟောကြားပေးတော်မူပါဘုရား"

ဒီအခါ အရှင်အာနန္ဒာမထေရ်က အောက်ပါအတိုင်း ရာဂငြိမ်းကြောင်း တရားကို ဟောတော်မူခဲ့ပါတယ် -

* "ဝင်္ဂီသ... အမှတ်သညာ ဖောက်ပြန်လို့ ရာဂမီးတွေ လောင်မြိုက်ပြီး သင့်စိတ်တွေ ပူလောင်နေတာပါ၊ 'လှပ တင့်တယ်



ပါပေတယ်' ဆိုတဲ့ ရာဂနဲ့ ယှဉ်စပ်တဲ့ အာရုံအမှတ် နိမိတ်ကို ပယ်ဖျောက်လိုက်ပါ။

* ရုပ်နာမ်ဓမ္မ သင်္ခါရတရားတွေကို မမြဲခြင်းသဘော အနိစ္စ၊ ဆင်းရဲခြင်း သဘော ဒုက္ခ၊ အစိုးမရ ကိုယ့်အလိုသို့ မလိုက်ပါခြင်းသဘော အနတ္တအနေနဲ့ ရှုမှတ်ပြီး ပြင်းထန်တဲ့ ရာဂမီးကို ငြိမ်းစေပါလော့၊ ထပ်ကာထပ်ကာ အလောင်အမြိုက် မခံပါနဲ့။

* မတင့်တယ်တဲ့ အသုဘသဘောနဲ့ စိတ်ကို ပွားများပါ၊ ကမ္မဋ္ဌာန်းအာရုံ တစ်ခုအပေါ်မှာ စိတ်ကို တင်ထားပြီး သမာဓိကို ပွားများပါ၊ ခန္ဓာမှာရှိတဲ့ ရုပ်အပေါင်းအစု အပေါ်မှာ သတိကပ်ပြီး မှတ်တဲ့ ကာယဂတာသတိကို ဖြစ်စေပါလော့၊ ရာဂအပေါ်မှာ ငြီးငွေ့တဲ့ နိဗ္ဗိန္ဒ ဉာဏ်များသူ ဖြစ်စေပါလော့။

* ဝိပဿနာတရား ရှုပွားပြီး မာနကို ပယ်ခွာပါလော့၊ မာနကို ပယ်နိုင်ပြီဆိုရင် ရာဂစသည်မှ ကင်းငြိမ်းကာ နေရပါလိမ့်မယ်"

## (၅) သုဘာသိတသုတ်

တစ်ချိန်မှာတော့ မြတ်စွာဘုရားက ရဟန်းတော်များကို အင်္ဂါ လေးတန်နဲ့ ပြည့်စုံတဲ့ စကားမျိုးဟာ သုဘာသိတ - ကောင်းစွာ ပြောဆိုအပ်တဲ့ စကားကောင်းဖြစ်ကြောင်း၊ ဒီစကားမျိုးဟာ အပြစ်လည်း မရှိတဲ့အပြင် ပညာရှိသူတော်ကောင်းတွေကလည်း မကဲ့ရဲ့တဲ့ စကား ဖြစ်ကြောင်း နိဒါန်းချီ မိန့်တော်မူပြီး အင်္ဂါ လေးတန်ကို အောက်ပါအတိုင်း ထုတ်ပြတော်မူခဲ့ပါတယ်။

စကားကောင်းအရာ အင်္ဂါ လေးတန် -

* သုဘာသိတဝါစာ - ကောင်းစွာ ပြောဆိုအပ်တဲ့စကား ဖြစ်ခြင်း၊

* ဓမ္မဝါစာ - တရားနဲ့ညီ တရားနည်းလမ်းကျတဲ့ စကားဖြစ်ခြင်း၊

* ပိယဝါစာ - ချစ်ဖွယ်သော စကားဖြစ်ခြင်း၊
* သစ္စဝါစာ - မှန်သော စကားဖြစ်ခြင်း၊

ဒီအင်္ဂါ လေးတန်နဲ့ ပြည့်စုံတဲ့စကားဟာ 'စကားကောင်း' ဖြစ်ပါတယ်လို့ မြတ်စွာဘုရားက မိန့်တော်မူတာပါ။

ဒီအခါ တရားနာ ပရိသတ်ထဲမှာ ပါတဲ့ အရှင်ဝင်္ဂီသမထေရ်က မတ်တတ်ရပ် လက်အုပ်ချီကာ သူ့ဉာဏ်ထဲ ရုတ်တရက် ထင်လာတဲ့ ချီးကျူးစကားကို လျှောက်ထားချင်ပါကြောင်း တောင်းပန်လျှောက်ထားခဲ့တဲ့အတွက် မြတ်စွာဘုရားကလည်း လျှောက်ထားဖို့ ခွင့်ပြုခဲ့ပါတယ်။

* "မိမိပြောကြား၊ ထိုစကားဖြင့်၊ မိမိမှာလည်း မပူပန်ရ၊ ထိုမှ တခြား၊ သူတပါးလည်း ထိပါး မရှိ၊ ထိုသည့်စကား၊ ပြောကြား ပါလေ၊ သုဘာသိတ စကား ခေါ်အပ်ပေ။

* မိမိ သူတစ်ပါး၊ နှစ်ဦးသားတို့၊ နှစ်လိုဖွယ်ငြား၊ စကားဖြစ်မှ၊ ချစ်ဖွယ်စကား၊ မည်လေငြား၏။ သူတစ်ပါးအား၊ ချစ်ဖွယ်စကား၊ ပြောကြားလိုလျှင်၊ နှစ်လိုဖွယ်သာ ဆိုပါလေလော့။ နှစ်လိုဖွယ် မရှိ၊ အမုန်းပြည့်၊ ထိုသည့်စကား မဆိုနှင့်။

* စကား သစ္စာ၊ ဆိုသည်မှာကား၊ အမြိုက်ဘောဇဉ် အလား၊ မှတ်ငြားပါဘိ။ ထိုသည့် အမှန်စကား၊ ပြောကြားခြင်းဟာ၊ ရှေးဟောင်းစဉ်လာ၊ ဓမ္မတာတည်း။ သူတော်မြတ်များ၊ စကားပြောက၊ သစ္စာဓမ္မ၊ ကျိုးရှိမှသာ၊ မိန့်မြွက်ပါ၏။

* ရှင်တော်ဘုရား၊ မိန့်ကြားသောခါ၊ ပြည်နိဗ္ဗာကို၊ မုချ မှန်စွာ၊ ရောက်ဖို့ရာနှင့်၊ ဒုက္ခတွေဆုံး၊ ကျင့်သုံးနိုင်ရန်၊ စိတ်ရည်သန်ကာ၊ ဟောကြားပါ၏။ ထိုစကားသာ၊ စကားတကာ၊ လွန်စွာ့လွန်စွာ အမြတ်ဆုံးပါ ဘုရား"



## (၆) သာရိပုတ္တသုတ်

တစ်ခါမှာတော့ အရှင်သာရိပုတ္တရာ မထေရ်မြတ်ဟာ ရဟန်းတော်တွေကို ချိုသာ နူးညံ့ပြီး ကြည်လင်ပြတ်သားတဲ့ အသံတော်နဲ့ တရားဟောတော်မူပါတယ်။ အရှင်မြတ်ကြီးရဲ့ တရားတော်ဟာ အနက်အဓိပ္ပာယ် ရှင်းလင်းပြီး ကြောင်းကျိုးပြကာ ဟောတဲ့တရားဖြစ်တာကြောင့် ရဟန်းတော်တွေကို တရားကျင့်သုံးရန်အတွက် စိတ်အားထက်သန်စေပြီး ကြောင်းကျိုးမြင်စေတဲ့ တရားတော် ဖြစ်ပါတယ်။ တရားနာခံ ရဟန်းတော်တွေကလည်း တကယ့်ကို စူးစိုက်ပြီး တရားတော်ထဲ စိတ်နှစ်ကာ လိုချင်စိတ် အပြည့်အဝနဲ့ နာယူနေခဲ့ကြတယ်။

ဒီမြင်ကွင်းကို မြင်ပြီး အရှင်ဝင်္ဂီသမထေရ်ဟာ အရှင်သာရိပုတ္တရာမထေရ်ကို အရှင်မြတ်နဲ့ လျောက်ပတ်တဲ့ ဂါထာတွေနဲ့ ချီးကျူးချင်စိတ်တွေ ဖြစ်လာတယ်။ ဒီအခါ အရှင်သာရိပုတ္တရာထံ ခွင့်တောင်းပြီး အရှင်မြတ်ကြီးရဲ့ ခွင့်ပြုချက်နဲ့ အရှင်ဝင်္ဂီသဟာ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေနဲ့ အရှင်သာရိပုတ္တရာကို ချီးကျူးခဲ့ပါတယ်။

* "အရှင်သာရိပုတ္တရာဟာ နက်နဲတဲ့ပညာ၊ ကျိုးကြောင်းသိပညာ၊ ကြီးမားတဲ့ပညာတွေနဲ့ ပြည့်စုံတော်မူပါ၏၊ အကြောင်းဟုတ်သည်၊ မဟုတ်သည်မှာလည်း ကျွမ်းကျင် လိမ္မာပါဘိ။ တရားအသိတွေလည်း ဖြန့်ဝေနေပါ၏။

* အကျဉ်းနဲ့တစ်မျိုး၊ အကျယ်နဲ့ တစ်ဖုံ၊ သာလိကာလို ချိုသာတဲ့ ပုံစံနဲ့၊ စုံလင်စွာ ဓမ္မ တရားကို၊ ဟောကြားပါဘိ။

* အရှင်မြတ်ရဲ့ ချိုမြိန်တဲ့ တရားသံ၊ စိတ်အားတွေ ထက်သန်စွာနဲ့၊ တရားမှာ စိတ်တွေစိုက်ကာ၊ ကြားနာရတဲ့ ရဟန်းတွေမှာ၊ တက်ကြွကာ စိတ်ကြည်သာ၊ ဝေဝေဖြာ ပီတိတွေ ဖြစ်ပါဘိ၊ အေးမြပါ၏"

## (၇) ပဝါရဏာသုတ်

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ ရဟန္တာအပါး ငါးရာနဲ့ အတူ သာဝတ္ထိပြည်က ဝိသာခါ ကျောင်းအမကြီးရဲ့ ပုဗ္ဗာရုံကျောင်းမှာ သီတင်းသုံးနေတော်မူပါတယ်။ အဲဒီနေ့က ၁၅ ရက် လပြည့်နေ့ ဖြစ်ပြီး တစ်ပါးနဲ့တစ်ပါး အပြစ်တွေ့ရင် ထောက်ပြဖို့ ဖိတ်ကြားတဲ့ ပဝါရဏာပြုရမယ့်နေ့လည်း ဖြစ်ပါတယ်။ ပထမဦးဆုံး မြတ်စွာဘုရား ရှင်က "ရဟန်းတို့… ယခု ငါ သင်တို့ကို ဖိတ်ကြားပါတယ်၊ ငါရဲ့ ကိုယ်အမူအရာ၊ နှုတ်အမူအရာ တစ်ခုခုကို သင်တို့အနေနဲ့ ကဲ့ရဲ့စရာအဖြစ် မြင်တွေ့ကြပါရဲ့လား" လို့ ရဟန်းတွေကို မိန့်တော်မူ လိုက်ပါတယ်။

ဒီအခါ အရှင်သာရိပုတ္တရာမထေရ်မြတ်က နေရာမှာ ထပြီး လက်ကတော့တင်ကာ မြတ်စွာဘုရား ရှိရာဘက် လက်အုပ်ချီလျက် အနေအထားနဲ့ "အရှင်ဘုရား… တပည့်တော်တို့ဟာ မြတ်စွာဘုရားရဲ့ တစ်စုံတစ်ခုသော ကာယကံ၊ ဝစီကံကိုမျှ ကဲ့ရဲ့စရာအနေနဲ့ မမြင်ပါ ဘုရား၊ တကယ် စင်စင်တော့ မြတ်စွာဘုရားရှင်ဟာ အခြားသူတွေ မဖြစ်စေနိုင်၊ မသိစေနိုင်၊ မဟောနိုင်တဲ့ မဂ်တရားကို ဖြစ်စေနိုင်သူ၊ သိစေနိုင်သူ၊ ဟောပြနိုင်သူ ဖြစ်ပါတယ်ဘုရား၊ မြတ်စွာဘုရားဟာ အရဟတ္တမဂ်တရားကို ထိုးထွင်းသိတော်မူ၊ မြင်တော်မူ၊ မဂ်တရားမှာ လိမ္မာကျွမ်းကျင်သူ ဖြစ်တော်မူပါတယ်ဘုရား၊ အရှင်ဘုရားဟာ တပည့်တော်တို့ရဲ့ ရှေ့သွားခေါင်းဆောင် ဖြစ်ပြီး တပည့်တော်တို့က အရှင်ဘုရားရဲ့ နောက်လိုက်တွေပါ ဘုရား၊ အရှင်ဘုရား… တပည့် တော်လည်း မြတ်စွာဘုရားကို ဖိတ်ကြားပါတယ် ဘုရား၊ တပည့် တော်ရဲ့ ကိုယ်အမူအရာ၊ နှုတ်အမူအရာ တစ်စုံတစ်ခုကို ကဲ့ရဲ့စရာ အပြစ်အနေနဲ့ မြင်တွေ့ပါသလား ဘုရား" လို့ လျှောက်တင်ခဲ့ပါတယ်။



မြတ်စွာဘုရားရှင်က "သာရိပုတ္တရာ… ငါဘုရားလည်း သင့်ရဲ့ ကဲ့ရဲ့ ပြစ်တင်စရာ ကိုယ်နှုတ်အမူအရာ တစ်ခုတလေကိုမှ မမြင်တွေ့ပါ၊ သာရိပုတ္တရာ… သင်ဟာ ကြီးသောပညာ၊ ကျယ်ပြန့် သော ပညာ၊ ရွှင်သော ပညာ၊ လျင်မြန်သော ပညာ၊ ဖောက်ထွင်း နိုင်သော ပညာတွေနဲ့ ပြည့်စုံပါပေတယ်၊ ဥပမာအနေနဲ့ စကြဝတေး မင်းရဲ့ သားကြီးဟာ ဖခမည်းတော် စကြာမင်း လည်စေတဲ့ စကြာ ရတနာကို အတုလိုက်ကာ လည်စေနိုင်သလို အသင်လည်း ငါဘုရား ဟောတဲ့ တရားတော်တွေကို အတုလိုက်ကာ ဟောကြားနိုင်ပါပေ တယ်" လို့ ချီးကျူးစကား မိန့်ကြားတော်မူခဲ့ပါတယ်။

အရှင်သာရိပုတ္တရာက ဆက်ပြီး "မြတ်စွာဘုရား… တပည့်တော်ရဲ့ ကဲ့ရဲ့ ပြစ်တင်ဖွယ် ကိုယ်နှုတ်အမူအရာကို မတွေ့ခဲ့ပါ လျှင် ဒီ ရဟန်း ငါးရာတို့ရဲ့ ကဲ့ရဲ့ ပြစ်တင်စရာ ကိုယ်နှုတ်အမူအရာ များ ရှိပါသလား ဘုရား" လို့ လျှောက်တင်ခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားရှင်က "သာရိပုတ္တရာ… ဒီ ရဟန်းငါးရာလုံးဟာ ရဟန္တာတွေချည်း ဖြစ်ကြတာမို့ ငါဘုရားအနေနဲ့ ကဲ့ရဲ့ ပြစ်တင်စရာ ကိုယ်နှုတ်အမူအရာ တစ်စုံတစ်ခုမှ မရှိပါ" လို့ မိန့်တော်မူခဲ့ပါတယ်။

မြတ်စွာဘုရားနဲ့ အရှင်သာရိပုတ္တရာတို့ ယခုလို အပြန်အလှန် ဖိတ်ကြားကာ ပဝါရဏာပြုနေပုံကို အရှင်ဝင်္ဂီသအနေနဲ့ မြင်တွေ့ရတဲ့ အခါ ဝမ်းမြောက်ဝမ်းသာ ချီးကျူးလိုတဲ့ စိတ်တွေ ဖြစ်ပေါ်လာတဲ့ အတွက် မြတ်စွာဘုရားထံ ခွင့်ပန်ကာ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေနဲ့ ချီးကျူးစကား လျှောက်ထားခဲ့ပါတယ်။

* "သံယောဇဉ် အနှောင်အဖွဲ့တွေ ဖြတ်ပြီး ဆင်းရဲ လည်း မရှိပြန်၊ တစ်ဖန် ဘဝသစ်၊ လားဖြစ်စရာလည်း မရှိပါ၊

ထေရ်မဟာရဟန္တာ ငါးရာတို့၊ စင်ကြယ်စွာ ပဝါရဏာ ပြုနိုင်ဖို့ရာ၊ တညီတညာ စုဝေးမိပါပေ့တကား။

* ဘုန်းတေဇာ လွန်စွာကြီးမြတ်ဘိ၊ စက္ကဝတ်မင်းရာဇာ၊ အမတ်တကာ ဝန်းရံပြီး၊ ရှုမညီး တိုင်းခန်းသာ၊ လှည့်လည်သည့်ပမာ၊ ကိလေသာ ကင်းစင်သည့်၊ အတုမရှိ မြတ်ဗုဒ္ဓါ၊ ဘဂဝါရှင်တော်ဘုရားကိုလ၊ ဝိဇ္ဇာဉာဏ်နဲ့လည်းပြည့်စုံ၊ ကိလေလည်းကုန် တပည့်အစုံတို့၊ ဝန်းရံပုံ လွန်စွာတင့်၊ ထူးမြင့်ပါလှ။

* မြတ်ဗုဒ္ဓ တပည့်တွေမှာ၊ ပြည့်စုံကာ ကျင့်သီလ၊ ထူးမြတ်ကြပါ။ ထေရ်မဟာ၊ ရဟန္တာ ငါးရာတို့ဟာ၊ ဗုဒ္ဓမြတ်စွာ၊ ဘဂဝါရဲ့၊ သာဝကာ၊ တပည့်သားတွေချည်းပါ။ ထိုတပည့်တို့ရဲ့ ဖဆရာ၊ မြတ်ဘဂဝါ၊ စောသတ္ထာလည်း၊ တဏှာညစ် ကိလေသာ၊ ပယ်သတ်ကာ လွန်စွာကင်း၊ ထိန်လင်းပ နေပမာ၊ ထွန်းတောက်ဖြာဖြာ။ နေမင်းအဆွေ၊မြတ်ဇိနေကို၊ ရိုသေစွာ ရှိခိုးပါဘုရားလေး”

## (၈) ပဝါရဏာသုတ်

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ တပည့်ရဟန်းတစ်ထောင့် နှစ်ရာ့ ငါးကျိပ်နဲ့အတူ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံး နေတော်မူပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က ရဟန်းတွေကို နိဗ္ဗာန်နဲ့စပ်တဲ့ တရားဒေသနာကို ကြောင်းကျိုးပြကာ ဟောကြားတော်မူခဲ့ပါတယ်။ တပည့်ရဟန်းတွေကလည်း ရိုသေလေးစားမှု အပြည့်နဲ့ တရားတော်ထဲ စိတ်နှစ်ကာ ကောင်းမွန်စွာ နာကြားခဲ့ကြပါတယ်။ ဒီမြင်ကွင်းကို မြင်တွေ့ရတဲ့အခါ အရှင်ဝင်္ဂီသမထေရ်ဟာ တစ်ခဏချင်း ဂါထာဇန္ဒ ဖွဲ့သီကုံးပြီး လျှောက်ထားချင်တဲ့ဆန္ဒတွေ ဖြစ်ပေါ်လာပြီး မြတ်စွာဘုရားထံ ခွင့်ပန်ကာ ဖော်ပြပါအဓိပ္ပာယ်ရတဲ့ ဂါထာတွေနဲ့ စာပန်းချီ ခြယ်မှုန်းကာ လျှောက်ထားခဲ့ပါတယ်။



* “ကိလေသာမြူမှေး၊ ညစ်ကြေးလည်း ကင်းပြီး၊ ဘေးဘယာ၊ အဖြာဖြာလည်း၊ ဝေးကွာလှသည့်၊ နိဗ္ဗာနဓာတ်၊ တရားမြတ်ကို၊ သေချာကျနှ၊ ဟောညွှန်ပြသား၊ မြတ်ဘုရားကို၊ ရဟန်းအမော်၊ တစ်ထောင်ကျော်တို့၊ ရိုသေစွာ ဖူးမြော် ချဉ်းကပ်တော်မူနေကြပါပေတကား။

* မြတ်စွာဘုရား၊ ဟောညွှန်ကြားသည့်၊ ညစ်ကြေးကင်းပ၊ မြတ်ဓမ္မကို၊ သာဝကေ ရဟန်းတွေ၊ နာကြပေ၏။ တစ်ထောင်ကျော်သား၊ သံဃာများဖြင့်၊ ခြံရံကာ သီတင်းသုံး၊ သောင်းလုံးကျော် မြတ်ဗုဒ္ဓ၊ လွန်စွာ့ လွန်စွာ၊ တင့်တယ်ပါပေသည်တကား။

* ဝိပဿီစသား၊ မြတ်ဘုရား ခုနစ်ဆူတွင်၊ ခုနစ်ဆူမြောက်၊ ဘုန်းတော်တောက်၍၊ ပွင့်တော်မူသား၊ တို့ဘုရားကား၊ မဟာမိုးကြီး၊ ရွာသွန်းဖြိုးသည့်ပမာ၊ တပည့် ဝေနေယျာ၊ အဖြာဖြာကို၊ ကရုဏာတရား၊ စိတ်မှာထားပြီး၊ တရားမိုးကြီး၊ ရွာသွန်းဖြိုးနေပေသည်တကား။

* အို… မဟာဝီရ၊ မြတ်ဗုဒ္ဓ။ ဝင်္ဂီသ ခေါ်မည်၊ တပည့်တော်သည်လည်း၊ ကရုဏာကြီးမား၊ ရှင်တော်ဘုရားကို၊ ဖူးမြော်လိုလှ၊ မြတ်ဆန္ဒကြောင့်၊ တရားကျင့်ပါ၊ နေ့သန့်ရာမှ၊ ထွက်ခွာခဲ့ပါသည်ဘုရား။ အရှင်ဘုရား၏၊ ခြေတော်အစုံ၊ ကြာပဒုံကို၊ မွမ်းထုံအတိ၊ မြတ်ပီတိဖြင့်၊ ထိမိသေချာ၊ ကျနစွာ ပူဇော်ကန်တော့ပါသည်ဘုရား”

အရှင်ဝင်္ဂီသက အခုလို လေးဂါထာနဲ့ သီကျုံးဖွဲ့ဆို လျှောက်ထားပြီးတဲ့အခါ မြတ်စွာဘုရားရှင်က အရှင်ဝင်္ဂီသကို “ချစ်သား ဝင်္ဂီသ… ဒီ ဂါထာတွေက ကြိုတင် တွေးကြံထားတဲ့ ဂါထာတွေလား၊ ဒါမှမဟုတ် တစ်ခဏချင်း လက်တန်းဖွဲ့သီတဲ့ ဂါထာတွေလား” လို့ မေးတော်မူခဲ့ပါတယ်။ ဒီအခါ အရှင်ဝင်္ဂီသက “ခုမှ တပည့်

တော်ရဲ့ ဉာဏ်မှာ ထင်လာတဲ့ ဂါထာတွေပါ ဘုရား၊ ကြိုတင် စိတ်ကူး ကြံရွယ်ထားတဲ့ ဂါထာတွေ မဟုတ်ပါ ဘုရား" လို့ ပြန်လည် လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားရှင်က ဆက်ပြီး "ချစ်သား ဝင်္ဂီသ… ဒီလိုဆို ဒီ့ထက်ပိုပြီး တစ်ခဏချင်း သင့်ဉာဏ်မှာ ထင်လာ တဲ့ ဂါထာတွေ ရှိရင် ဆက်လျှောက်ပါဦး" လို့ တိုက်တွန်းတော်မူခဲ့ ပါတယ်။ ဒီအခါ အရှင်ဝင်္ဂီသက ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာ လေးဂါထာကို ဆက်လက် လျှောက်ထားခဲ့ပါတယ်။

* "ငါတို့အားထား၊ မြတ်ဘုရားကား၊ မာရ်နတ်၏ လမ်းများကို၊ လွှမ်းမိုးကာ ကျော်ကာဖြတ်၊ ကိလေသာ ကြောင့်တံသင်း တွေကို၊ ပယ်သတ်ကာ ရှင်းလင်းပြီး၊ နိဗ္ဗာန်ခရီး၊ ကြွခဲ့ပြီ တကား။ ကိလေသာတွေ မမှီအပ်၊ မြင့်မြတ်တဲ့ မြတ်ဓမ္မကို၊ ဝေဖန်ကာ ဟောကြား၊ အနှောင်အဖွဲ့တွေမှ လွတ်ကင်းအောင်၊ အမှောင်ခွင်းကာ၊ အလင်းတွေ ပြတော်မူသည့်၊ မြတ်မုနိ ဘဂဝါ ပရမေကို၊ ရှိသေစွာ ဖူးကြ အများ။

* ဗုဒ္ဓမြတ်စွာ၊ ဘဂဝါသည်၊ သြဃလေးဖြာ၊ သံသရာ မှ၊ ကူးမြောက်စေရန်၊ စိတ်ရည်သန်၍၊ မဂ္ဂင်ရှစ်ဖြာ၊ ဒေသနာကို၊ သေချာကျနှ၊ ဟောဖော်ပြခဲ့။ ထိုသည့်တရား၊ ညွှန်ကြားတိုင်းသာ၊ ကျင့်ခဲ့ပါကြ၊ သာဝကတို့၊ ဓမ္မအမြင်၊ လင်းလင်းထင်၍၊ ဉာဏ အမြင်၊ ရှင်းပြီတကား။

* တရားဓမ္မ၊ ထွန်းတောက်ပအောင်၊ ကောင်းစွာကျနှ၊ ဟောဖော်ပြသား၊ မြတ်ဘုရားကား၊ ဒိဋ္ဌိစသား၊ ကိလေတရားတို့၊ လွတ်ကြောင်း နိဗ္ဗာန်၊ တရားမှန်ကို၊ ဧကန်ဒိဋ္ဌ၊ မြင်တွေ့ပြီးမှ၊ ပဉ္စဝဂ္ဂီ၊ မထေရ်စသား၊ ဝေနေယျများကို၊ တရားအမှန်၊ ဝေဖန်ပိုင်းခြား၊ ဟောကြားခဲ့ပြီ တကား။



* ထိုသို့ဟောဖော်၊ တရားတော်ကို၊ တရားသိမြင်၊ ပညာရှင်တို့၊ ဘယ်မှာ မေ့လျော့၊ ပေါ့ပေါ့ဆဆ၊ နေနိုင်ပါ့မလဲ။ ထူးကဲလှစွာ၊ မြတ်ဗုဒ္ဓါ၏၊ သာသနာကြုံကြိုက်၊ ခွင့်သာခိုက်မှာ၊ အပ္ပမာဒတရား၊ လက်ကိုင်ထားပြီး၊ မေ့လျော့ခြင်းကင်း၊ သတိတင်း ကာ၊ အကျွန်ုပ် ကျင့်ပေမည်တကား"

## (၉) ကောဏ္ဍညသုတ်

တစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်ဟာ ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူပါတယ်။ ဒီအခါ အရှင်ကောဏ္ဍညမထေရ်ဟာ မြတ်စွာဘုရားထံမှောက် ချဉ်းကပ် ရောက်လာပြီး မြတ်စွာဘုရားရဲ့ ခြေတော်ကို သူ့ရဲ့ ဦးခေါင်းဖြင့် ရှိခိုးဦးတိုက် ကန်တော့ခဲ့ပါတယ်။ လက်နဲ့လည်း မြတ်စွာဘုရားရဲ့ ခြေတော်ကို ဆုပ်နယ်ပြီး "မြတ်စွာဘုရား… တပည့်တော် ကောဏ္ဍညပါဘုရား" လို့ နှုတ်နဲ့လည်း မြတ်စွာဘုရားကို လျှောက် ထားခဲ့ပါတယ်။

ဒီလို လျှောက်တာကလည်း မြတ်စွာဘုရားက သူ့နာမည်ကို မသိမှာစိုးလို့ လျှောက်တာ မဟုတ်ပါဘူး။ အရှင်ကောဏ္ဍညမထေရ် ဟာ မြတ်စွာဘုရား သာသနာမှာ အကြီးဆုံး တပည့်ကြီး ဖြစ်တဲ့ အတွက် အလွန်ထင်ရှားတဲ့ မထေရ်ဖြစ်ပါတယ်။ မြတ်စွာဘုရားအနီးမှာ နေရင် ဘုရားဖူး လာကြတဲ့ ရဟန်းတွေ၊ ဒကာ၊ ဒကာမတွေက ဘုရားရှင်ကို ဖူးမြော်ပြီးရင် အရှင်မြတ်ကြီးထံလည်း ဝင်ရောက် ကန်တော့လေ့ ရှိပါတယ်။ အရှင်မြတ်ကြီးက တစ်ပါးတည်း အေးအေး ဆေးဆေး နေလိုသူဆိုတော့ ခုလို ပရိသတ် အများနဲ့ နှုတ်ဆက် ပြောဆိုနေရတာကို မပျော်မွေ့တဲ့အတွက် မြတ်စွာဘုရားထံ ခွင့်ပန်ပြီး ဟိမဝန္တာတောင်က ဆဒ္ဒန်အိုင်အနီးမှာ သီတင်းသုံးနေခဲ့တာပါ။

နောက်တစ်ကြောင်းကလည်း တရားဓမ္မသဘင်မှာ နေရာယူတဲ့အခါ မြတ်စွာဘုရားက သံဃာ့အလယ်မှာ သီတင်းသုံး ထိုင်တော်မူပြီးနောက် မြတ်စွာဘုရားရှင်ရဲ့ လက်ယာဘက်နေရာမှာ အရှင်သာရိပုတ္တရာ၊ လက်ဝဲဘက်နေရာမှာ အရှင်မဟာမောဂ္ဂလာန်၊ အဲဒီပြီးခါမှ အရှင်ကောဏ္ဍညမထေရ် စတဲ့ သံဃာတော်တွေ အစဉ်အတိုင်း ထိုင်ရတာ ဖြစ်ပါတယ်။ ဒီအခါ ဝါစဉ်အရဆိုရင် အရှင်ကောဏ္ဍညမထေရ်က အကြီးဆုံး ဖြစ်တာမို့ မြတ်စွာဘုရားရဲ့ လက်ဝဲ၊ လက်ယာမှာ နေရာယူတော်မူကြတဲ့ အရှင်သာရိပုတ္တရာနဲ့ အရှင်မဟာမောဂ္ဂလာန်တို့က အရှင်ကောဏ္ဍညမထေရ်ကို အားတုံ့အားနာဖြစ်ပြီး ထိုင်ရတာ မဝံ့မရဲ ဖြစ်နေကြပါတယ်။ အဂ္ဂသာဝက နှစ်ပါးဖြစ်တဲ့ အရှင်သာရိပုတ္တရာနဲ့ အရှင်မဟာမောဂ္ဂလာန်တို့ ခုလို အားတုံ့အားနာ ဖြစ်နေတာကို အရှင်ကောဏ္ဍညမထေရ် သိတဲ့အခါ 'သြော်… ငါက ဝါစဉ်အရ အကြီးဆုံး ဖြစ်ပေမယ့် သူတို့နှစ်ပါးက အဂ္ဂသာဝက ဆုပန်ပြီး လာခဲ့ကြတဲ့ တကယ့် ပုဂ္ဂိုလ်ထူးတွေ၊ သူတို့နဲ့ ထိုက်တန်တဲ့နေရာ သူတို့ ထိုင်နေရတာ ဖြစ်တယ်၊ ငါရှိနေရင် ဝါစဉ်ကို ငဲ့ပြီး ဒီ အဂ္ဂသာဝက နှစ်ပါး အနေခက်နေလိမ့်မယ်၊ ဒါကြောင့် တောထဲမှာပဲ သွားပြီး အေးဆေးစွာ နေမယ်' လို့ တွေးကြံကာ ဟိမဝန္တာတောထဲကို ထွက်သွားပြီး သီတင်းသုံးနေခဲ့တာ ဖြစ်ပါတယ်။

အရှင်ကောဏ္ဍညမထေရ် ဟိမဝန္တာတောထဲမှာ သွားနေတာ ၁၂-နှစ် ကြာပြီဖြစ်တဲ့အတွက် မြတ်စွာဘုရားအနီးမှာ ရှိနေကြတဲ့ တချို့သာဝကတွေက သူ့ကို မမြင်ဖူးကြပါဘူး။ ဒါကြောင့် မြတ်စွာဘုရားကို ရှိခိုးတဲ့အခါ "တပည့်တော် ကောဏ္ဍညပါ ဘုရား" လို့ နာမည်ထုတ်ဖော်ပြီး ရှိခိုးတာ ဖြစ်ပါတယ်။

ယခုလို အရှင်ကောဏ္ဍညမထေရ်က မြတ်စွာဘုရားရှင်ကို မြတ်မြတ်နိုးနိုး တရိုတသေ ရှိခိုး ကန်တော့နေတာကို အရှင်ဝင်္ဂီသ



မြင်တွေ့လိုက်ရပြီးနောက် ဂါထာတွေ သီကျူးပြီး ချီးကျူးလိုတဲ့အတွက် မြတ်စွာဘုရားထံ ခွင့်ပန်ကာ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာတွေနဲ့ ချီးကျူး လျှောက်ထားခဲ့ပါတယ်။

* "ဘုရားနည်းတူ၊ လေးဆူသစ္စာ၊ သိမြင်ပါသော၊ ကောဏ္ဍညမည်တွင်၊ ထေရ်အရှင်ဟာ၊ ထက်မြက်လုံ့လ၊ ဉဿာဟနှင့်၊ လုံးဝဥသုံ၊ ပြည့်စုံပေခဲ့။ ချမ်းသမာပတ်၊ ရပြီးလတ်၍၊ အမြဲချမ်းသာ၊ ဆိတ်ငြိမ်စွာဖြင့်၊ တစ်ပါးတည်းသာ၊ နေခဲ့ပါပေသည်တကား။

* တစ်ဝတို့ပြင်၊ ထေရ်အရှင်ဟာ၊ အပ္ပမာဒတရား၊ လက်ကိုင်ထားကာ၊ ကျင့်သုံးပါသဖြင့်၊ ကိုးဖြာဓမ္မ၊ လောကုတ္တရာ၊ ရပြီးပါခဲ့။

* အာနုဘာဝလွန်စွာကြီးမားသည့် မဟာနုဘာဝဂုဏ်၊ သုံးပါး ဝိဇ္ဇာ ဉာဏ်သုံးဖြာနှင့် သေချာကျန ပြည့်စုံလှသဖြင့် တေဝိဇ္ဇဂုဏ်၊ သူတစ်ပါးတို့ရဲ့ စိတ်ကို သိစွမ်းနိုင်သည့် စေတောပရိယဂုဏ်၊ ဤသို့ပေါင်းကုန်၊ ဂုဏ်ပေါင်းစုံသား၊ မြတ်ဘုရားအမွေ၊ ခံယူပေသည့်၊ ကောဏ္ဍည မည်တွင်၊ ထေရ်အရှင်သည်၊ သုံးလူ့ထွတ်တင်၊ ဘုရားရှင်၏၊ ခြေတော်အစုံ၊ ကြာပဒုံကို၊ ကိုယ်နှုတ်နှလုံး၊ သုံးပါးပျောင်းပျော့၊ မာန်ကိုလျှော့ကာ၊ ကန်တော့နေပေသည်တကား"

## (၁၀) မောဂ္ဂလ္လာနသုတ်

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ ရဟန္တာ အပါး ငါးရာနဲ့အတူ ရာဇဂြိုဟ်ပြည်အနီးက ဣသိဂိလိတောင်မှာ သီတင်းသုံး နေတော်မူပါတယ်။ ဒီအခါ အရှင်မဟာမောဂ္ဂလာန်မထေရ်ဟာ သူရဲ့ စိတ်တော်နဲ့ ကိလေသာဥပဓိ လုံးဝမရှိဘဲ ကိလေသာ ကင်းစင်တော်မူတဲ့ အခြားရဟန်းတွေရဲ့စိတ်ကို ဆင်ခြင်ကြည့်နေခဲ့ပါတယ်။

ဒီအခြင်းအရာကို အရှင်ဝင်္ဂီသမထေရ် သိလိုက်တဲ့အခါမှာလည်း ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ သုံးဂါထာနဲ့ သီကျူးပူဇော်ခဲ့ပါတယ်။

* "ဝဋ္ဋဒုက္ခခပ်သိမ်း၊ ငြိမ်းတော်မူပြီးသည့်၊ ရှင်ထီးဘုရားကို၊ ဝိဇ္ဇာသုံးဖြာ၊ ပြည့်စုံပါ၍၊ ကိလေမာန်ဟုန်၊ အလုံးစုံကို၊ အကုန်စွန့်ပြီး၊ ရဟန္တာချည်းသာ၊ ဖြစ်ကြပါသော၊ ထေရ်မြတ် မဟာ၊ ပါးငါးရာတို့က၊ ဝိုင်းအုံကာ ဆည်းကပ်နေပါပေသည်တကား။

* မဟိဒ္ဓိဂုဏ်၊ ပြည်စုံပါသော၊ မောဂ္ဂလာန်မည်တွင်၊ မထေရ်ရှင်သည်၊ ဆွတ်ဆွတ်ဖြူလတ်၊ မိမိစိတ်ဓာတ်ဖြင့်၊ ကိလေကင်းစဉ်၊ ရဟန္တာထေရ်သခင်တို့၏၊ ကိလေ ဥပဓိ၊ လုံးဝမရှိသည့်၊ ကိလေကင်းလတ်၊ စိတ်တော်မြတ်ကို၊ ကောင်းမွန်စွာ ဆင်ခြင်နေပါပေသည်တကား။

* ဤသို့ပေါင်းထုံ၊ တန်ခိုးဂုဏ်နှင့်၊ ပြည့်စုံပါငြား၊ တပည့်သား ဖြစ်တော်မူကြသည့် ရဟန္တာ အပါး ငါးရာတို့သည်၊ သံသရာ တစ်ဖက်ကမ်း၊ တက်လှမ်းတော်မူပြီး၍၊ လုံးစုံ ခြင်းရာ၊ အပေါင်းဂုဏ်အင်္ဂါတို့နှင့်၊ ပြည့်စုံပါငြား၊ ရှင်တော်ဘုရားကို၊ ကောင်းစွာ ရိုသေ၊ ဆည်းကပ်နေကြပါပေသည်တကား"

## (၁၁) ဂဂ္ဂရာသုတ်

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်ဟာ စမ္ပာပြည်အနီးက ဂဂ္ဂရာ အမည်ရှိတဲ့ ရေကန်အနီးမှာ ရဟန်း အပါး ငါးရာတို့နဲ့ အတူ သီတင်းသုံး နေတော်မူခဲ့ပါတယ်။ ဒါ့အပြင် မြတ်စွာဘုရားအနီးမှာ ရတနာသုံးပါးကို ဆည်းကပ် ကိုးကွယ်ကြတဲ့ ဥပါသကာ အမျိုးသား ခုနစ်ရာ၊ ဥပါသိကာမ အမျိုးသမီး ခုနစ်ရာနဲ့ အထောင်မက များစွာသော နတ်ဗြဟ္မာတွေလည်း ရှိနေကြပါတယ်။

မြတ်စွာဘုရားရှင်ဟာ အနားမှာ ရှိနေတဲ့ ရဟန်းတွေ၊ ဒကာ၊ ဒကာမတွေ၊ နတ်ဗြဟ္မာတွေ အားလုံးထက် အဆင်းတော်အနေနဲ့ရော၊



အခြံအရံ အနေနဲ့ပါ သာလွန် တင့်တယ်တော်မူပါတယ်။ ဒီ အခြင်းအရာကို အရှင်ဝင်္ဂီသမထေရ် ဖူးတွေ့ရပြန်တော့လည်း စာဖွဲ့လိုတဲ့ ဆန္ဒတွေ ဖြစ်လာတာမို့ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာနဲ့ သီကျူးကာ လျှောက်ထားခဲ့ပါတယ်။

* "မြူတိမ်ကင်းစင်၊ ထက်ကောင်းကင်ဝယ်၊ ရောင်ဝါပဝင်း၊ ငွေလမင်းနှင့်၊ ရောင်ခြည် တစ်ထောင်၊ အလင်းဆောင်သည့်၊ အမှောင်ပယ်ခွင်း၊ ရှင်နေမင်းတို့၊ ထွန်းလင်း တောက်ကာ၊ တင့်တယ်ပါ၏။

* ပမာထားယူ၊ ထို့အတူပင်၊ မုနိထွတ်တင်၊ ဘုရားရှင်လည်း၊ ရောင်ခြည် ခြောက်ဖြာ၊ ကွန့်မြူးပါ၍၊ အသရေထွန်းတင့်၊ ရံခြွေဆင့်လျက်၊ လောကဥဿုံ၊ အလုံးစုံကို၊ လွှမ်းခြုံသိမ်းကာ၊ အလွန်ပင် တင့်တယ် သပ္ပာယ်တော်မူလှပါပေသည်တကား"

## (၁၂) ဝင်္ဂီသသုတ်

တစ်ချိန်မှာတော့ အရှင်ဝင်္ဂီသမထေရ်ဟာ သာဝတ္ထိပြည် အနာထပိဏ်သူဌေး ဆောက်လုပ် လှူဒါန်းတဲ့ ဇေတဝန်ကျောင်းမှာ သီတင်းသုံး နေတော်မူပါတယ်။ အရှင်ဝင်္ဂီသမထေရ်ဟာ ရဟန်းဖြစ်ပြီး သိပ်မကြာခင်မှာပဲ မြတ်စွာဘုရား သင်ပေးတဲ့ ကမ္မဋ္ဌာန်းတရား ကျင့်ပွားပြီး ရဟန္တာ ဖြစ်တော်မူခဲ့ပါတယ်။ ရဟန္တာဖြစ်ပြီးတဲ့နောက် အရဟတ္တဖိုလ် ဖလသမာပတ်ဝင်စားပြီး နိဗ္ဗာန်ကို အာရုံပြုကာ ချမ်းသာစွာ သီတင်းသုံးနေခဲ့ပါတယ်။ သမာပတ်မှ ထပြီးတဲ့နောက်မှာတော့ ဝမ်းမြောက်ဝမ်းသာနဲ့ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာငါးဂါထာကို ရွတ်ဆို သီကျူးခဲ့ပါတယ်။

* ငါဟာ အရင်က၊ တစ်ရွာမှ တစ်ရွာ၊ တစ်ပြည်မှ တစ်ပြည်၊ စာကဗျာတွေ ဖွဲ့စီပြီး၊ အတိုင်းအရှည် မရှိ၊ လှည့်လည်နေ

ခဲ့ပါ၏။ ထိုစဉ်အခါ၊ မြတ်ဗုဒ္ဓါကို၊ ကောင်းစွာ ကျန၊ ဖူးမြင်ရသဖြင့်၊ ကြည်ညိုသဒ္ဓါ၊ ဖြစ်ခဲ့ပါ၏။

* ငါလျှင် ကြည်ညို၊ သဒ္ဓါပိုခဲ့ရပါသော၊ ရှင်စောသတ္တာ၊ မြတ်ဗုဒ္ဓါသည်၊ ငါ့အား မပြတ်၊ ခန် အာ ဓာတ်၊ တရားတွေကို၊ ခွဲခြမ်းစိတ်ဖြာ၊ ဝေဖန်ကာ၊ ပြခဲ့ပါသဖြင့်၊ လူ့ဘောင်ခွာရှောင်၊ ရဟန်းဘောင်သို့၊ ငါလျှင် ဝင်ရောက်ခဲ့ပါ၏။

* သဒ္ဓါကိန်းလတ်၊ အကောင်းဓာတ်ဖြင့်၊ ချဉ်းကပ်ကိုးကွယ်ကြတဲ့ ရဟန်း၊ ရဟန်းမတွေနဲ့ တကွ၊ လူ နတ် ဗြဟ္မာသတ္တဝါတွေပါ မကျန်ရ၊ လောကသား အားလုံးတို့အတွက်၊ ဗုဒ္ဓမြတ်စွာ၊ ဘဂဝါသည်၊ သဗ္ဗညုဉာဏ်ဓာတ်၊ အလင်းမြတ်ကို၊ ရအပ်ခဲ့ပေပြီတကား။

* မြတ်ဘုရားထံမှောက်၊ ငါရောက်လာခြင်းကား၊ ကောင်းသောလာခြင်း ဖြစ်ခဲ့လေပြီ တကား။ ငါသည် သုံးပါး ဝိဇ္ဇာ၊ ဉာဏ်အလင်းဓာတ်မဟာကိုလည်း၊ ရခဲ့ပေပြီတကား။ ဗုဒ္ဓဘုရား၊ ဟောဖော်ကြားသည့်၊ အဆုံးအမ တရားကိုလည်း၊ ကြိုးစားကာ ကျင့်သုံးပြီးခဲ့ပေပြီတကား။

* ငါသည် ရှေးဘဝတွေက ဖြစ်အင်၊ ခန္ဓာအစဉ်ကိုလည်း သိခဲ့ပေပြီတကား။ ဒိဗ္ဗစက္ခု ဉာဏ်မြတ်၊ အလင်းဓာတ်ကိုလည်း ရခဲ့ပေပြီတကား။ တန်ခိုးအဖုံဖုံ၊ အစုံဖန်ဆင်းနိုင်ငြား၊ ဣဒ္ဓိဝိဓ ဉာဏ်ဓာတ်တရားကိုလည်း ရခဲ့ပေပြီတကား။ တစ်ဝထို့ပြင်၊ စေတောပရိယ အဘိညာဉ်ဖြင့်၊ သူတစ်ပါး စိတ်အစဉ်တွေကိုလည်း သိနိုင်ခဲ့ပေပြီတကား”

မိမိတို့တစ်တွေဟာ ရဟန္တာပုဂ္ဂိုလ်မှ မဖြစ်သေးရင်တော့ ဝိသဘာဂ အာရုံတွေနဲ့ ကြုံတွေ့လာတဲ့ အခါ သတိလက်လွတ်သွားရင် ရာဂမီးတွေ တောက်လောင်ခံနေရဦးမှာပါပဲ။ လောကအလျောက် ပြည့်စုံလာတဲ့ ရာထူးဂုဏ်သိန်၊ စည်းစိမ်ဥစ္စာ၊ ရုပ်ဆင်းအင်္ဂါနဲ့



အတတ်ပညာ ပြည့်စုံမှုကို အကြောင်းပြုပြီး မာန်တွေလည်း တက်မိနေကြဦးမှာပါ။ ဒီလို ရာဂမီးတွေ၊ မာနမီးတွေ တောက်လောင်လာတာကို အချိန်မီ မထိန်းနိုင်ကြရင်တော့ မမှားသင့်တဲ့ အမှားတွေ ကျူးလွန်ပြီး ပစ္စုပ္ပန်မှာရော သံသရာမှာပါ ဒုက္ခပင်လယ် ဝေရဦးမှာပါ။

အဲဒီလို ဒုက္ခပယ်လယ် မဝေရအောင် အရှင်ဝင်္ဂီသမထေရ်ကိုယ့်ကိုယ်ကိုယ် သတိပေး ဆုံးမတဲ့အတိုင်း တရားအသိနဲ့ ထိန်းပြီး ဖြစ်လာတဲ့ ရာဂမီး၊ မာနမီးတွေကို ငြိမ်းသတ်ကြရမှာပါ။ အရှင်မြတ်လို ဖြစ်လာတဲ့ အကုသိုလ်တွေကို တရားအသိနဲ့ ထိန်းနိုင်ပြီဆိုရင်တော့ မိမိတို့တစ်တွေလည်း ဧကန်သုခ ဆိုထိုက်လှတဲ့ အမတရိပ်မြုံ နန်းရွှေဘုံကို ခိုလှုံနိုင်မှာကတော့ မြေကြီးလက်ခတ် မလွဲပါလို့ပဲ ဆိုပါရစေ။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမအုပ်၊ စာ ၂၀၈။
၂။ မဟာဗုဒ္ဓဝင်၊ ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ စာ ၃၅၉။
၃။ သံယုတ်ပါဠိတော်၊ ပထမတွဲ၊ စာ ၁၈၇။
၄။ သံယုတ်အဋ္ဌကထာ၊ ပထမတွဲ၊ စာ ၂၄၆။
၅။ အပဒါန် ပါဠိ၊ ဒုတိယတွဲ၊ စာ ၁၅၀။
၆။ အပဒါန်အဋ္ဌကထာ၊ ဒုတိယတွဲ၊ စာ ၂၅၃။
၇။ ထေရဂါထာပါဠိ၊ ၃၆၈။
၈။ ထေရဂါထာ အဋ္ဌကထာ၊ ဒုတိယတွဲ၊ စာ ၅၀၈။
၉။ ဓမ္မပဒအဋ္ဌကထာ၊ ဒုတိယတွဲ၊ စာ ၄၄၉ ။



တပည့်ပရိသတ်နဲ့အတူ ကြည်ညိုဖွယ်ဆောင်သည့်အရာ အသာဆုံး

## သမန္တပါသာဒိက ဧတဒဂ်ရ

# အရှင်ဥပသေန ဝင်္ဂန္တပုတ္တမထေရ်

အများအကျိုး ဆောင်ရွက်တဲ့အခါ ကိုယ်လုပ်တဲ့ အလုပ်ဟာ အများအတွက် ကောင်းကျိုးကို ဖြစ်စေတဲ့အလုပ် ဖြစ်ပေမယ့် လုပ်ရမယ့် အချိန်နဲ့ မလုပ်ရမယ့်အချိန်ဆိုတာ ခွဲခြားသိဖို့တော့ လိုအပ်ပါတယ်။ အချိန်မကျသေးဘဲနဲ့ အများကောင်းကျိုး လုပ်တဲ့အခါ ကိုယ်ကျိုးလည်း မပြီး၊ အများအကျိုးလည်း ထိထိရောက်ရောက် မဆောင်ရွက်နိုင် ဖြစ်တတ်ပါတယ်။ ဒီလို ဖြစ်သွားတဲ့ပုဂ္ဂိုလ်တွေ မိမိတို့ ပတ်ဝန်းကျင်မှာ အတော်လေး တွေ့ရပါတယ်။

အရှင်ဥပသေနဟာ ရဟန်းဖြစ်စ တစ်ဝါအရမှာပဲ မြတ်စွာဘုရား သာသနာကို ကြီးပွားတိုးတက်စေချင်တဲ့ စိတ်နဲ့ ရဟန်းပြုချင်တဲ့ အမျိုးသားတစ်ယောက်ကို သူကိုယ်တိုင် ဆရာလုပ်ပြီး ရဟန်းခံပေးခဲ့ပါတယ်။ သာသနာမှာ ရဟန်းတွေ များလာရင် ပိုပြီး ထည်ဝါခံ့ညား

တိုးတက်လိမ့်မယ်ဆိုတဲ့ ကောင်းတဲ့အတွေးနဲ့ပါ။ ဒါပေမယ့် မြတ်စွာဘုရားက သူ့ရဲ့လုပ်ရပ်ကို အသိအမှတ် မပြုခဲ့ပါဘူး။ ကဲ့ရဲ့ ပြစ်တင်ပြီး စည်းကမ်းချက်တွေတောင် အသစ်သတ်မှတ်ခဲ့ပါတယ်။

အကြောင်းကတော့ သူကိုယ်တိုင်က ကိုယ့်အတွက် တရားလုံလောက်အောင်လည်း အားမထုတ်ရသေး၊ ဝိနည်း စည်းကမ်းတွေကိုလည်း အပြည့်အစုံ နားမလည်သေးတဲ့အတွက် တပည့်တွေ မွေးပြီး ဘုန်းကံကြီးမားအောင်၊ အခြံအရံ ပေါများအောင် လုပ်ဆောင်ကာ လမ်းမှား ရောက်သွားနိုင်တဲ့အတွက်ကြောင့်ပါ။ ဒါကြောင့် မိမိတို့တစ်တွေလည်း အရှင်မြတ်လို မဖြစ်ရအောင် အရှင်မြတ်ရဲ့ ဖြစ်ရပ်က သတိပေး ဆုံးမနေတာကို မြင်အောင်ကြည့်တတ်ဖို့ အရေးကြီးလှပါတယ်။

အခုလို မြတ်စွာဘုရားရဲ့ အသိအမှတ်ပြု ချီးကျူးမှုကို မရဘဲ ကဲ့ရဲ့ ပြစ်တင်ခံရတဲ့အခါ အရှင်ဥပသေနဟာ စိတ်လည်း မပျက်၊ စိတ်ဓာတ်လည်း မကျခဲ့ပါဘူး။ ပရိသတ်မွေးမှုကို အကြောင်းပြုပြီး အကဲ့ရဲ့ ခံရတာကို ပရိသတ်မွေးမှုနဲ့ပဲ အချီးအကျူး ခံရအောင် ငါ ကောင်းမွန်စွာ ကြိုးစားလိုက်နာမယ်လို့ စိတ်ဆုံးဖြတ်ချက်ချကာ ကြိုးစား အားထုတ်ခဲ့ပါတယ်။ အရှင်မြတ်ရဲ့ ဒီစိတ်ထားဟာလည်း မိမိတို့အတွက် အတုယူ လိုက်နာကျင့်သုံးစရာ ဖြစ်ပါတယ်။ ဒီလို အဖိုးတန် သတိထားစရာနဲ့ အတုယူလိုက်နာ ကျင့်သုံးစရာတွေကို ဖော်ပြနေတဲ့ အရှင်ဥပသေန အကြောင်းကို ကြည့်ညိုကြပါမယ်။

---------

## အရှင်မြတ်ရဲ့ ဘွဲ့အမည် နဲ့ ဧတဒဂ် အဓိပ္ပာယ်

ဥပသေန ဆိုတာ အရှင်မြတ်ရဲ့ နာမည်ရင်း ဖြစ်ပါတယ်။ အရှင်မြတ်ဟာ ဝင်္ဂန္တပုဏ္ဏားရဲ့ သား ဖြစ်တာမို့ ဥပသေန နောက်မှာ 'ဝင်္ဂန္တပုတ္တ'ဆိုတာ တွဲပါနေတာ ဖြစ်ပါတယ်။ ဒါကြောင့် 'ဥပသေန ဝင်္ဂန္တပုတ္တ' ဆိုတာ 'ဝင်္ဂန္တ ပုဏ္ဏားရဲ့သား ဥပသေန မထေရ်' လို့



အဓိပ္ပာယ်ရပါတယ်။ တကယ်တော့ အရှင်ဥပသေန မထေရ်ဟာ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးရဲ့ ညီတော် ဖြစ်ပါ တယ်။

ဒီ မထေရ်မြတ်ဟာ သူကိုယ်တိုင်သာ ကြည်ညိုဖွယ် ဂုဏ်ဆောင်တာ မဟုတ်ပါဘူး။ သူ့ရဲ့ တပည့် ပရိသတ်တွေကလည်း ကြည်ညိုဖွယ် ဂုဏ်ရည်တွေနဲ့ ပြည့်စုံကြပါတယ်။ အခုလို သူကိုယ်တိုင် သာမက သူ့ရဲ့ အခြံအရံ တပည့်ပရိသတ်တွေပါ ကြည်ညိုဖွယ် ဂုဏ်ဆောင်တဲ့အတွက်ကြောင့် အရှင်မြတ်ဟာ 'သမန္တ ပါသာဒိက-ပရိသတ်နဲ့တကွ ကြည်ညိုဖွယ်ဂုဏ်ဆောင်' ဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

### (က) အရှင်မြတ်ရဲ့ ရှေးကောင်းမှု နဲ့ ဆုတောင်း

အရှင်မြတ်အလောင်း သူတော်ကောင်းဟာ ပဒုမုတ္တရ မြတ်စွာဘုရား လက်ထက်တော်မှာ ဟံသာဝတီ မင်းနေပြည်က မြင့်မြတ်တဲ့မျိုးနွယ်မှာ ဖြစ်ခဲ့ပါတယ်။ အရွယ်ရောက်တဲ့အခါ ရှေးမထေရ်လောင်းများ နည်းတူ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားနာယူခဲ့ပါတယ်။ တရားနာနေတုန်းမှာပဲ ပဒုမုတ္တရ မြတ်စွာဘုရားက ရဟန်းတစ်ပါးကို သမန္တပါသာဒိက - တပည့်ပရိသတ်နဲ့အတူ ကြည်ညိုဖွယ်ဂုဏ်ဆောင် ဧတဒဂ်အရာထား ချီးမြှောက်တာကို အရှင်မြတ်အလောင်း တွေ့မြင်ခဲ့ရပြီး အားကျစိတ် ဖြစ်ခဲ့ပါတယ်။

ဒါကြောင့် အရှင်မြတ်အလောင်း အမျိုးကောင်းသားဟာ မြတ်စွာဘုရားရှင်နဲ့တကွ သံဃာတော်များကို ပင့်ဖိတ်ပြီး အလှူဒါန ပြုလုပ်ကာ မြတ်စွာဘုရားထံမှာ 'သမန္တပါသာဒိက' ဧတဒဂ်ဆု ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားရှင်ကလည်း အရှင်မြတ်အလောင်းရဲ့ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူတဲ့အတွက် ဗျာဒိတ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။

## (ခ) ပစ္စုပ္ပန်ဘဝ ရဟန်းပြုပုံနဲ့ တောဒဂ်ရပုံ

အရှင်မြတ်အလောင်း အမျိုးကောင်းသားဟာ အသက်ထက်ဆုံး ကောင်းမှုကုသိုလ် ပြုခဲ့ပြီးနောက် လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ရင်းက အကျွန်ုပ်တို့ မြတ်စွာဘုရား လက်ထက်တော် ရောက်တဲ့အခါ မဂဓတိုင်း နာလကရွာက သာရီပုဏ္ဏေးမရဲ့ ဝမ်းကြာတိုက်မှာ ပဋိသန္ဓေ နေတော်မူခဲ့ပါတယ်။ မိဘများက 'ဥပသေန' လို့ အမည်ပေးခဲ့ကြတယ်။

ဥပသေနသူငယ် အရွယ်ရောက်တဲ့အခါ ဗေဒင်သုံးပုံ သင်ကြားတတ်မြောက်ပြီးနောက် မြတ်စွာဘုရား အထံတော်မှာ တရားနာယူရင်းက သဒ္ဓါတရား ဖြစ်ပေါ်လာခဲ့ပြီး ရှင်ရဟန်း ပြုခဲ့ပါတယ်။ အရှင်ဥပသေန ရဟန်းဖြစ်ပြီး တစ်ဝါအရမှာပဲ မြတ်စွာဘုရား သာသနာတော် ကြီးပွားတိုးတက်အောင် ပြုမယ်ဆိုတဲ့ ရည်ရွယ်ချက်နဲ့ အမျိုးကောင်းသား တစ်ဦးကို သူကိုယ်တိုင် ဥပဇ္ဈာယ်ဆရာအဖြစ်နဲ့ တာဝန်ယူပြီး ရဟန်းပြုပေးခဲ့ပါတယ်။

ဝါကျွတ်တဲ့အခါ ပဝါရဏာ ပြုပြီးနောက် အတူနေ တပည့်ရဟန်းက တစ်ဝါရတဲ့အချိန်၊ သူ ကိုယ်တိုင်က နှစ်ဝါ ရချိန်မှာပဲ 'မြတ်စွာဘုရားရှင်က ငါ့ကို မြင်ပြီး နှစ်သက် သဘောကျတော်မူမှာပဲ' ဆိုတဲ့ မျှော်လင့်ချက်နဲ့ တပည့်ရဟန်းကို ခေါ်ကာ မြတ်စွာဘုရားထံ အဖူးမြော် သွားရောက်ခဲ့ပါတယ်။ မြတ်စွာဘုရားထံ ရောက်ပြီးနောက် မြတ်စွာဘုရားကို ရှိခိုးကန်တော့ကာ ထိုင်နေတဲ့ အရှင်ဥပသေနကို မြတ်စွာဘုရားက "အို··· ရဟန်း၊ သင် ဘယ်နှဝါ ရှိပြီလဲ" လို့ မေးတော်မူပါတယ်။ အရှင်ဥပသေနက နှစ်ဝါ ရပြီ ဖြစ်တဲ့အကြောင်း ဖြေကြားခဲ့ပါတယ်။ နောက်ပြီး မြတ်စွာဘုရားက "ဒီရဟန်းကကော ဘယ်နှဝါ ရပြီလဲ" လို့ အရှင်ဥပသေနကို ဆက်ပြီး မေးတော်မူတဲ့အတွက် တစ်ဝါ ရပြီ ဖြစ်တဲ့အကြောင်း အရှင်ဥပသေနက ပြန်လည် ဖြေကြားခဲ့ပါတယ်။



ဒီအခါ မြတ်စွာဘုရားက "ဒီရဟန်းနဲ့ သင်က ဘယ်လိုတော်စပ်သလဲ" လို့ မေးတော်မူခဲ့ပြန်ပါတယ်။ အရှင်ဥပသေနက "တပည့်တော်ရဲ့ အတူနေ တပည့်ရဟန်းပါ ဘုရား" လို့ ဖြေကြားလျှောက်ထားလိုက်တယ်ဆိုရင်ပဲ မြတ်စွာဘုရားက အရှင်ဥပသေနကို "မဂ်ဖိုလ်မရ ကိစ္စမပြီး အချည်းနှီးဖြစ်တဲ့ အို··· ယောကျ်ား၊ သင်ဟာ အချိန်အရွယ် မရောက်သေးဘဲနဲ့ တပည့်မွေးပြီး ပစ္စည်း လေးပါးပေါများရန်အတွက် ကျင့်ပါဘိတယ်" စသဖြင့် ပြစ်တင်ကဲ့ရဲ့စကားမိန့်ကြားတော်မူခဲ့ပါတယ်။

ဒါတွင်မက ဒီလို တစ်ဝါအရ ငယ်ရွယ်တဲ့ အချိန်မှာပဲ တပည့်မွေး ရဟန်းခံပေးမှုကို အကြောင်းပြုပြီး ရဟန်းတော်များကို "ကိုယ်ကိုယ်တိုင်က ဆယ်ဝါ မပြည့်သေးရင် ဥပဇ္ဈယ်ဆရာ လုပ်ပြီး ရဟန်းလောင်းကို ရဟန်းခံ မပေးရ၊ ရဟန်းခံပေးခဲ့ရင် ဒုက္ကဋ်အာပတ်သင့်စေ။ ရဟန်းဝါ ၁၀-ဝါ နဲ့ ၁၀-ဝါ အထက် ရပြီး ဝိနည်းကျွမ်းကျင်သူတွေဖြစ်မှ ဥပဇ္ဈာယ်ဆရာအဖြစ်နဲ့ တာဝန်ယူပြီး ရဟန်းခံပေးရမယ်" လို့ သိက္ခာပုဒ်တောင် ပညတ်တော်မူခဲ့ပါတယ်။

အရှင်ဥပသေနဟာ မြတ်စွာဘုရား အထံတော်ကနေ မိမိရည်မှန်းခဲ့တဲ့အတိုင်း အချီးအမွမ်း မခံရဘဲ အကဲ့ရဲ့ကိုသာ ခံခဲ့ရပြီးနောက် မြတ်စွာဘုရားကို ရှိခိုးကန်တော့ကာ 'ငါဟာ အခု ကဲ့ရဲ့တော်မူလိုက်တဲ့ လပြည့်ဝန်းလို ကျက်သရေတော် ရှိတော်မူတဲ့ ရွှေနှုတ်တော်နဲ့ပဲ နောင်တစ်ချိန်မှာ တပည့် ပရိသတ်မွေးမှုကို အကြောင်းပြုပြီး ကောင်းချီးပေး အချီးမွမ်းခံရအောင် ကြိုးစားမယ်' လို့ ကြံစည်အောက်မေ့ကာ တစ်နေရာကို ထွက်သွားပြီး ဝိပဿနာ ဘာဝနာကမ္မဋ္ဌာန်းတရား စီးဖြန်းအားထုတ်လိုက်တာ သိပ်မကြာခင်မှာပဲ အရဟတ္တဖိုလ် ဆိုက်ရောက်ကာ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

ဒီနောက်မှာတော့ အရှင်ဥပသေနမထေရ်ဟာ ဆွေကြီးမျိုးကြီးကနေ ရဟန်းပြုလာသူ ဖြစ်တာကြောင့်ရော၊ ထင်ရှား ကျော်ကြားတဲ့

ဓမ္မကထိက တစ်ပါး ဖြစ်တာကြောင့်ပါ အရှင်မြတ်ဟောတဲ့တရားကို ကြည်ညိုပြီး ရှင်ပြုလာသူတွေ၊ အရှင်မြတ်နဲ့ ဆက်စပ်တဲ့ မိတ်ဆွေ သင်္ဂဟ ဆွေမျိုး အသိုင်းအဝိုင်းတွေကနေ ထွက်လာပြီး အရှင်မြတ် အထံမှာ ရှင်ပြုလာသူတွေဟာ အများအပြား ရှိခဲ့ပါတယ်။ အရှင်မြတ် ကြီးက သူ့ထံ ရှင်ပြုခွင့် တောင်းလာသူတွေကို လွယ်လွယ်ကူကူနဲ့ ရှင်ပြုခွင့် ပေးခဲ့တာတော့ မဟုတ်ပါဘူး။

“ငါဟာ တောကျောင်းနေ အာရညကင် ဓုတင် ဆောက်တည်ထားသူ ဖြစ်တယ်၊ သင်တို့လည်း ငါ့လို တောကျောင်းနေ အာရညကင် ဓုတင် ဆောင်နိုင်မှ ငါ့ထံမှာ ရှင်ပြုခွင့် ရမယ်” လို့ ဓုတင် ၁၃ ပါးလုံးကို တစ်ခုချင်း သင်ကြားပြသ ဆုံးမပြီး ကတိ တောင်းပါတယ်။ ဓုတင်အကျင့်ကို ကျင့်ဆောင် နိုင်ပါတယ်လို့ ကတိ ပေးသူတွေကိုမှ အရှင်မြတ်ကြီးက ရှင်ပြုပေးတာပါ။ ဒီ ရှင်သာမဏေ တွေဟာ သူတို့ စွမ်းအားရှိသလောက် ဓုတင်အကျင့်တွေကို ကျင့် ဆောင်ကြရပါတယ်။

အရှင်ဥပသေန မထေရ်မြတ်ဟာ သူကိုယ်တိုင် ၁၀ ဝါ ပြည့်ပြီးလို့ ဝိနည်းကျွမ်းကျင်ပြီ ဆိုခါမှ ဒီ ရှင်သာမဏေတွေ အားလုံး ကို သူကိုယ်တိုင် ဥပဇ္ဈာယ်ဆရာ ပြုလုပ်ပြီး ရဟန်းခံပေးပါတယ်။ အခုလို အရှင်မြတ်အထံမှာ ရဟန်းပြုခဲ့သူပေါင်းဟာ အပါး ငါးရာ တောင် ရှိခဲ့ပါတယ်။

အဲဒီအချိန်မှာ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်မှာ သီတင်းသုံး နေတော်မူလျက် ရှိပြီး “ရဟန်းတို့… ငါဘုရားဟာ သုံးလလုံးလုံး တစ်ပါးတည်း ကိန်းအောင်း နေလိုတယ်” လို့ ရဟန်းသံဃာများအား မိန့်ကြားပြီး တစ်ပါးတည်း ဧကစာရီ သီတင်းသုံးနေချိန်လည်း ဖြစ်ပါတယ်။ ရဟန်းသံဃာတွေကလည်း “မြတ်စွာဘုရားအထံ မည်သူမျှ မသွားရ၊ သွားတဲ့ ရဟန်း ပါစိတ် အာပတ် သင့်စေ” လို့တောင် အချင်းချင်း ကတိကဝတ် ပြုထားကြ တယ်။



အခုလို အချိန်မျိုးမှာ အရှင်ဥပသေန မထေရ်ဟာ မြတ်စွာ ဘုရားရှင်ကို ဖူးမြော်မယ်ဆိုတဲ့ အတွေးအကြံနဲ့ သူ့တပည့် ရဟန်း အပါး ငါးရာနဲ့အတူ သာဝတ္ထိပြည် ဇေတဝန်ကျောင်းကို ရောက်လာ ခဲ့ပါတယ်။ ရောက်တဲ့အခါ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး ရှိခိုး ကန်တော့ကာ သင့်တော်တဲ့ နေရာမှာ ထိုင်နေခဲ့ပါတယ်။ မြတ်စွာ ဘုရားရှင်ကလည်း အာဂန္တုရဟန်းသံဃာတွေ ရောက်လာရင် နှုတ်ဆက်မြဲ အလေ့အကျက် ဓမ္မတာအတိုင်း “ဥပသေန… သင်တို့ အားလုံး ကျန်းမာပါရဲ့လား၊ မျှတပါရဲ့လား၊ ပင်ပန်းမှုမရှိဘဲ ခရီးရှည် လာခဲ့ရပါသလား” လို့ ဝမ်းမြောက်ဝမ်းသာ နှုတ်ဆက်စကား မိန့်ကြား တော်မူပါတယ်။ ဒီအခါ အရှင်ဥပသေန မထေရ်ကလည်း ကျန်းမာ ပါကြောင်း၊ မျှတပါကြောင်း၊ ခရီးရှည် လာခဲ့ရလို့လည်း မပင်ပန်းပါ ကြောင်း ပြန်လည်လျှောက်ထား ဖြေဆိုခဲ့ပါတယ်။

နောက်ပြီး မြတ်စွာဘုရားရှင်က အရှင်ဥပသေနရဲ့ တပည့် ရဟန်းတစ်ပါးကို “အိုး… ရဟန်း၊ သင်ဟာ ပံ့သကူသင်္ကန်းကို မြတ်နိုးနှစ်သက်ပါသလား” လို့ မေးတော်မူလိုက်ပါတယ်။ ဒီအခါ အမေးခံရတဲ့ ရဟန်းက “တပည့်တော်ဟာ ပံ့သကူသင်္ကန်းကို မနှစ် သက် မမြတ်နိုးပါဘုရား၊ ဒါပေမယ့် တပည့်တော်ရဲ့ ဥပဇ္ဈာယ်ဆရာက ပံ့သကူဓုတင်ဆောင် ဆိုတော့ ဆရာကို လေးစားတဲ့အနေနဲ့ တပည့်တော် လည်း ပံ့သကူ သင်္ကန်းကို ဝတ်ရ၊ ဆောင်ရတာပါ ဘုရား” လို့ ရှင်းလင်း လျှောက်ထား ဖြေဆိုခဲ့ပါတယ်။

အဲဒီရဟန်းရဲ့ အဖြေစကား ကြားသိရပြီးတဲ့နောက် မြတ်စွာ ဘုရားရှင်က “ဥပသေန… သင့်ရဲ့ ပရိသတ်ဟာ ကြည်ညိုဖွယ် ဂုဏ်ရည်နဲ့ ပြည့်စုံပါပေတယ်၊ သင်ဟာ ပရိသတ်ကို ဘယ်လို ဆုံးမ ပါသလဲ” လို့ မေးတော်မူခဲ့ပါတယ်။

ဒီအခါ အရှင်ဥပသေန မထေရ်က “မြတ်စွာဘုရား… တပည့်တော်ထံ ရှင်ရဟန်းပြုခွင့် လာတောင်းရင် အဲဒီတောင်းလာ

တဲ့သူကို 'ငါဟာ တောကျောင်းနေ အာရညကင် ဓုတင်၊ ဆွမ်းခံပြီး စားလေ့ရှိတဲ့ ပိဏ္ဍပါတ်ဓုတင်နဲ့ ပံ့သကူသင်္ကန်းဝတ်တဲ့ ပံ့သကူဓုတင်တွေကို ကျင့်ဆောင်သူ ဖြစ်တယ်၊ သင်တို့လည်း ဒီ ဓုတင်တွေကို ဆောင်နိုင်မှ ငါ့ထံမှာ ရှင်ရဟန်းပြုခွင့်ရမယ်' လို့ ပြောပါတယ် ဘုရား၊ ဒီအခါ ဒီ ဓုတင်တွေကို ကျင့်နိုင်ပါတယ်လို့ အာမခံသူတွေကို တပည့်တော် ရှင်ရဟန်း ပြုပေးပြီး အာမ မခံသူတွေကိုတော့ ရှင်ရဟန်း ပြုမပေးပါ ဘုရား" လို့ မြတ်စွာဘုရားကို ပြန်လည် လျှောက်ထားခဲ့ပါတယ်။

မြတ်စွာဘုရားက အရှင်ဥပသေနရဲ့ ပရိသတ်ဆုံးမနည်းကို သိရှိတော်မူလိုက်တဲ့အခါ "သာဓု သာဓု ဥပသေန၊ သင့်ရဲ့ တပည့် ပရိသတ် ဆုံးမနည်းကို ငါဘုရား သာဓုခေါ်ပါတယ်" လို့ မိန့်တော်မူပြီး ကောင်းချီးပေးတော်မူခဲ့ပါတယ်။

ဆက်ပြီး မြတ်စွာဘုရားက "ဥပသေန… သာဝတ္ထိပြည်သား သံဃာတွေရဲ့ ကတိကဝတ်ကို သိပါသလား" လို့ မေးတော်မူခဲ့ပါတယ်။ အရှင်ဥပသေနက မသိပါကြောင်း ပြန်လည် လျှောက်ထားတဲ့အခါ မြတ်စွာဘုရားရှင်က "ဥပသေန… သာဝတ္ထိပြည်သား သံဃာတွေဟာ မြတ်စွာဘုရား တစ်ပါးတည်း နေတော်မူလိုတယ်၊ ဒါကြောင့် မြတ်စွာဘုရားထံ ဆွမ်းပို့တဲ့ ရဟန်းတစ်ပါးက လွဲပြီး ဘယ်သူမှ မချဉ်းကပ်ရ၊ ချဉ်းကပ်တဲ့ ရဟန်း ပါစိတ်အာပတ်သင့်စေလို့ ကတိကဝတ် ပြုထားကြတယ်" ဆိုတဲ့ အကြောင်း မိန့်တော်မူခဲ့ပါတယ်။

ဒီအခါ အရှင်ဥပသေနက "မြတ်စွာဘုရား… တပည့်တော်တို့ကတော့ မြတ်စွာဘုရား မပညတ်ထားတဲ့ သိက္ခာပုဒ်ကိုလည်း မပညတ်ပါဘုရား၊ မြတ်စွာဘုရား ပညတ်ထားတဲ့ သိက္ခာပုဒ်တွေကိုလည်း မပယ်နုတ်ပါဘုရား၊ အရှင်ဘုရား ပညတ်ထားတဲ့ သိက္ခာပုဒ်တွေအတိုင်း ကောင်းစွာလိုက်နာ စောင့်ထိန်းပြီး နေပါတယ် ဘုရား" လို့ ပြန်လည် လျှောက်ထားပါတယ်။



ဒီအခါမှာလည်း မြတ်စွာဘုရားက "သာဓု သာဓု ဥပသေန…၊ တပည့်သာဝကဆိုတာ ငါဘုရား မပညတ်ထားတဲ့ သိက္ခာပုဒ်ကိုလည်း မပညတ်ရ၊ ပညတ်ထားတဲ့ သိက္ခာပုဒ်ကိုလည်း မပယ်နုတ်ရ၊ ငါဘုရား ပညတ်ထားတဲ့အတိုင်း ကောင်းမွန်စွာ ကျင့်ထိုက်တယ်" လို့ မိန့်တော်မူပြီး သာဓုခေါ် ကောင်းချီးပေးတော်မူခဲ့ပါတယ်။

နောက်ပြီး ဓုတင်ဆောင် ရဟန်းတော်တွေကိုလည်း "ဥပသေန… အာရညကင်ဓုတင်၊ ပိဏ္ဍပါတ်ဓုတင်၊ ပံ့သကူဓုတင်ဆောင် ရဟန်းတွေမှန်ရင် ငါဘုရားထံ ဘယ်အချိန်မဆို ချမ်းသာစွာ ချဉ်းကပ်နိုင်ပါတယ်" လို့ သီးသန့် အခွင့်အရေး ပေးတော်မူခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ နောင်တစ်ချိန်မှာတော့ အရိယာ သံဃာတွေရဲ့ အလယ်မှာ ထိုင်တော်မူနေစဉ်မှာပဲ အရှင်ဥပသေန မထေရ်ကို "ရဟန်းတို့… တပည့် ပရိသတ်နဲ့အတူ ကြည်ညိုဖွယ် ရှိကြတဲ့ ငါဘုရားရဲ့ တပည့်ရဟန်းတွေထဲမှာ ဝင်္ဂန္တပုဏ္ဏားရဲ့ သား ဖြစ်တဲ့ ဥပသေန ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပေတယ်" လို့ ချီးကျူးတော်မူကာ သမန္တပါသာဒိက ဧတဒဂ် အရာထားပြီး ချီးမြှောက်တော်မူခဲ့ပါတယ်။

**(ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်အပိုင်း**

တစ်ခါမှာတော့ အရှင်သာရိပုတ္တရာနဲ့ အရှင်ဥပသေန ညီအစ်ကို မထေရ်မြတ် နှစ်ပါးဟာ ရာဇဂြိုဟ်ပြည်အနီးက ယင်းတိုက်တောမှာ ရှိတဲ့ လိုဏ်ဂူတစ်ဂူထဲမှာ သီတင်းသုံး နေတော်မူကြပါတယ်။ အဲဒီအချိန်မှာ အရှင်ဥပသေနမထေရ်ဟာ လိုဏ်ဂူပေါက်ဝမှာ ထိုင်ပြီး သင်းပိုင်သင်္ကန်း စုတ်ပြဲနေတာကို ချုပ်နေပါတယ်။ အဲဒီအချိန်မှာပဲ လိုဏ်မိုးပေါ်မှာ မြွေဆိုးနှစ်ကောင် ဆော့ကစား

နေရင်းက တစ်ကောင်ဟာ အရှင်ဥပသေနရဲ့ ပခုံးစွန်းပေါ် ပြုတ်ကျလာခဲ့ပါတယ်။ ဒီကျလာတဲ့မြွေက သာမန်မြွေမျိုး မဟုတ်ဘဲ ထိရုံနဲ့ အဆိပ်တက်တဲ့ မြွေမျိုးပါ။ ဖုဋ္ဌဝိသမြွေလို့ ခေါ်ပါတယ်။ ဒါကြောင့် အရှင်ဥပသေနရဲ့ ခန္ဓာကိုယ်မှာ မြွေဆိပ်ဟာ ပြုတ်ကျထားတဲ့နေရာက စပြီး တစ်ကိုယ်လုံး ဆီမီးတောက်က မီးစာကို ကုန်စေသလိုမျိုး တရိပ်ရိပ် ပျက်ကျစေကာ တက်လာခဲ့ပါတယ်။

အရှင်ဥပသေနမထေရ်ဟာ မြွေဆိပ်တွေ အပြင်းအထန် တက်လာတာ သိလိုက်ပါတယ်။ တကယ်ဆို ဒီအဆိပ်ဟာ သူ့ပင်ကိုသဘောအတိုင်းဆိုရင် အဆိပ်ထိလိုက်တာနဲ့ တစ်ကိုယ်လုံးကို မီးဟုန်းဟုန်း တောက်လောင်သလိုမျိုး ဖရိုဖရဲ ကြွေကျ ပျက်စီးသွားစေနိုင်ပါတယ်။ ဒါပေမယ့် အရှင်မြတ်ဟာ သူ့ရဲ့တန်ခိုးနဲ့ "ဒီ ခန္ဓာကိုယ် အတ္တဘောဟာ လိုဏ်ဂူအတွင်းမှာ မပျက်စီးပါစေနဲ့" လို့ အဓိဋ္ဌာန်ကာ ဟန့်တားထားတော်မူလိုက်ပါတယ်။

အဲဒီနောက်မှာတော့ အရှင်ဥပသေနဟာ ရဟန်းတွေကို ခေါ်လိုက်ပြီး "ငါ့ရှင်တို့… လာကြ၊ ဒီ ခန္ဓာကိုယ်ကြီး ဒီနေရာမှာပဲ ဖွဲဆုပ်တွေလို ဖရိုဖရဲ ပြန့်ကျဲ ကျမသွားခင် ခုတင်ညောင်စောင်းငယ်ပေါ် တင်ပြီး အပြင်ထုတ်ကြ" လို့ မိန့်တော်မူလိုက်ပါတယ်။ ဒီအခါ အရှင်သာရိပုတ္တရာက အရှင်ဥပသေနကို "ငါ့ရှင်တို့… အရှင်ဥပသေနရဲ့ ကိုယ်အမူအရာ ဖောက်ပြန်တာ၊ မျက်စိ စတဲ့ ဣန္ဒြေတွေ ဖောက်ပြန်တာ လုံးဝကို မတွေ့မြင်ရပါ၊ အဲဒီလို ဖြစ်ပါလျက် အရှင်ဥပသေနဟာ 'သူ့ခန္ဓာကိုယ်ကြီး တစ်စစီ ဖရိုဖရဲ ပြန့်ကျဲမသွားခင် လိုဏ်ဂူအပြင်ထုတ်ကြ' လို့ ပြောဆိုပါဘိတယ်" လို့ မိန့်တော်မူပါတယ်။

တကယ်တော့ သာမန်လူတွေ သေခါနီးပြီဆိုရင် ကိုယ်လက် ဖောက်ပြန် တုန်လှုပ်တာ၊ မျက်စိ မျက်နှာပျက်တာ စတာတွေ ဖြစ်လာတတ်ပါတယ်။ အရှင်ဥပသေနမထေရ်မှာ အဲဒီလို မဖြစ်ဘဲ



တည်ငြိမ်စွာနဲ့ ပြောတာကို မြင်ရလို့ အရှင်သာရိပုတ္တရာမထေရ်က အခုလို မိန့်တော်မူခြင်း ဖြစ်ပါတယ်။

အရှင်သာရိပုတ္တရာမထေရ်က အခုလို မိန့်တဲ့အခါ အရှင်ဥပသေနမထေရ်က အရှင်သာရိပုတ္တရာမထေရ်ကို "ငါ့ရှင်သာရိပုတ္တရာ၊ တကယ်တော့ 'မျက်စိရုပ်ကို ငါကောင်ပဲ၊ မျက်စိရုပ်ဟာ ငါ့ဥစ္စာပဲ။ နားရုပ်ကို ငါပဲ၊ နားရုပ်ဟာ ငါ့ဥစ္စာပဲ၊ နှာခေါင်းရုပ်ကို ငါပဲ၊ နှာခေါင်းရုပ်ဟာ ငါ့ဥစ္စာပဲ၊ လျှာအကြည်ရုပ်ကို ငါပဲ၊ လျှာအကြည်ရုပ်ဟာ ငါ့ဥစ္စာပဲ၊ ကိုယ်အကြည်ရုပ်ကို ငါပဲ၊ ကိုယ်အကြည်ရုပ်ဟာ ငါ့ဥစ္စာပဲ၊ စိတ်ကို ငါပဲ၊ စိတ်ဟာ ငါ့ဥစ္စာပဲ' လို့ ဒိဋ္ဌိတွေ၊ တဏှာတွေနဲ့ အထင်လွဲနေသူတွေမှာသာ သေခါနီးအခါ ကိုယ်အမူအရာ ဖောက်ပြန်တာ၊ မျက်စိစတဲ့ ဣန္ဒြေတွေ ဖောက်ပြန်တာ ဖြစ်တာပါ ဘုရား။

ငါ့ရှင် သာရိပုတ္တရာ… မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်တွေကို ငါပဲ၊ ငါ့ဥစ္စာပဲလို့ ဒိဋ္ဌိ၊ တဏှာတွေနဲ့ အထင်လွဲမှု မရှိတဲ့ တပည့်တော်မှာ အခုလို သေခါနီးအချိန်မှာ ဖြစ်တတ်တဲ့ ကိုယ်အမူအရာ ဖောက်ပြန်တာတွေ၊ မျက်စိ စတဲ့ ဣန္ဒြေတွေ ဖောက်ပြန်တာတွေ ဘယ်မှာ ဖြစ်မလဲ ဘုရား" လို့ ပြန်လည် လျှောက်ထားခဲ့ပါတယ်။

ဒီအခါ အရှင်သာရိပုတ္တရာမထေရ်က အရှင်ဥပသေနမထေရ်ကို "အရှင်ဥပသေနရဲ့ သန္တာန်မှာ အခုလို သေခါနီးအချိန်မှာ ကိုယ်အမူအရာ ဖောက်ပြန်တာ၊ ဣန္ဒြေတွေ ဖောက်ပြန်တာတွေ မဖြစ်ဘဲ နေမှာပေါ့၊ အရှင်ဥပသေနဟာ အချိန်ကြာမြင့်စွာ ကတည်းကပဲ ငါလို့ မှားယွင်းစွာ စွဲယူမှု - ဒိဋ္ဌိ၊ ငါ့ဥစ္စာလို့ စွဲလမ်းမှု - တဏှာ၊ ငါလို့ ထောင်လွှားမှု - မာန၊ ဒီ တရား သုံးမျိုးကို ပယ်နုတ်ပြီးပြီကိုး။ ဒါကြောင့်ပဲ အရှင်ဥပသေနရဲ့ သန္တာန်မှာ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်တွေကို ငါ့အတ္တပဲ၊ ငါ့ဟာပဲ၊ ငါပဲလို့ အထင်လွဲမှု၊ အထင်မှားမှုတွေ လုံးဝ မဖြစ်နိုင်တော့" လို့ ချီးမွမ်းစကား မိန့်ကြားတော်မူခဲ့ပါတယ်။

ဒီနောက်တော့ ရဟန်းတော်တွေဟာ အရှင်ဥပသေနမထေရ်ရဲ့ ကိုယ်ကို ခုတင် ညောင်စောင်းငယ်ပေါ်တင်ပြီး လိုဏ်ဂူအပြင်ဘက် ထုတ်ဆောင်လိုက်ကြပါတယ်။ ဒီအခါ အရှင်ဥပသေနမထေရ်ရဲ့ ကိုယ်ဟာ အဲဒီနေရာမှာပဲ ဖွဲဆုပ်လို ဖရိုဖရဲ ပြန့်ကျဲသွားပြီး ပရိနိဗ္ဗာန် ဝင်စံတော်မူခဲ့ပါတယ်။

--------

မြတ်စွာဘုရားတပည့်သားတွေ ဖြစ်တဲ့ ရှင်ရဟန်းတွေ အနေနဲ့ မြတ်စွာဘုရား သာသနာတော် တိုးတက်ပြန့်ပွားစေဖို့ ဆိုရင် အရှင် ဥပသေနမထေရ်နဲ့ တပည့်များလို ဓုတင် ၁၃ ပါး ကျင့်ဆောင်ခြင်းနဲ့ ကောင်းမွန်စွာ ကြည်ညိုဖွယ်ဖြစ်အောင် နေကြရမှာ ဖြစ်ပါတယ်။ ဓုတင်ဆောင် ဓုတင်ကျင့်တဲ့အတွက် ရှင်ရဟန်းတို့ရဲ့ သီလတွေလည်း ပိုပြီးစင်ကြယ်လာတယ်၊ သီလစင်ကြယ်တဲ့အတွက် ဖူးလိုက်ရတဲ့ လူရှင်ရဟန်းတွေရဲ့ စိတ်ထဲမှာ ကြည်ညိုမှုတွေကိုလည်း တိုးလာစေပါ တယ်။ ဒီနည်းနဲ့ သာသနာတော် အပေါ်မှာ သက်ဝင်ယုံကြည်မှုတွေ၊ အတုယူ ကျင့်ကြံလိုတဲ့စိတ်တွေ တိုးလာစေပြီး မြတ်စွာဘုရား သာသနာတော် စည်ပင်ကြီးပွား တိုးတက်လာမှာ အမှန်ပဲ ဖြစ်ပါတယ်။

နောက်ပြီး သေခါနီးကာလမှာ ငါသေတော့မှာပဲဆိုတဲ့ အတွေးဝင်လာရင် ကြောက်စိတ်တွေ၊ နောင်တရတဲ့ စိတ်တွေ ဖြစ်လာတတ်ပါတယ်။ ဒီလို ဖြစ်လာရင်တော့ သေပြီးတဲ့နောက် ငရဲဘုံ ရောက်သွားနိုင်ပါတယ်။ သားသမီးအာရုံတွေ၊ မိမိပိုင်ဆိုင်တဲ့ ကျောင်း၊ ကန်၊ အိမ်ရာတွေစတဲ့အပေါ်မှာ စွဲလမ်းတဲ့စိတ်တွေလည်း ပေါ်လာ တတ်ပါတယ်။ ဒီလိုဆိုရင်တော့ တစ္ဆေ၊ သရဲ၊ ပြိတ္တာ ဖြစ်တတ် ပါတယ်။ တွေဝေတဲ့စိတ်တွေလည်း ပေါ်လာတတ်ပါတယ်။ အဲဒီ အခါမှာတော့ ဘာမှ အကောင်း၊ အဆိုး မဝေခွဲနိုင်တဲ့ တိရစ္ဆာန်ဘုံဘဝ ရောက်သွားနိုင်ပါတယ်။



တရားဘာဝနာ ပွားများ အားထုတ်ထားသူတွေ ဆိုရင်တော့ သေခါနီး ဖြစ်နေပေမယ့် ကိုယ့်ရဲ့ စိတ်က တရားအမှတ် အာရုံအပေါ်မှာပဲ ရှိနေတော့ ကြောက်တာတွေ၊ စိုးရိမ်စိတ်တွေ၊ စွဲလမ်းစိတ်တွေ၊ တွေဝေစိတ်တွေဆိုတာ ဖြစ်မလာတော့ပါဘူး။

အရှင်ဥပသေနမထေရ်က ရဟန္တာပုဂ္ဂိုလ်ဆိုတော့ စိတ်က တရားအာရုံအပေါ်မှာပဲ ရှိနေတာပါ၊ ဒါကြောင့် အဆိပ်ပြင်းတဲ့ မြွေ ခန္ဓာကိုယ်ပေါ် ကျပေမယ့် ကြောက်စိတ်တွေ၊ လန့်စိတ်တွေ မဖြစ် ပါဘူး။ တည်တည်ငြိမ်ငြိမ်နဲ့ ရင်ဆိုင်နိုင်ပါတယ်။

ဒါကြောင့် မိမိတို့တစ်တွေလည်း သေခါနီးကာလမှာ ကြောက် တာတွေ၊ လန့်တာတွေ၊ စွဲလမ်းတာတွေ၊ တွေဝေတာတွေ မဖြစ်ချင် ဘူးဆိုရင်တော့ အရှင်ဥပသေနမထေရ်လို တရားဘာဝနာ ပွားများ အားထုတ်ထားဖို့ပဲ ရှိပါတယ်။ ရှုညာဏ်နဲ့ အရှုခံ သတိမြဲမြဲ မှတ်နိုင်၊ ဖြစ်ပျက်နဲ့ မဂ် ကိုက်ညီပြီဆိုတဲ့ အချိန်ရောက်ပြီဆိုရင်တော့ တဏှာစွဲ၊ မာနစွဲ၊ ဒိဋ္ဌိစွဲတွေ ကွာကျပြီး စွဲလမ်းတာ၊ ကြောက်လန့်တာ၊ တွေဝေ တာတွေ ကင်းပျောက်သွားမှာကတော့ အသေအချာပဲ ဖြစ်ပါတယ်။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ စာ ၂၁၁။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ စာ ။
၃။ သံယုတ်ပါဠိတော်၊ ဒုတိယတွဲ၊ စာ ၂၆၇။
၄။ သံယုတ်အဋ္ဌကထာ၊ တတိယတွဲ၊ စာ ၁၄။
၅။ အပဒါန်ပါဠိတော်၊ ပထမတွဲ၊ စာ ၆၇။
၆။ အပဒါန်အဋ္ဌကထာ၊ ဒုတိယတွဲ၊ ၁၇။



ကျောင်းအိပ်ရာနေရာခင်းကျင်းပေးတဲ့အရာ အသာဆုံး

သေနာသန ပညာပကဧတဒဂ်ရ

# အရှင်ဒဗ္ဗမထေရ်

မျက်မှောက်ခေတ် သာသနာမှာ မိမိအပါအဝင် ရဟန်းအများစုဟာ ခေတ်အလျောက် စာမေးပွဲလေး အထိုက်အလျောက် အောင်မြင်ပြီးလို့ ဘွဲ့ထူး ဂုဏ်ထူးတွေရ၊ စာချ နာယက စသည် ဖြစ်လာတဲ့အခါ ကျောင်းတိုက်အတွင်း တံမြက်စည်း လှည်းတာ၊ သောက်ရေ သုံးရေ ခပ်တာ၊ သန့်ရှင်းရေး လုပ်တာတွေဟာ ငါတို့နဲ့ မဆိုင်တော့ဘူး၊ တပည့် ဦးဇင်း၊ ကိုရင်တွေသာ လုပ်ရမယ့်အလုပ်ပဲလို့ နှလုံးသွင်းပြီး ကြောင့်ကြမဲ့ နေကြတာ များပါတယ်။

ဒါပေမယ့် မိမိနဲ့ ကံအားလျော်စွာ ဆုံစည်းခွင့်ရပြီး အရိပ်ပေးတော်မူခဲ့ကြတဲ့ ဆရာ ဘုန်းတော်ကြီးများကတော့ မိမိလို မဟုတ်ဘဲ ဘဝနောက်ဆုံးအချိန်အထိ သံဃာ့ဝေယျာဝစ္စတွေ၊ ကျောင်းဝင်းအတွင်း တံမြက်လှည်းတာတွေ ဆောင်ရွက်တော်မူခဲ့ကြပါတယ်။

အရှင်ဒဗ္ဗမထေရ် အကြောင်း ကြည်ညိုလိုက်ရတဲ့အခါမှာတော့ မိမိကိုယ်မိမိ တော်တော်လေး ရှက်မိပါတယ်။ ဘာလို့လဲဆိုတော့ အရှင်ဒဗ္ဗမထေရ်က သာသနာမှာ အမြင့်ဆုံး ရဟန္တာပုဂ္ဂိုလ်ဖြစ်ပြီး တာတောင်မှ သံဃာတော်များအတွက် ကျောင်းသန့်ရှင်းရေးကိစ္စ၊ တံမြက်လှည်းခြင်း ကိစ္စ၊ သောက်ရေ သုံးရေ တည်ထားခြင်း ကိစ္စတွေကို လျစ်လျူရှုမထားဘဲ ဆောင်ရွက်တော်မူခဲ့လို့ပါပဲ။ အရှင်ဒဗ္ဗမထေရ်ဟာ ခုနစ်နှစ်သားနဲ့ ရဟန္တာဖြစ်ခဲ့ပြီး တကယ်ဆိုရင် ကျန်တဲ့ဘဝသက်တမ်း တစ်လျှောက်ကို ဖလသမာပတ်တွေ၊ နိရောဓသမာပတ်တွေ ဝင်စားပြီး အကောင်းဆုံး ချမ်းသာသုခကို ခံစားနေရင်လည်း ရတာပါပဲ။ ဒါပေမယ့် မထေရ်မြတ်ဟာ မိမိရဲ့ တစ်ကိုယ်ရေချမ်းသာမှုကို မငဲ့ကွက်ဘဲ သံဃာတော်အများ ချမ်းသာရေးအတွက် ဝေယျာဝစ္စတာဝန်တွေကို အားသွန်ခွန်စိုက် ဘဝတစ်သက်တာလုံး ဆောင်ရွက်တော်မူခဲ့ပါတယ်။

အရှင်ဒဗ္ဗမထေရ်က နောင်လာနောက်သား မိမိတို့လို သံဃာ့ဝေယျာဝစ္စ ကိစ္စတွေကို ငါနဲ့မဆိုင်၊ တပည့်တွေနဲ့သာ ဆိုင်တယ်လို့တွေးပြီး ကြောင့်ကြမဲ့ နေကြမယ့်သူတွေကို အဆုံးအမ ပေးနေသလိုပါပဲ။ အခုလို မိမိတို့ကို တန်ဖိုးဖြတ်လို့ မရတဲ့ အဆုံးအမတွေကို လမ်းညွှန်ပေးတော်မူတဲ့ အရှင်ဒဗ္ဗမထေရ် အကြောင်းကို ကြည်ညိုကြပါမယ်။

အရှင်ဒဗ္ဗမထေရ်ဟာ သံဃာတော်များအတွက် ကျောင်း အိပ်ရာ နေရာ ပြင်ဆင်ခင်းကျင်းပေးပြီး သံဃာ့ဝေယျာဝစ္စပြုတဲ့အရာ အသာဆုံး ဧတဒဂ်ရ ပုဂ္ဂိုလ် ဖြစ်ပါတယ်။ ပါဠိလိုတော့ သေနာသနပညာပက ဧတဒဂ်ရ မထေရ်ပေါ့။

အရှင်ဒဗ္ဗမထေရ်ဟာ ခုနစ်နှစ်သားအရွယ်မှာ ရဟန္တာဖြစ်ခဲ့ပြီး ဘဝတစ်သက်တာလုံး သံဃာတော်များအတွက် နေရာခင်းကျင်း



ပြုပြင်စီမံပေးရတဲ့ သံဃာ့ဝေယျာဝစ္စတွေကို ဆောင်ရွက်ခဲ့ပါတယ်။ ဒါ့အပြင် ဒကာ၊ ဒကာမတွေက ဆွမ်းစားပင့်တဲ့အခါ သံဃာတော်များကို အလှည့်ကျ တာဝန်ယူ ထည့်ပေးရတဲ့ တာဝန်ကိုလည်း ထမ်းဆောင်ခဲ့ပါတယ်။

အရှင်ဒဗ္ဗမထေရ် သံဃာတော်များအတွက် ကျောင်း၊ အိပ်ရာ၊ နေရာတွေ ပြင်ဆင်စီမံပေးရတဲ့ တာဝန်ထမ်းဆောင်စဉ်အချိန်က ရာဇဂြိုဟ်မြို့ဝန်းကျင်မှာရှိတဲ့ ကျောင်းတိုက်ကြီး ၁၈ တိုက်မှာ တံမြက်မလှည်းရသေးတဲ့ ကမ္ဘဋ္ဌာန်းကျောင်းဆောင်၊ သန့်ရှင်းရေး မလုပ်ရသေးတဲ့ ကျောင်း၊ ဖုန်တွေ အမှိုက်တွေ မသုတ်သင်ရသေးတဲ့ ခုတင်၊ ညောင်စောင်း၊ ရေမဖြည့်ရသေးတဲ့ သောက်ရေ၊ သုံးရေအိုး ဆိုတာလုံးဝကို မရှိခဲ့ဖူးဘူး။ ဒါကြောင့် ကျောင်း၊ အိပ်ရာ၊ နေရာ ပြင်ဆင်ပေးတဲ့အရာ အသာဆုံး ဧတဒဂ် ရခဲ့တာ ဖြစ်ပါတယ်။

အရှင်မြတ်ရဲ့ အမည်ရင်းက ဒဗ္ဗ ဖြစ်ပြီး မလ္လမင်းမျိုးမှာ ဖွားမြင်ခဲ့တဲ့အတွက်ကြောင့် မလ္လပုတ္တ လို့ အမည်တိုးပြီး အရှင် 'ဒဗ္ဗမလ္လပုတ္တ' လို့ အမည်တွင်ခဲ့ပါတယ်။

## (က) အရှင်မြတ်ရဲ့ ရှေးကောင်းမှု နှင့် ဆုတောင်း

အရှင်ဒဗ္ဗမထေရ်လောင်းဟာ ပဒုမုတ္တရ မြတ်စွာဘုရား လက်ထက်တော်အခါ ဟံသာဝတီမင်းနေပြည်မှာ အမျိုးကောင်းသား ဖြစ်ခဲ့ပြီး အရွယ်ရောက်တဲ့အခါ အခြား မြို့သူ မြို့သားတွေနဲ့အတူ မြတ်စွာဘုရားထံ တရားနာ သွားခဲ့ပါတယ်။ ဒီအခါ ပဒုမုတ္တရ မြတ်စွာဘုရားက ရဟန်းတော် တစ်ပါးကို ကျောင်း၊ အိပ်ရာ၊ နေရာ ပြင်ဆင်ပေးတဲ့အရာ အသာဆုံး သေနာသန ပညာပက ဧတဒဂ် အရာထား ချီးမြှောက်တာကို မြင်တွေ့လိုက်ရပြီး အားကျစိတ်တွေ ဖြစ်လာခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားနဲ့ သံဃာတော်တွေကို

ပင့်ဖိတ်ပြီး အလှူကြီး ပေးလှူကာ ဒီ သေနာသန ပညာပက ဓာတေဒဂ် ရလိုပါကြောင်း ဆုပန် ဆုတောင်းခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားကလည်း ဒီ ဆုတောင်း အန္တရာယ်မရှိ ပြည့်စုံမှာကို မြင်တော်မူတဲ့အတွက် ဗျာဒိတ်စကား မိန့်ကြားခဲ့ပါတယ်။

**ကဿပဘုရားရှင်လက်ထက် ပါရမီဖြည့်ပုံ**

ဗျာဒိတ်ရပြီးနောက် အသက်ထက်ဆုံး ကောင်းမှုကုသိုလ်တွေ ပြုလုပ်ခဲ့ပြီး လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ရင်းက ကဿပ မြတ်စွာဘုရား လက်ထက်တော် ရောက်လာခဲ့ပါတယ်။ အဲဒီအချိန်က ကဿပ မြတ်စွာဘုရားသာသနာ အားနည်း ဆုတ်ယုတ်နေတဲ့ သာသနာနှောင်းပိုင်း အချိန် ဖြစ်ပါတယ်။ အရှင်ဒဗ္ဗမထေရ် အလောင်းဟာ ဒီ ကဿပမြတ်စွာဘုရား သာသနာမှာ ရဟန်းပြုခဲ့ပြီး အခြား ရဟန်း ခြောက်ပါးနဲ့အတူ ပုပ္ပားတောင်ကလပ်လို တောင်ထိပ် တောင်ကလပ်ပေါ် တက်ပြီး အသက်စွန့်ကာ စိတ်တူ ကိုယ်တူ တရားဓမ္မတွေ ကျင့်ကြံအားထုတ်ခဲ့ပါတယ်။

တောင်ထိပ် တောင်ကလပ်ပေါ်တက်ပြီး တရားအားထုတ်ရတာကလည်း သာသနာနှောင်းပိုင်းဆိုတော့ သာသနာတော်နဲ့ မအပ်မစပ် မလျော်ကန်တဲ့ အပြုအမူတွေကို ပြုမူအားထုတ်နေတာတွေ မြင်ရတဲ့အတွက်ကြောင့်ပဲ ဖြစ်ပါတယ်။ အရှင်ဒဗ္ဗမထေရ်လောင်း ရဟန်းနဲ့ အခြားရဟန်း ခြောက်ပါး၊ ဒီ ရဟန်း ခုနစ်ပါးတို့ဟာ သာသနာတော်နဲ့ မလျော်ကန် မသင့်မြတ်တာတွေ လုပ်နေကြတဲ့သူတွေကို မြင်ရပြီး 'ဒီလိုမျိုး အဓမ္မအမူတွေ ရှိနေတဲ့ နေရာတွေမှာ ဘယ်လိုလုပ် သာသနာပြုနိုင်မလဲ၊ ဒါကြောင့် တစ်နေရာ သွားပြီး ကိုယ့်တရားကို အားထုတ်ကြမယ်' ဆိုတဲ့ ဆုံးဖြတ်ချက်နဲ့ ပုပ္ပားတောင်လို တောင်မျိုးဆီ ထွက်လာခဲ့ပါတယ်။



တောင်ထိပ် တောင်ကလပ်ပေါ် လှေကားထောင် တက်ခဲ့ကြပြီးတဲ့နောက် ‘‘ကိုယ့်စိတ်အစွမ်း ကိုယ်ယုံကြည်တဲ့ သူတွေဆိုရင် လှေကားကို ပြန်လည်တွန်းချပါ၊ အသက်ကို ခင်တွယ်ပြီး အသက်သေမှာ ကြောက်တယ်ဆိုရင်တော့ ခုပဲ ပြန်ဆင်းကြပါ၊ နောင်မှ နောင်တပူပန်မှု မဖြစ်ပါစေနဲ့’’ လို့ တိုင်ပင် ဆွေးနွေး ပြောဆိုကြပါတယ်။ ဒီအခါ ရဟန်း ခုနစ်ပါးလုံးက ‘‘အသက်စွန့်ပြီး တရားအားထုတ်ကြမယ်’’ လို့ စိတ်တူကိုယ်တူ ဆုံးဖြတ်လိုက်ကြပြီး လှေကားကို တွန်းချကာ ရဟန်းတရား အားထုတ်ခဲ့ကြပါတယ်။

ဒီလိုနဲ့ တရားအားထုတ်လာတာ ငါးရက်မြောက် နေ့မှာတော့ အကြီးဆုံး သံဃာ့မထေရ်ဟာ အရဟတ္တဖိုလ်ရပြီး ရဟန္တာဖြစ်ခဲ့ပါတယ်။ ဒီမထေရ်က ရဟန္တာဖြစ်ပြီးတဲ့အခါ တန်ခိုးနဲ့ မြောက်ကျွန်းကို ဆွမ်းခံသွားပြီး ကျန်တဲ့ရဟန်းတွေကို ‘‘အရှင်ဘုရားတို့··· ဒီ ဆွမ်းကို ဘုဉ်းပေးသုံးဆောင်တော်မူကြပါ၊ ဆွမ်းခံတဲ့ကိစ္စ တပည့်တော်ရဲ့ တာဝန် ဖြစ်ပါစေ၊ အရှင်ဘုရားတို့ဟာ ကိုယ့်တရားကို ဆက်လက်ပြီး ကြိုးစား အားထုတ်တော်မူကြပါ ဘုရား’’လို့ မိန့်ပါတယ်။

ဒီအခါ ကျန်တဲ့ ရဟန်းတွေက ရဟန္တာမထေရ်ကို ‘‘အရှင်ဘုရား··· တပည့်တော်တို့ လှေကား တွန်းချစဉ် အချိန်က ‘တရားထူးအရင်ဆုံး ရတဲ့ရဟန်းက ဆွမ်းခံကျွေးရမယ်၊ ကျန်တဲ့ရဟန်းတွေက အဲဒီဆွမ်းကို စားပြီး တရားအားထုတ်ကြမယ်’ လို့ သဘောတူညီချက် ပြုခဲ့တာများ ရှိပါသလား’’ လို့ မေးခဲ့ပါတယ်။ ရဟန္တာမထေရ်က ဒီလို ကတိထားခဲ့တာ မရှိပါကြောင်း ပြန်လည်ဖြေကြားခဲ့ပါတယ်။ ဒီအခါ ကျန်တဲ့ ရဟန်းတွေက ရဟန္တာဖြစ်တဲ့ မထေရ်ကို ‘‘အရှင်ဘုရား··· အရှင်ဘုရားကတော့ ရှေးပါရမီ ကောင်းမှုကြောင့် တရားထူး ရခဲ့ပါပြီ၊ တပည့်တော်တို့လည်း ပါရမီလုံလောက်ခဲ့ပါရင် တရားထူး ရနိုင်ပါလိမ့်မယ်၊ အရှင်ဘုရား လိုရာခရီး ကြွတော်မူပါ၊

တပည့်တော်တို့ရဲ့ ဆွမ်းကိစ္စအတွက်တော့ ကြောင့်ကြမထားပါနဲ့ ဘုရား” လို့ ပြန်လည် လျှောက်ထားပြီး ရဟန္တာမထေရ်ရဲ့ ကမ်းလှမ်းမှုကို ငြင်းပယ်ခဲ့ကြတယ်။

ရဟန္တာမထေရ်လည်း အခြားရဟန်းတွေကို ဘယ်လိုမှ ဖျောင်းဖျပြောဆို မရတာနဲ့ အလိုရှိရာ ကြွသွားပါတော့တယ်။ ခုနစ်ရက်မြောက်နေ့မှာတော့ ဒုတိယမထေရ်တစ်ပါး အနာဂါမိဖိုလ်ရပြီး အနာဂါမ် ဖြစ်ကာ အဲဒီဘဝကနေ လွန်တော်မူပြီး သုဒ္ဓါဝါသ ဗြဟ္မာ့ဘုံမှာ ဖြစ်ခဲ့ပါတယ်။ ကျန်တဲ့ ရဟန်း ငါးပါးကတော့ ဘာတရားထူးမှ မရဘဲ ပုထုဇဉ်ဘဝနဲ့ပဲ ပျံလွန်တော်မူခဲ့ကြပါတယ်။

ဒါပေမယ့် ဒီ ရဟန်းငါးပါးဟာ စောင့်ထိန်းခဲ့တဲ့ ရဟန်းသီလနဲ့ တရားအားထုတ်ခဲ့တဲ့ ကောင်းမှု ကုသိုလ်တွေကြောင့် ကဿပမြတ်စွာ ဘုရားနဲ့ ဂေါတမ မြတ်စွာဘုရား နှစ်ဆူအကြား အပါယ်လေးပါး မလားမရောက်ဘဲ လူ့ဘုံ၊ နတ်ဘုံတွေမှာ ကျင်လည်ကာ ဖြစ်ရင်းက အကျွန်ုပ်တို့ ဂေါတမမြတ်စွာဘုရား လက်ထက် ရောက်တဲ့အခါ ထိုထိုမြို့ ရွာတွေမှာ ဖြစ်ခဲ့ကြပါတယ်။

တစ်ပါးကတော့ ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်မှာ ပုက္ကုသာတိမင်း ဖြစ်ခဲ့ပါတယ်။ တစ်ပါးကတော့ ပဗ္ဗတေယျတိုင်းမှာ သဘိယ ပရိဗိုဇ် ဖြစ်ခဲ့ပါတယ်။ အခြားတစ်ပါးကတော့ ဗာဟိယတိုင်းမှာ ဗာဟိယဒါရုစီရိယ ဖြစ်လာခဲ့ပါတယ်။ နောက်တစ်ပါးကတော့ ရာဇဂြိုဟ်ပြည်မှာ ကုမာရကဿပ သူငယ် ဖြစ်လာခဲ့ပြီး အရှင်ဒဗ္ဗ မထေရ်လောင်း ရဟန်းကတော့ မလ္လတိုင်း အနုပိယမြို့က မလ္လမင်း တစ်ပါးရဲ့ နန်းအိမ်မှာ ပဋိသန္ဓေ နေခဲ့ပါတယ်။

အရှင်ဒဗ္ဗမထေရ်လောင်း သူငယ်ရဲ့ မိခင်ဟာ ကိုယ်ဝန် အရင့်အမာနဲ့ မီးဖွားခါနီး အချိန်မှာပဲ ရုတ်တရက် ကွယ်လွန်ခဲ့ပါတယ်။ အလောင်းကောင်ကို သုသာန်ပို့ဆောင်ပြီး ထင်းပုံထက်တင်ကာ



မီးသင်္ဂြိုဟ်ခဲ့ကြတယ်။ အဲဒီအခါ ဒီမိခင်ရဲ့ ဝမ်းဗိုက်အရေလွှာဟာ အလွန်ပြင်းထန်တဲ့ မီးအရှိန်ဟပ်တဲ့အတွက် နှစ်ခြမ်း ကွဲသွားခဲ့ပါတယ်။ ဝမ်းဗိုက်အတွင်းမှာ ရှိနေတဲ့ အရှင်ဒဗ္ဗမထေရ်လောင်း သူငယ်ဟာ မိမိရဲ့ ကုသိုလ်ကံ အစွမ်းကြောင့်ပဲ ကောင်းကင်သို့ လွင့်စဉ် ပျံတက်ကာ အနီးအနားမှာ ရှိတဲ့ နေစာမြက်ပုံပေါ် ကျခဲ့ပါတယ်။ မီးသင်္ဂြိုဟ်နေတဲ့သူတွေဟာ ဒီကလေးသူငယ်ကို ကောက်ယူပြီး အဖွားထံ ပေးအပ်ခဲ့ကြပါတယ်။ အဖွားဖြစ်သူဟာ ဒီသူငယ်လေးရဲ့ နာမည်ကို မှည့်တဲ့အခါ နေစာမြက်ပုံပေါ် ကျရောက်ပြီး အသက်ရှင်ခဲ့တာကို အကြောင်းပြုကာ ‘မောင်ဒဗ္ဗ’ လို့ နာမည် မှည့်ခေါ်ခဲ့ပါတယ်။ ဒဗ္ဗ ဆိုတဲ့ ပါဠိစကားက နေစာမြက် လို့ အဓိပ္ပာယ်ရပါတယ်။

မောင်ဒဗ္ဗလေး အသက် ခုနစ်နှစ်အရွယ်ရောက်တဲ့အခါ မြတ်စွာဘုရားရှင်ဟာ နောက်ပါ ရဟန်းတော်များနဲ့အတူ မလ္လတိုင်းမှာ ဒေသစာရီ ခရီးလှည့်လည်ရင်းက အနုပိယမြို့ကို ရောက်ရှိကာ မြို့အနီးက သရက်တောမှာ သီတင်းသုံး နေတော်မူခဲ့ပါတယ်။ မောင်ဒဗ္ဗလေး မြတ်စွာဘုရားကို ဖူးမြင်လိုက်ရတဲ့အခါ ချက်ချင်း ဆိုသလိုပဲ ကြည်ညိုသဒ္ဓါစိတ်တွေ ဖြစ်ပေါ်လာပြီး ရှင်ရဟန်းပြုလိုတဲ့ ဆန္ဒတွေ ဖြစ်ပေါ်လာတဲ့အတွက် အဖွားထံ ခွင့်ပန်ခဲ့ပါတယ်။ အဖွားဖြစ်သူဟာ ဝမ်းသာအားရနဲ့ မြေး မောင်ဒဗ္ဗကို ခေါ်ဆောင်ပြီး မြတ်စွာဘုရားထံ သွားရောက်ကာ “မြတ်စွာဘုရား··· ဒီသူငယ်ကို ရှင်ပြုပေးတော်မူပါ ဘုရား” လို့ လျှောက်ထားခဲ့ပါတယ်။

## ရှင်ဒဗ္ဗ ခုနစ်နှစ်သားအရွယ် ရဟန္တာဖြစ်ပုံ

မြတ်စွာဘုရားရှင်ကလည်း အနီးမှာရှိတဲ့ ရဟန်းတစ်ပါးကို မောင်ဒဗ္ဗလေးကို ရှင်သာမဏေ ပြုပေးဖို့ တာဝန်ပေးလိုက်ပါတယ်။ တာဝန်ပေးခံရတဲ့ မထေရ်ဟာ မြတ်စွာဘုရား စကားကို ကြားနာပြီး

နောက် မောင်ဒဗ္ဗလေးကို ရှင်ပြုပေးတဲ့အခါ "ဆံပင်၊ မွေးညင်း၊ ခြေသည်း လက်သည်း၊ သွား၊ အရေ" ဆိုတဲ့ တစပဉ္စက ကမ္မဋ္ဌာန်း စီးဖြန်းနည်းကို အရင်ဆုံး သင်ပေးပြီး အဲဒီနောက်မှ ဆံချပေးပါတယ်။ ဆံချနေတဲ့အခါ ရှင်လောင်းဖြစ်တဲ့ မောင်ဒဗ္ဗလေးဟာ မထေရ်မြတ် သင်ပေးတဲ့အတိုင်း သူ့ရဲ့ ခန္ဓာကိုယ်ကို ဆံပင်တစ်ပုံ၊ မွေးညင်းတစ်ပုံ၊ ခြေသည်း လက်သည်းတစ်ပုံ၊ သွား တစ်ပုံ၊ အရေတစ်ပုံ၊ ငါးပုံ ပုံပြီး အသုဘ သဘော ပေါ်အောင် တစပဉ္စက ကမ္မဋ္ဌာန်းကို စီးဖြန်း နေပါတယ်။

မောင်ဒဗ္ဗလေးဟာ မဂ်ဖိုလ်ရကြောင်း ရှေးကောင်းမှုနဲ့ ပြည့်စုံသူ ဖြစ်တဲ့အပြင် လွန်ခဲ့တဲ့ ကမ္ဘာ တစ်သိန်းထက်က ပဒုမုတ္တရ မြတ်စွာဘုရားထံ မဟာသာဝက ဗောဓိဆုပန် ဗျာဒိတ်ခံခဲ့သူလည်း ဖြစ်တာမို့ ပထမဆံဝန်းကို ရိတ်ချလိုက်စဉ်မှာပဲ သောတာပတ္တိဖိုလ်မှာ တည်ခဲ့ပါတယ်။ ဒုတိယဆံဝန်းကို ရိတ်ချပြီးတဲ့အခါ သကဒါဂါမိ ဖိုလ်နဲ့ တတိယဆံဝန်းကို ရိတ်ချပြီးတဲ့အခါ အနာဂါမိဖိုလ်မှာ တည်ခဲ့ပါတယ်။ နောက်ဆုံး ဆံအားလုံး ရိတ်ချပြီးတဲ့အခါမှာတော့ အရဟတ္တဖိုလ်မှာ တည်ခဲ့ပြီး ကိလေသာကုန်ခန်း ရဟန္တာဖြစ်တော် မူခဲ့ပါတယ်။

မြတ်စွာဘုရားရှင်ဟာ မလ္လတိုင်းမှာ ချွေချွတ်ရမည့် သတ္တဝါ များကို ချွေချွတ်ပြီးနောက် ရာဇဂြိုဟ်ပြည်သို့ ကြွရောက်ကာ ဝေဠုဝန် ကျောင်းမှာ သီတင်းသုံး နေတော်မူခဲ့ပါတယ်။ မြတ်စွာဘုရားနဲ့အတူ ရဟန္တာ ရှင်ဒဗ္ဗလည်း လိုက်ပါခဲ့ပါတယ်။ ရာဇဂြိုဟ်ရောက်တဲ့အခါ ရဟန္တာ ရှင်ဒဗ္ဗဟာ ဆိတ်ငြိမ်ရာအရပ်မှာ ချဉ်းကပ်ပြီး မိမိရဲ့ ရဟန်း ကိစ္စ ပြီးစီးပုံကို ဆင်ခြင်သုံးသပ်ကာ 'ငါဟာ ခုနစ်နှစ်သား အရွယ်နဲ့ ရဟန္တာဖြစ်ခဲ့တယ်၊ သာဝကတစ်ပါးအတွက် ရောက်သင့်ရောက် ထိုက်တဲ့ အမြင့်ဆုံး တရားထူး အဆင့်အတန်း ရောက်ခဲ့ပြီ၊ နောက်ထပ်



တရားကိစ္စအတွက် အထူးပွားနေစရာ မရှိတော့၊ ဒီတော့ သံဃာတော် များအတွက် ကျောင်း၊ အိပ်ရာ၊ နေရာ ခင်းပေးရရင် ကောင်းမယ်၊ ဆွမ်းညွှန်တဲ့ကိစ္စကိုလည်း ဆောင်ရွက်ရရင် ကောင်းမယ်' ဆိုတဲ့ သံဃာ့ဝေယျာဝစ္စ ပြုလုပ်ဆောင်ရွက်လိုတဲ့ အကြံအစည်တွေ ဖြစ်ပေါ် လာခဲ့ပါတယ်။

ရဟန္တာ ရှင်ဒဗ္ဗဟာ မြတ်စွာဘုရားထံ သွားရောက်ပြီး မိမိရဲ့ အကြံအစည်ကို လျှောက်ထားခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက သာဓုခေါ် ကောင်းချီးပေးတော်မူပြီး သံဃာအတွက် နေရာခင်းပေးတဲ့ ရဟန်းလို့ သံဃာက အသိအမှတ်ပြုခြင်း - သေနာသနပညာပက သမ္မုတိနဲ့ သံဃာအတွက် ဆွမ်းညွှန်းပေးတဲ့ ရဟန်းလို့ သံဃာက အသိအမှတ်ပြုခြင်း - ဘတ္တုဒ္ဒေသက သမ္မုတိ၊ ဒီ သမ္မုတိ နှစ်ရပ်ကို အပ်နှင်းတော်မူခဲ့ပါတယ်။

ဒီနောက်မှာတော့ ရဟန္တာ ရှင်ဒဗ္ဗကို "ဒီ ဒဗ္ဗသာမဏေဟာ ခုနစ်နှစ်အရွယ် ငယ်ရွယ်တဲ့အချိန်မှာပဲ ကြီးမြတ်တဲ့အရာဌာနဖြစ်တဲ့ ပဋိသမ္ဘိဒါလေးပါး၊ အဘိညာဉ် ခြောက်ပါး၊ ဝိဇ္ဇာသုံးပါးရ ရဟန္တာ အဖြစ်မှာ တည်ခဲ့တယ်" လို့ နှစ်သက်အားရ ကျေနပ်တော်မူကာ မြတ်စွာဘုရားဟာ ခုနစ်နှစ်အရွယ် ငယ်စဉ်မှာပဲ ရှင်ဒဗ္ဗကို ရဟန်း ပြုစေခဲ့ပါတယ်။ ခုနစ်နှစ်သားနဲ့ ရဟန်းဖြစ်ခဲ့တဲ့သူပေါ့။

အရှင်ဒဗ္ဗမထေရ်ဟာ ရဟန်းဖြစ်ပြီးတဲ့ အချိန်ကစပြီး ရာဇဂြိုဟ်ကို အမှီပြုပြီးနေတဲ့ ရဟန်း အားလုံးအတွက် ကျောင်း၊ အိပ်ရာ၊ နေရာများကို ခင်းပေးပါတယ်။ သံဃာအတွက် ဒကာ၊ ဒကာမတွေ လှူဒါန်းတဲ့ ဆွမ်းကိုလည်း တာဝန်ယူ လက်ခံပြီး ထေရ် စဉ် ဝါစဉ် မမှားရအောင် ညွှန်ကြားတော်မူပါတယ်။

အရှင်ဒဗ္ဗမထေရ် နေရာထိုင်ခင်း စီစဉ်ပေးတဲ့အခါ ဝိနည်းဓိုရ် ရဟန်းတွေ ဆိုရင်လည်း ဝိနည်းဓိုရ်အချင်းချင်း ဝိနည်းတရားတွေ

ဆွေးနွေးနိုင်စေဖို့ တစ်နေရာတည်း ဖြစ်အောင် စီမံ ခင်းကျင်းပေးပါတယ်။ ဒီ့အတူ သုတ္တန်ဆောင်တွေ၊ အဘိဓမ္မာဆောင်တွေ၊ ဈာန်ဝင်စားတာကိုပဲ အထူးဝါသနာပါသူတွေကိုလည်း သဘောတူရာတူရာ ဝါသနာတူချင်းဖြစ်အောင် သူ့အုပ်စုအလိုက် နေရာထိုင်ခင်းကို ခင်းကျင်း စီမံပေးပါတယ်။ နောက်ဆုံး တရားဝါသနာ မပါဘဲ ထွေရာလေးပါး စပ်မိစပ်ရာ ရပ်စကား ရွာစကား ပြောပြီးနေတတ်တဲ့ ရဟန်းတွေကိုလည်း သူတို့ဝါသနာချင်းတူတဲ့ ရဟန်းတွေချည်း တစ်အုပ်စုတည်း ဖြစ်အောင် စီမံခင်းကျင်းပေးပါတယ်။

တချို့ ရဟန်းတွေဆိုရင် အချိန်မဟုတ်အခါမဟုတ် အတော်ညဥ့်နက်မှ ရောက်လာပြီး အတော်ဝေးတဲ့နေရာတွေမှာ နေချင်တဲ့ အကြောင်း ပြောတတ်ကြတယ်။ ဒီရဟန်းတွေကိုလည်း တေဇောကသိဏ်းဝင်စားပြီး အဘိညာဉ်တန်ခိုးနဲ့ ဖန်ဆင်းလို့ရလာတဲ့ အရောင်အလင်းနဲ့ သူတို့ နေချင်တဲ့ နေရာတွေမှာ နေရာထိုင်ခင်း စီမံဆောင်ရွက်ပေးပါတယ်။ တကယ်တော့ ရဟန်းတွေ တော်တော်များများဟာ အရှင်ဒဗ္ဗမထေရ်ရဲ့ တန်ခိုးကို ကြည့်ချင်တာနဲ့ အတော်ညဥ့်နက်မှပဲ ရောက်ရောက်လာတတ်ကြပါတယ်။

အရှင်ဒဗ္ဗမထေရ်ရဲ့ ခုလို သဘောတူရာ အုပ်စုအလိုက် နေရာထိုင်ခင်း စီမံပေးတတ်ပုံ၊ အရပ်ဝေး နေရာမှာ နေချင်တယ်လို့ ပြောရင်လည်း အဲဒီ ပြောတဲ့နေရာတွေမှာ နေရာစီမံပေးပုံ၊ ကိုယ့်အစွမ်းနဲ့ အဲဒီဝေးတဲ့နေရာတွေကို ရောက်အောင် မသွားနိုင်တဲ့ ရဟန်းတွေကိုလည်း တန်ခိုးနဲ့ လိုက်လံပို့ဆောင်ပေးပုံတွေဟာ အရပ်ဒေသအသီးသီးမှာရှိတဲ့ ရဟန်းတွေအထိ သတင်းတွေ ပျံ့နှံ့သွားပါတယ်။

တချို့ရဟန်းတွေက အရှင်ဒဗ္ဗမထေရ်ရဲ့ တန်ခိုးအစွမ်းကို ကိုယ်တွေ့ သိချင်တာနဲ့ သွားရလာရ အလွန်ခက်ပြီး ဝေးလံတဲ့နေရာတွေမှာ နေရာစီမံပေးဖို့ ပြောတတ်ကြပါတယ်။ ဒီအခါ အရှင်ဒဗ္ဗမထေရ်က တေဇောကသိဏ်းဝင်စားပြီး လက်ချောင်းက အလင်းရောင်တောက်အောင် ဖန်ဆင်းကာ အဲဒီအလင်းရောင်နဲ့ ရှေ့ကနေ လမ်းပြပြီး ခေါ်ဆောင်သွားပါတယ်။ ရဟန်းတွေက အဲဒီအလင်းရောင်နဲ့ပဲ နောက်ကနေ လိုက်သွားကြပါတယ်။ အရှင်ဒဗ္ဗက အဲဒီရဟန်းတွေအတွက် ဒါက ခုတင်၊ ဒါက ကုလားထိုင်၊ ဒါက ခေါင်းအုံး စသဖြင့် ညွှန်ပြပြီး ဝေဠုဝန်ကျောင်းတော်ကို ပြန်သွားပါတယ်။

ဒါကြောင့်ပဲ မြတ်စွာဘုရားဟာ နောက်ပိုင်းကာလ ရောက်တဲ့အခါ အရိယာသံဃာတွေရဲ့ အလယ်မှာ ထိုင်တော်မူပြီး အရှင်ဒဗ္ဗမထေရ်ကို "ရဟန်းတို့… သံဃာတော်များအတွက် နေရာထိုင်ခင်း ခင်းကျင်း စီမံဆောင်ရွက်ပေးတဲ့ ငါဘုရားရဲ့ ရဟန်းတော်တွေထဲမှာ ဒဗ္ဗ အမည်ရှိတဲ့ ရဟန်းဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပေတယ်" လို့ သေနာသန ပညာပကအရာ ဧတဒဂ်ရာထူးနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

---------------

## (ဂ) အရှင်ဒဗ္ဗမထေရ်နဲ့ ဆက်စပ်တဲ့ တရားတော်

### အရှင်ဒဗ္ဗမထေရ် စွပ်စွဲခံရပုံ

အရှင်ဒဗ္ဗမထေရ် သံဃာ့ဝေယျာဝစ္စ ဆောင်ရွက်နေတဲ့ ရာဇဂြိုဟ်မှာ လာဘ်လာဘ မက်မောပြီး အနေအထိုင်မကောင်းတဲ့ မေတ္တိယဘူမဇက ရဟန်းတွေ ရှိပါတယ်။ သူတို့ဟာ သိက္ခာဝါငယ်သူတွေ ဖြစ်ရုံမက ဘုန်းကံကလည်း အတော်လေးနည်းပါးတဲ့ ရဟန်းတွေ ဖြစ်ပါတယ်။ ရာဇဂြိုဟ်မြို့သူ မြို့သားတွေက ထေရ်ကြီးဝါကြီး ရဟန်းတွေကိုတော့ ဆွမ်းကောင်း၊ ဟင်းကောင်း လောင်းလှူကြပြီး မေတ္တိယဘူမဇကရဟန်းတွေကိုတော့ ဆန်ကွဲထမင်းနဲ့ ပုန်းရည်ဟင်းကိုပဲ လောင်းလှူလေ့ရှိပါတယ်။

တစ်ခါမှာတော့ ရာဇဂြိုဟ်က သူဌေးတစ်ဦးက သံဃာတွေကို ဆွမ်းကပ်ဖို့ ဆွမ်းစားပင့်ပါတယ်။ ဆွမ်းညွှန်ရဟန်းဖြစ်တဲ့ အရှင်ဒဗ္ဗမထေရ်က နောက်တစ်နေ့မနက် အဲဒီသူဌေးအိမ် ဆွမ်းစားကြွဖို့ အလှည့်ကျကြောင်း မေတ္တိယဘူမဇကရဟန်းတွေကို ပြောထားပါတယ်။ မေတ္တိယဘူမဇက ရဟန်းတွေဟာ မနက်ဖြန်မနက်ကျရင် သူဌေးအိမ် ဆွမ်းစားကြွရမှာနဲ့ ဆွမ်းကောင်း၊ ဟင်းကောင်းတွေ စားရတော့မှာပဲ ဆိုတဲ့အတွေးနဲ့ အဲဒီညမှာ အိပ်တောင် မပျော်ကြပါဘူး။

ဖြစ်ချင်တော့ ဆွမ်းစားပင့်တဲ့ သူဌေးက ဆွမ်းမကျွေးခင် ရှေ့တစ်ရက် ညနေချမ်းအချိန် ဝေဠုဝန်ကျောင်းကို ကိစ္စတစ်ခုနဲ့ ရောက်လာပါတယ်။ ပြန်ခါနီးမှာ ဆွမ်းညွှန်တာဝန်ယူထားတဲ့ အရှင်ဒဗ္ဗမထေရ်ဆီ နောက်တစ်နေ့မနက် သူ့အိမ်မှာ ဘယ်ရဟန်းတွေများ ဆွမ်းစားကြွဖို့ အလှည့်ကျပါသလဲလို့ မေးမြန်းခဲ့ပါတယ်။ အရှင်ဒဗ္ဗမထေရ်ကလည်း မေတ္တိယဘူမဇကရဟန်းတွေ အလှည့်ကျပါကြောင်း ဖြေကြားလိုက်ပါတယ်။ ဒီအခါ အဲဒီသူဌေးဟာ အကျင့်မကောင်းတဲ့ ရဟန်းတွေ ငါ့အိမ် ဆွမ်းစား အလှည့်ကျမှာပဲဆိုတာ သိလိုက်ရပြီး စိတ်အတော်ပျက်သွားပါတယ်။ အိမ်ပြန်ရောက်တဲ့အခါ ကျွန်မတစ်ယောက်ကို မနက်ဖြန်မနက် ဆွမ်းစားကြွလာတဲ့ ရဟန်းတွေကို အိမ်ရှေ့တံခါးမုခ်နားမှာပဲ ဆန်ကွဲထမင်း၊ ပုန်းရည်ဟင်းနဲ့ပဲ ဆွမ်းကပ်လိုက်ဖို့ မှာကြားစေခိုင်းခဲ့ပါတယ်။

နောက်တစ်နေ့မနက်မှာ မေတ္တိယဘူမဇကရဟန်းတွေဟာ တို့တော့ သူဌေးအိမ်မှာ ဟင်းကောင်း၊ ဆွမ်းကောင်းတွေနဲ့ စားရတော့မှာပဲဆိုတဲ့ အတွေးနဲ့ သူဌေးအိမ် ကြွလာခဲ့ကြပါတယ်။ ဒါပေမယ့် သူတို့ တွေးထားတဲ့အတိုင်း မဟုတ်ဘဲ ကျွန်မကပ်တဲ့ ဆန်ကွဲထမင်းနဲ့ ပုန်းရည်ဟင်းပဲ မစားချင် စားချင် စားပြီး မကျေမနပ်နဲ့ ပြန်လာခဲ့ရပါတယ်။ ဒါနဲ့ အဲဒီ မေတ္တိယဘူမဇက ရဟန်းတွေက 'မနေ့က ညနေက အရှင်ဒဗ္ဗဆီ ဒီ သူဌေးလာတာ မြင်လိုက်တယ်၊ ဧကန္တ ဒဗ္ဗမထေရ်က ငါတို့ မကောင်းကြောင်းတွေ ပြောလိုက်လို့ တို့ကို ဒီနေ့ ဆွမ်းကောင်းကောင်း မကပ်လိုက်တာ ဖြစ်မယ်' လို့ တွေးပြီး အရှင်ဒဗ္ဗမထေရ်ကို မကျေမနပ် ဖြစ်ခဲ့ကြပါတယ်။ ဒါနဲ့ အဲဒီရဟန်းတွေဟာ သူတို့နဲ့ စိတ်သဘောထားတူတဲ့ မေတ္တိယာ အမည်ရှိတဲ့ ဘိက္ခုနီမကို အကူအညီတောင်းပြီး အရှင်ဒဗ္ဗမထေရ်ကို မဟုတ်မတရား စွပ်စွဲခိုင်းပါတယ်။

မေတ္တိယာ ဘိက္ခုနီမကလည်း သူတို့ခိုင်းတဲ့အတိုင်း မြတ်စွာဘုရားထံ သွားပြီး ““မြတ်စွာဘုရား… အရှင်ဒဗ္ဗက တပည့်တော်မကို မတော်မတရားကျင့်ပြီး ဖျက်ဆီးပါတယ် ဘုရား”” လို့ သွားရောက်လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားက အရှင်ဒဗ္ဗမထေရ်ကို ခေါ်ပြီး သံဃာ့ပရိသတ်အလယ်မှာ မေတ္တိယာဘိက္ခုနီမ စွပ်စွဲတာ ဟုတ်၊ မဟုတ် သုံးကြိမ် သုံးခါ မေးမြန်းပါတယ်။ မြတ်စွာဘုရား မေးတဲ့အခါတိုင်း အရှင်ဒဗ္ဗမထေရ်က ““တပည့်တော် ဟုတ်၊ မဟုတ် မြတ်စွာဘုရား အသိဆုံး ဖြစ်ပါတယ် ဘုရား”” လို့ လျှောက်ထားခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ““ဒဗ္ဗ… ဟုတ်ရင် ဟုတ်တယ်၊ မဟုတ်ရင် မဟုတ်ပါလို့ပဲ ဖြေပါ”” လို့ မိန့်ပါတယ်။ အရှင်ဒဗ္ဗမထေရ်က ““မြတ်စွာဘုရား… တပည့်တော်ဟာ မွေးတဲ့အချိန်က စပြီး ဒီနေ့အထိ အိပ်မက်နဲ့တောင် မေထုန် မမှီဝဲဖူးပါ ဘုရား”” လို့ ရှင်းလင်းစွာ ပြန်လည် လျှောက်ထား ဖြေကြားခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက မေတ္တိယာဘိက္ခုနီမကို မဟုတ်မတရား စွပ်စွဲမှုနဲ့ လူထွက်ခိုင်းလိုက်ပါတယ်။

**အရှင်ဒဗ္ဗမထေရ် စွပ်စွဲခံရမှုရဲ့ ရှေးမကောင်းမှု အကုသိုလ်ကံ**

အခုလို အရှင်ဒဗ္ဗမထေရ် မဟုတ်မတရား စွပ်စွဲခံရတာဟာ လွန်ခဲ့တဲ့ ကိုးဆယ့်တစ်ကမ္ဘာထက်က ပွင့်တော်မူခဲ့တဲ့ ဝိပဿီမြတ်စွာဘုရားလက်ထက်မှာ ဝိပဿီမြတ်စွာဘုရားရဲ့ တပည့် ရဟန္တာ တစ်ပါးကို သီလစင်ကြယ်တဲ့ပုဂ္ဂိုလ်မှန်း သိပါရက်နဲ့ သီလမစင်ကြယ်တဲ့ ပုဂ္ဂိုလ်ပဲလို့ မဟုတ်မတရား စွပ်စွဲခဲ့တဲ့ အကုသိုလ်ကံကြောင့် ဖြစ်ပါတယ်။ အဲဒီကံကြောင့်ပဲ အရှင်ဒဗ္ဗမထေရ်ဟာ နှစ်ပေါင်းများစွာ ငရဲမှာ ခံခဲ့ရပြီး ခု နောက်ဆုံးဘဝမှာ မေတ္တိယဘူမဇက ရဟန်းတွေရဲ့ လုပ်ကြံစွပ်စွဲမှုကို ခံခဲ့ရတာ ဖြစ်ပါတယ်။

အဲဒီ စွပ်စွဲမှုတွေ ငြိမ်းသွားတဲ့အခါ အရှင်ဒဗ္ဗမထေရ်ဟာ အထင်လွဲနေကြတဲ့သူတွေကို သနားတဲ့အနေနဲ့ မိမိရဲ့ ဂုဏ်ကို ထင်ရှားစွာပြတဲ့ ဖော်ပြပါဂါထာကို ရွတ်ဆိုခဲ့ပါတယ် -

"ပုထုဇဉ်ဘဝက အဆုံးအမခက်တဲ့ ဒဗ္ဗဟာ ခုနေအခါမှာတော့ မြတ်သောဆုံးမခြင်းဖြင့် ဆုံးမအပ်ပြီးဖြစ်တဲ့အတွက် ယဉ်ကျေးပါပြီ၊ ပညာရှိပုဂ္ဂိုလ် ဖြစ်ပါပြီ၊ ပစ္စည်းလေးပါးနဲ့ ပတ်သက်ပြီးတော့လည်း ရောင့်ရဲသူ ဖြစ်ပါပြီ၊ ယုံမှားမှုသံသယတွေကိုလည်း လွန်မြောက်ပြီးပါပြီ၊ ကိလေသာတွေကိုလည်း အောင်ပြီးပါပြီ၊ ဘေးဘျမ်းတွေလည်း မရှိတော့ပါ၊ ဒီဂုဏ်တွေနဲ့ ပြည့်စုံတဲ့ ဒဗ္ဗဟာ ကိလေသာငြိမ်းအေးပြီး ဖြစ်တဲ့အတွက် မတုန်မလှုပ် တည်တံ့တဲ့ သဘောရှိပါ၏"

**အရှင်ဒဗ္ဗမထေရ် ပရိနိဗ္ဗာန်စံတော်မူပုံ**

တစ်ခါမှာတော့ မြတ်စွာဘုရား ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံး နေတော်မူပါတယ်။ အဲဒီအချိန်တစ်နေ့မှာတော့ အရှင်ဒဗ္ဗမထေရ်ဟာ ရာဇဂြိုဟ်မြို့ထဲ ဆွမ်းခံကြွပြီး ဆွမ်းစားပြီးတဲ့ အခါ မြတ်စွာဘုရားထံမှာ ဝတ်ကြီး၊ ဝတ်ငယ်ပြုပြီး



သင့်တော်ရာ နေရာမှာ အချိန်ပိုင်းခြားကာ ဖလသမာပတ်ဝင်စားနေတော်မူပါတယ်။ သတ်မှတ်ထားချိန်ရောက်လို့ ဖလသမာပတ်ဝင်စားရာကနေ ထပြီးတဲ့အခါ မိမိရဲ့ သက်တမ်းကို ဆင်ခြင်ကြည့်လိုက်တဲ့အခါ သက်တမ်း သိပ်မကျန်တော့တာကို တွေ့လိုက်ပါတယ်။

ဒီအခါမှာ အရှင်ဒဗ္ဗမထေရ်မှာ 'ငါဟာ မြတ်စွာဘုရားရှင်နဲ့ သီတင်းသုံးဖော်တွေကို အသိပေး မလျှောက်ထားဘဲ ဒီနေရာမှာ ထိုင်နေရင်း ပရိနိဗ္ဗာန်စံလိုက်မယ်ဆိုရင် မသင့်တော်ဘူး၊ ငါသည် မြတ်စွာဘုရားထံ ချဉ်းကပ်၊ ပရိနိဗ္ဗာန်စံတော့မည့်အကြောင်း အသိပေးလျှောက်ထား၊ ဝတ်ကြီး၊ ဝတ်ငယ် ပြုပြီးနောက် မြတ်စွာဘုရားသာသနာတော်ရဲ့ တကယ့်စစ်မှန်တဲ့ သာသနာတော်ဖြစ်ကြောင်းနဲ့ ဝဋ်ဆင်းရဲမှ တကယ့်ထွက်မြောက်စေနိုင်တဲ့ သာသနာတော်ဖြစ်ကြောင်း ထင်ရှားစေဖို့အတွက် တန်ခိုး အမျိုးမျိုး ပြပြီး၊ ကောင်းကင်မှာ ထိုင်လျက်ပုံစံနဲ့ တေဇောကသိုဏ်းဝင်စားပြီး ပရိနိဗ္ဗာန်စံရရင် ကောင်းမယ်၊ ဒါမှ မေတ္တိယဘူမဇကရဟန်းတွေ မဟုတ်မတရား စွပ်စွဲတာကို ယုံပြီး ငါ့အပေါ် အမြင်မကြည် မကြည်ညိုကြတဲ့ ပုဂ္ဂိုလ်တွေ ငါ့အပေါ်မှာ သံသယကင်းပြီး ကြည်ညိုစိတ်တွေ ဖြစ်လာလိမ့်မယ်၊ ဒီလို ကြည်ညိုစိတ် သူတို့သန္တာန်မှာ ဖြစ်လိုက်ရင် သူတို့အတွက် အစီးအပွား ချမ်းသာသုခ ကောင်းကျိုးတွေ များစွာဖြစ်ပေါ်လာလိမ့်မယ်' လို့ အကြံဖြစ်ပေါ်လာပါတယ်။

ဒါနဲ့ အရှင်ဒဗ္ဗမထေရ်ဟာ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး ပရိနိဗ္ဗာန်စံဖို့ အချိန်ရောက်ပြီ ဖြစ်ကြောင်း လျှောက်ထားပါတယ်။ မြတ်စွာဘုရားကလည်း ဉာဏ်တော်နဲ့ ကြည့်လိုက်တဲ့အခါ အရှင်ဒဗ္ဗမထေရ် ပရိနိဗ္ဗာန်စံဖို့ အချိန်ရောက်နေပြီဆိုတာ သိတာနဲ့ "ဒဗ္ဗ… သင် ပရိနိဗ္ဗာန်စံရမည့်အချိန်ကို သင်ကိုယ်တိုင်ပင် သိပါလော့" လို့ မိန့်ကြားတော်မူလိုက်ပါတယ်။

ဒီအခါ အရှင်ဒဗ္ဗမထေရ်ဟာ မြတ်စွာဘုရားကို ရှိခိုးဦးချ၊ လက်ယာရစ် သုံးကြိမ်လှည့်လည် အရိုအသေပေးပြီးနောက် သင့်လျော်တဲ့ နေရာမှာ ရပ်ပြီး "မြတ်စွာဘုရား… ကမ္ဘာတစ်သိန်း ကာလပတ်လုံး အရှင်ဘုရားတို့နဲ့အတူ ထိုထိုဘဝတွေမှာ အတူတွေ့ဆုံပြီး ပါရမီကောင်းမှုတွေ ဖြည့်တယ်ဆိုတာ အရဟတ္တဖိုလ်ရပြီး ရဟန္တာဖြစ်ဖို့ ရည်ရွယ်ခဲ့တာပါ ဘုရား၊ ခုတော့ အဲဒီ ရည်ရွယ်ချက်ဟာ အထွတ်အထိပ်ရောက် ပြည့်စုံခဲ့ပါပြီဘုရား၊ အခု ဖူးမြော်ခြင်းဟာ နောက်ဆုံး ဖူးမြော်ခြင်းပါ ဘုရား" လို့ လျှောက်ထားခဲ့ပါတယ်။

ဒီအချိန်မှာ ပုထုဇဉ်ရဟန်းတွေ၊ ကိလေသာ အကုန်မပယ်ရသေးတဲ့ သောတာပန်၊ သကဒါဂါမ် ရဟန်းတွေထဲက အချို့ပုဂ္ဂိုလ်တွေက သနားကရုဏာတွေ ဖြစ်ကြ၊ အချို့ပုဂ္ဂိုလ်တွေက ငိုကြွေးကြပါတယ်။ ဒီအခါမှာ မြတ်စွာဘုရားက အရှင်ဒဗ္ဗမထေရ်ရဲ့ စိတ်ကို သိလိုက်ပြီး "ချစ်သား ဒဗ္ဗ… သင် ပရိနိဗ္ဗာန်စံတော့မှာ ဖြစ်တဲ့အတွက် ပရိနိဗ္ဗာန်မစံခင် ငါဘုရားကိုရော ရဟန်းသံဃာတွေကိုပါ တန်ခိုး အမျိုးမျိုး ပြပါဦး" လို့ မိန့်တော်မူလိုက်ပါတယ်။ အဲဒီလို မိန့်လိုက်တယ်ဆိုရင်ပဲ ရဟန်းသံဃာတွေလည်း တစ်ခါတည်း စုဝေးလာပါတော့တယ်။

အဲဒီနောက်မှာတော့ အရှင်ဒဗ္ဗမထေရ်ဟာ ဈာန် အဘိညာဉ်ဝင်စားလိုက်ပြီး တစ်ပါးတည်းက အများဖြစ်အောင်၊ အများက တစ်ပါးတည်း ဖြစ်သွားအောင် စတဲ့ သာဝကနဲ့ဆိုင်တဲ့ တန်ခိုးအမျိုးမျိုးကို ပြပါတော့တယ်။ တန်ခိုးအမျိုးမျိုး ပြပြီးတဲ့နောက်မှာတော့ ကောင်းကင်ကနေ မြတ်စွာဘုရား ခြေတော်ရင်း သက်ဆင်းလာပြီး မြတ်စွာဘုရားကို နောက်ဆုံးရှိခိုး ကန်တော့ကာ ကောင်းကင်ကို တစ်ဖန် ပြန်တက်လိုက်ပါတယ်။ ကောင်းကင်ပေါ်ရောက်တဲ့အခါ မြေကြီးအသွင် ဖန်ဆင်းလိုက်ပြီးနောက် အဲဒီ မြေကြီးပေါ်မှာ



တင်ပျဉ်ခွေ ထိုင်ကာ တေဇောကသိုဏ်းဝင်စားပြီး အဘိညာဏ်တန်ခိုးနဲ့ မိမိကိုယ်ကို တေဇောဓာတ်လောင်အောင် အဓိဋ္ဌာန်ကာ ပရိနိဗ္ဗာန် စံတော်မူခဲ့ပါတယ်။ ပရိနိဗ္ဗာန် စံတာရယ်၊ တေဇောဓာတ်လောင်တာရယ်ဟာ တစ်ပြိုင်နက် ဖြစ်ပေါ်လာပြီး အရှင်ဒဗ္ဗမထေရ်ရဲ့ ခန္ဓာကိုယ် ရုပ်ကလာပ်ကနေ ပြာတို့၊ မီးသွေးတို့ ဘာမှ မကျန်ခဲ့ပါဘူး။ ထောပတ်တို့၊ နှမ်းဆီတို့ မီးလောင်ရင် ဘာပြာ၊ ဘာမီးသွေးမှ မကျန်သလိုပါပဲ။

ဒီအခါ မြတ်စွာဘုရားရှင်ဟာ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာကို ဥဒါန်း ကျူးရင့်တော်မူခဲ့ပါတယ် -

"မလ္လမင်းရဲ့သား ဒဗ္ဗရဲ့ ခန္ဓာကိုယ်ဟာ အကြွင်းမရှိ ကွယ်ပျောက်သွားပြီ၊ ရူပသညာစတဲ့ သညာ အားလုံးလည်း ချုပ်ငြိမ်းကုန်ပြီ၊ ခံစားမှု ဝေဒနာ အားလုံးတို့ဟာလည်း ငြိမ်းအေးကုန်ပြီ၊ သင်္ခါရ အားလုံးတို့လည်း ချုပ်ငြိမ်းကုန်ပြီ၊ စိတ် ဝိညာဏ်လည်း ပြတ်စဲခြင်းသို့ ရောက်လေပြီ"

ဒီ့အတူပဲ မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည် ဇေတဝန်ကျောင်း ပြန်ရောက်တဲ့အခါမှာလည်း အရှင်ဒဗ္ဗမထေရ် ပရိနိဗ္ဗာန်ဝင်စံသွားမှုကို အကြောင်းပြုပြီး သံဃာ့ပရိသတ်အလယ်မှာ ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာကို ရွတ်ဆိုပြီး ဥဒါန်းကျူးရင့်တော်မူခဲ့ပါတယ်-

"ရဲရဲတောက်လောင်နေတဲ့ သံတုံးကို သံတူနဲ့ ထုလိုက်တဲ့ အခါ တက်လာတဲ့ မီးတောက် မီးပွားရဲ့ သွားရာကို မသိနိုင်သလို ဒီ့အတူ ကိလေသာဝဋ်ဆင်းရဲမှ ကောင်းစွာ လွတ်မြောက်ပြီးလည်း ဖြစ်ကုန်၊ ကာမအနှောင်အဖွဲ့တွေနဲ့ ကိလေသာ ဝဲသြဃတွေကနေ လွန်မြောက်ပြီးလည်း ဖြစ်ကုန်၊ တုန်လှုပ်မှုမရှိတဲ့ နိဗ္ဗာန်ချမ်းသာကို ရကြပြီးလည်း ဖြစ်ကုန်တဲ့ ရဟန္တာပုဂ္ဂိုလ်တွေရဲ့ လားရာ ဂတိကို ပညတ်ရန် မရနိုင်တော့ပါချေ"

-----------------------

အရှင်ဒဗ္ဗမထေရ် အကြောင်း ကြည့်ညိုလိုက်ရတဲ့အခါ သာသနာမှာ အမြင့်ဆုံး အရဟတ္တဖိုလ် ဆိုတဲ့ တရားထူး ရပြီး အမြင့်ဆုံး ရဟန္တာပုဂ္ဂိုလ်ဖြစ်တာတောင်မှ သံဃာ့ဝေယျာဝစ္စကိစ္စတွေကို လျစ်လျူရှုမထားဘဲ ဆောင်ရွက်တာကို အတုယူ လိုက်နာကျင့်သုံး စရာ အနေနဲ့ တွေ့ရမှာပါ။ နောက်ပြီး အရှင်မြတ်ဟာ ဘဝတစ်ခုမှာ မပြစ်မှားသင့်တဲ့ပုဂ္ဂိုလ်ကို ဝစီကံနဲ့ စွပ်စွဲပြစ်မှားမိလို့ ငရဲမှာ နှစ်ပေါင်း များစွာ ခံရပြီး နောက်ဆုံးဘဝမှာတောင် မဟုတ်မတရား စွပ်စွဲခံရကာ ဝဋ်ကြွေး ပေးဆပ်ရတာကိုလည်း သံဝေဂယူ ဆင်ခြင်ရမှာပါ။

အရှင်မြတ်ရဲ့ ဘဝဖြစ်ရပ်ကို ကြည့်ပြီး မြတ်စွာဘုရား သာသနာတော်ဟာ တကယ်စစ်မှန်တဲ့ သာသနာတော်ဖြစ်တယ်၊ ဒီသာသနာတွင်းမှာ မိမိတို့ဟာ ရှင်ရဟန်းဖြစ်ရ၊ တပည့် ဒကာ၊ ဒကာမဖြစ်ရတယ် ဆိုတာ ဘယ်လောက်ကံကောင်းသလဲ ဆိုတာကို လည်း ယုံကြည်စရာ၊ နှစ်သက်အားရ ဝမ်းမြောက်စရာအနေနဲ့ တွေ့ရ မှာ ဖြစ်ပါတယ်။

နောက်ဆုံးအနေနဲ့ မြတ်စွာဘုရား ကျူးရင့်တဲ့ ဥဒါန်း နှစ် ဂါထာကို ကြည်ညိုရပြီးတဲ့အခါ ရဟန္တာ ဖြစ်ပြီး ပရိနိဗ္ဗာန်စံတယ် ဆိုတာ ဘယ်လိုဟာလဲ ဆိုတဲ့ အမေးရဲ့ ရှင်းလင်းတဲ့ အဖြေကိုလည်း တွေ့ကြပြီး ဖြစ်ပါလိမ့်မယ်။

ဒါကြောင့် သာသနာစစ် သာသနာမှန်နဲ့ တွေ့ခိုက်မှာ သာသနာကြုံရကျိုးနပ်အောင် ဆိုရင်တော့ သဒ္ဓါ၊ ပညာ စစ်မှန်စွာနဲ့ အရှင်ဒဗ္ဗမထေရ် စတဲ့ အရှင်မြတ်တွေကို စံထားပြီး ကျင့်သုံးကြရမှာ ဖြစ်ပါတယ်။



**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမအုပ်၊ စာ ၂၁၃။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ စာ ၃၇၇ ။
၃။ ဝိနည်း စူဠဝါ ပါဠိတော်၊ ၁၉၁။
၄။ ဥဒါန်းပါဠိတော်၊ ၁၉ ၂။
၅။ ဥဒါန်း အဋ္ဌကထာ၊ ၃၈၇။
၆။ ထေရဂါထာပါဠိ၊ ၂။
၇။ ထေရဂါထာ အဋ္ဌကထာ၊ ပထမတွဲ၊ စာ ၅၄။

## နတ်တွေ ချစ်မြတ်နိုးသည့်အရာ အထာဆုံး

## ဒေဝတာနံ ပိယ မနာပ တေဒဝိရ

# အရှင်ပိလိန္ဒဝစ္ဆမထေရ်

မြတ်စွာဘုရားရှင်ရဲ့ အရဟံဂုဏ်တော်ကို ပွားများတဲ့အခါ "အရဟံ - ဝါသနာနှင့်တကွ တစ်ထောင့်ငါးရာ ကိလေသာတို့မှ လွန်စွာဝေးကွာတော်မူသော မြတ်စွာဘုရား မြတ်စွာဘုရား" လို့ ပွားများတဲ့နည်းကို တွေ့ကြရမှာပါ။ မှန်ပါတယ်… မြတ်စွာဘုရားရှင်တော်မြတ်များ ကိလေသာကို မဂ်ဉာဏ်နဲ့ ပယ်သတ်တဲ့အခါ ဝါသနာ အထုံအငွေ့ပါ မကျန် ပယ်သတ်တော်မူနိုင်ကြပါတယ်။ ရဟန္တာ



အရှင်မြတ်များ ကိလေသာကို ပယ်တဲ့ နေရာမှာတော့ ဝါသနာ အထုံအငွေ့ကို မပယ်သတ်နိုင်ကြပါဘူး။ ကိလေသာတွေ ကုန်သွားပေမယ့် ကိလေသာရဲ့ အရှိန်အစော် ဝါသနာကတော့ ကျန်ရစ်ပါသေးတယ်။ ဥပမာ အရက်ကို သွန်လိုက်ပေမယ့် အရက်နံ့ဟာ အရက်အိုးမှာ စွဲကျန်နေသလိုမျိုးပါပဲ။ အဲဒီလို အထုံ ဝါသနာ ကျန်ရစ်သေးတဲ့အတွက် တချို့ ရဟန္တာတွေရဲ့ ကိုယ်အမူအရာ၊ နှုတ်အမူအရာတွေဟာ ရဟန္တာ မဖြစ်ခင်ကလိုပဲ ဖြစ်နေတတ်ပါသေးတယ်။

ဒီသဘောကို ခု ကြည်ညိုကြမယ့် အရှင်ပိလိန္ဒဝစ္ဆမထေရ် ဝတ္ထုမှာ တွေ့ရမှာ ဖြစ်ပါတယ်။

----------

## အရှင်မြတ်ရတဲ့ ဧတဒဂ် နှင့် အရှင်မြတ်ဘွဲ့အမည် အဓိပ္ပာယ်

မြတ်စွာဘုရားရှင် လက်ထက်တော်အခါက နတ်တွေရဲ့ အကြည်ညိုခံရ၊ ချစ်မြတ်နိုးခံရတဲ့ ရဟန်းတော်တွေ အတော်များများ ရှိခဲ့ပါတယ်။ အဲဒီရဟန်းတော်တွေထဲမှာ အသာဆုံးပုဂ္ဂိုလ်ကတော့ အရှင်ပိလိန္ဒဝစ္ဆမထေရ်မြတ် ဖြစ်ပါတယ်။

အရှင်မြတ်ဟာ မြတ်စွာဘုရား ပွင့်တော်မမူခင် ဘဝတစ်ခုမှာ စကြဝတေးမင်း ဖြစ်ခဲ့ပါတယ်။ စကြဝတေးမင်းဆိုတာ တရားနှင့်အညီ ပြုမူနေထိုင်ပြီး တိုင်းသူပြည်သားတွေကိုလည်း တရားနှင့်အညီ အုပ်ချုပ်တယ်။ တိုင်းသူပြည်သားတွေဟာ စကြာမင်းအုပ်ချုပ်တဲ့ အတိုင်း တရားမပျက် နေထိုင်ကြတဲ့အတွက် ငါးပါးသီလ မြဲကြပြီး ဒီသီလမြဲတဲ့ကုသိုလ်ကြောင့်ပဲ ကွယ်လွန်ကြတဲ့အခါ နတ်ပြည်မှာ နတ်သား၊ နတ်သမီးတွေ ဖြစ်ခဲ့ကြပါတယ်။

နတ်ပြည်ရောက်သွားတဲ့အခါ နတ်သား၊ နတ်သမီးတွေဟာ သူတို့ရတဲ့ နတ်စည်းစိမ်တွေကို ကြည့်ပြီး 'ဘယ်သူ့ကို အကြောင်း



ပြုပြီး ဒီ နတ်စည်းစိမ်တွေကို ရတာလဲ' လို့ ဆင်ခြင်ကြည့်ကြပါတယ်။ ဒီအခါ အရှင်ပိလိန္ဒဝစ္ဆမထေရ် အလောင်း စကြဝတေးမင်းကြောင့် နတ်စည်းစိမ်တွေကို ရတာပဲဆိုတာ သိလိုက်ကြတယ်။ ဒီအခါ နတ်တွေဟာ 'ငါတို့ဟာ ဒီမထေရ်ကို အကြောင်းပြုပြီး နတ်စည်းစိမ်တွေကို ရခဲ့တာပဲ' လို့တွေးပြီး နေ့ရော ညပါ အရှင်ပိလိန္ဒဝစ္ဆမထေရ်ထံ လာရောက် ရှိခိုးကန်တော့ ပူဇော်ကြတယ်။

ဒါကြောင့် အရှင်မြတ်ဟာ နတ်တွေ ချစ်မြတ်နိုးခံရတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး ဧတဒဂ် ရခဲ့တာ ဖြစ်ပါတယ်။ 'ပိလိန္ဒ' ဆိုတာ အရှင်မြတ်ရဲ့ နာမည် ဖြစ်ပြီး 'ဝစ္ဆ' ဆိုတာက မျိုးနွယ်အမည် ဖြစ်ပါတယ်။ နှစ်ခုပေါင်းပြီး အရှင်ပိလိန္ဒဝစ္ဆလို့ နာမည်တွင်ခဲ့တာပါ။

## (က) အရှင်မြတ်ရဲ့ ရှေးအတိတ် ကောင်းမှု

အရှင်မြတ်အလောင်းဟာ လွန်ခဲ့တဲ့ ကမ္ဘာတစ်သိန်းကျော်က ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူတဲ့အခါ ဟံသာဝတီမင်းနေပြည်က ပစ္စည်းဥစ္စာ ပြည့်စုံကြွယ်ဝတဲ့ သူဌေးမျိုးမှာ သူဌေးသား ဖြစ်ခဲ့ပါတယ်။ အရှင်မြတ်အလောင်း သူဌေးသားဟာ ရှေးမထေရ်မြတ်အလောင်းတော်များနည်းတူ ပဒုမုတ္တရ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားနာယူချိန်မှာ ပဒုမုတ္တရ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို နတ်တွေ ချစ်မြတ်နိုးခံရတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး ဧတဒဂ်ရာထူးနဲ့ ချီးမြှောက်တာကို ဖူးတွေ့ကြည်ညိုလိုက်ရပါတယ်။ အရှင်မြတ်အလောင်း သူဌေးသားလည်း အဲဒီ ရဟန်းတော်ကို အားကျပြီး ကုသိုလ်ကောင်းမှုပြု ဧတဒဂ်ဆုပန်ကာ အသက်ထက်ဆုံး ကောင်းမှု ကုသိုလ်တွေ ပြုခဲ့တဲ့အတွက် လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ခဲ့ရပြီး သုမေဓဘုရားရှင် လက်ထက်မှာတော့ လူ့ပြည်မှာ ဖြစ်ခဲ့ပါတယ်။

## သုမေဓဘုရားရှင်လက်ထက် ကောင်းမှုပြုပုံ

သုမေဓ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူတဲ့အခါ မြတ်စွာဘုရားရဲ့ စေတီတော်ကို ကြည်ညိုတဲ့စိတ်၊ ကောင်းမြတ်တဲ့စိတ်ထားနဲ့ပူဇော်မှု ပြုခဲ့တယ်။ ဒါအပြင် အဘိညာဉ်ရ ရဟန္တာမထေရ်တွေ အမှူးပြုတဲ့ သံဃာတော်တွေကိုလည်း စေတီရင်ပြင်ပေါ် ပင့်ဖိတ်ကာ သံဃဒါန ဆွမ်းလောင်းလှူ ပူဇော်ခဲ့တယ်။

## စကြာမင်းဘဝ လူအများကို ငါးပါးသီလ ဆောက်တည်စေပုံ

အရှင်မြတ်အလောင်းဟာ အဲဒီဘဝကနေ ကွယ်လွန်ပြီးတဲ့နောက် လူ့ပြည်၊ နတ်ပြည် ကျင်လည်ရင်းက မြတ်စွာဘုရား ပွင့်တော်မမူမီ ဘဝတစ်ခုမှာ လူ့ပြည်မှာ စကြဝတေးမင်း ဖြစ်ခဲ့ပြီး တိုင်းသူပြည်သားတွေကို ငါးပါးသီလ မြဲအောင် ဆောက်တည် ကျင့်သုံးစေကာ နတ်ပြည်ရောက်အောင် ကျင့်ဆောင် အားထုတ်ခဲ့ပါတယ်။

## (ခ) နောက်ဆုံးဘဝဖြစ်ရပ် အတ္ထုပ္ပတ်

အရှင်မြတ်အလောင်းဟာ အကျွန်ုပ်တို့ ဂေါတမဘုရားရှင် ပွင့်တော်မမူခင်မှာပဲ သာဝတ္ထိပြည်က ပုဏ္ဏားမျိုးမှာ ဖြစ်လာခဲ့ပါတယ်။ မိဘတွေက သူ့ရဲ့နာမည်ကို 'ပိလိန္ဒဝစ္ဆ' လို့ အမည်ပေးခဲ့ကြတယ်။ ပိလိန္ဒဝစ္ဆလုလင်ဟာ ပါရမီကောင်းမှု ရှိခဲ့သူ ဖြစ်တာမို့ သံသရာအပေါ်မှာ ငြီးငွေ့တဲ့ နိဗ္ဗိန္ဒဉာဏ် ထင်လာတဲ့အတွက် ပရိဗိုဇ်ရဟန်းဝတ်ခဲ့ပြီး စူဠဂန္ဓာရီ အတတ်ကို သင်ကြားခဲ့ပါတယ်။ သူဟာ ဒီအတတ်ပညာနဲ့ ကောင်းကင် ပျံနိုင်သလို သူတစ်ပါး စိတ်အကြံကိုလည်း သိနိုင်တဲ့ ဝိဇ္ဇာဓိုရ်တစ်ဦး ဖြစ်ခဲ့ပြီး ရာဇဂြိုဟ်မြို့တစ်ခွင်မှာတော့ ထင်ရှားကျော်ကြားတဲ့ လာဘ်လာဘ ပေါများသူ၊ တပည့်တပန်း အခြံအရံ ပေါများသူ ဖြစ်ခဲ့ပါတယ်။



ဒီအချိန်မှာပဲ အကျွန်ုပ်တို့ ဘုရားရှင် ပွင့်တော်မူလာပြီး ဒေသစာရီ ခရီးကြွရင်းက ရာဇဂြိုဟ်ကို ဆိုက်ရောက်တော်မူလာခဲ့ပါတယ်။ မြတ်စွာဘုရား ရာဇဂြိုဟ် ရောက်ချိန်ကစပြီး ပရိဗိုဇ်ရဟန်းဖြစ်တဲ့ ပိလိန္ဒဝစ္ဆ ဝိဇ္ဇာဓိုရ်ရဲ့ စူဠဂန္ဓာရီ အတတ်ပညာဟာ အစွမ်းတွေ မရှိတော့ဘဲ ပျက်ပြယ်သွားပါတော့တယ်။ သူဟာ အရင်ကလို မန္တန်စုတ်ပေမယ့် ကောင်းကင်ပေါ် မပျံနိုင်တော့ပါဘူး၊ သူများတွေရဲ့ စိတ်အကြံတွေကိုလည်း မသိနိုင်တော့ပါဘူး။

ဒီအခါ ပိလိန္ဒဝစ္ဆ ပရိဗိုဇ်ဟာ 'မဟာဂန္ဓာရီ ဝိဇ္ဇာ ထင်ရှားရှိတဲ့ အရပ်မှာ စူဠဂန္ဓာရီဝိဇ္ဇာဟာ မပြည့်စုံနိုင်လို့ ဆရာ့ဆရာကြီးတွေ မိန့်ကြားခဲ့တာကို ငါ ကြားဖူးတယ်၊ ရဟန်းဂေါတမ ရာဇဂြိုဟ် ရောက်လာတဲ့ အချိန်ကစပြီး ငါ့ရဲ့ ဒီ စူဠဂန္ဓာရီဝိဇ္ဇာဟာ မပြည့်စုံတော့ဘူး၊ တကယ်စင်စစ်တော့ ရဟန်း ဂေါတမဟာ မဟာဂန္ဓာရဝိဇ္ဇာ အတတ်ကို တတ်သိနားလည်သူ ဖြစ်မယ်၊ ငါဟာ ရဟန်းဂေါတမထံ ချဉ်းကပ်ပြီး သူ့ထံမှာ မဟာဂန္ဓာရီဝိဇ္ဇာအတတ်ကို သင်ရရင် ကောင်းမယ်" လို့ တွေးတော ကြံစည် စဉ်းစားမိခဲ့ပါတယ်။ အဲဒီနောက် မြတ်စွာဘုရားထံ ချဉ်းကပ်ခဲ့ပြီး "အို··· ရဟန်းမြတ်၊ အကျွန်ုပ်ဟာ အသင့်ထံမှာ ဝိဇ္ဇာအတတ်ပညာ တစ်ခုကို သင်ယူလိုပါတယ်၊ သင်ယူခွင့် ပြုတော်မူပါ" လို့ တောင်းပန် လျှောက်ထားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက "ဝိဇ္ဇာအတတ်ပညာကို သင်ကြားလိုတယ်ဆိုရင် သင်ဟာ အရင်ဆုံး ရှင်ရဟန်းပြုပါ" လို့ မိန့်တော်မူလိုက်ပါတယ်။ ပိလိန္ဒဝစ္ဆ ပရိဗိုဇ်လည်း 'ရှင်ရဟန်းပြုတယ် ဆိုတာ ဝိဇ္ဇာအတတ်ပညာရဲ့ ရှေ့ပိုင်းအနေနဲ့ လုပ်ဆောင်ရမယ့် လုပ်ငန်းစဉ်တစ်ခု ဖြစ်မှာပဲ' လို့ အောက်မေ့ပြီး ရှင်ရဟန်းပြုခဲ့ပါတယ်။ မြတ်စွာဘုရားရှင်ဟာ အရှင်ပိလိန္ဒဝစ္ဆရဟန်းကို သစ္စာလေးပါး တရားဟောကြားတော်မူပြီး စရိုက်နဲ့ ကိုက်ညီတဲ့ ကမ္မဋ္ဌာန်းတရား ရှုမှတ်

ပွားများနည်းကို သင်ပေးပါတယ်။ အရှင်ပိလိန္ဒဝစ္ဆဟာ ရှေးပါရမီ ကောင်းမှု ရှိသူဖြစ်တာမို့ မြတ်စွာဘုရား သင်ပေးတဲ့အတိုင်း ဝိပဿနာ တရား ရှုမှတ်ပွားများ အားထုတ်လိုက်တဲ့အတွက်ကြောင့် မကြာခင် မှာဘဲ အရဟတ္တဖိုလ်ဆိုက်ကာ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

**အရှင်ပိလိန္ဒဝစ္ဆမထေရ် မပယ်နိုင်တဲ့ ဝါသနာ**

အရှင်မြတ်ဟာ ကိလေသာ အာသဝေါကုန်ခန်း ရဟန္တာဖြစ် ပေမယ့် လူတွေ၊ ရှင်ရဟန်းတွေနဲ့ စကားပြောတဲ့အခါ "ဟဲ့ သူယုတ် မာ… လာခဲ့၊ ဟဲ့ သူယုတ်မာ… သွား၊ ဟဲ့ သူယုတ်မာ… ယူခဲ့စမ်း၊ ဟဲ့ သူယုတ်မာ… ဒါ ယူသွားစမ်း" စသဖြင့် သူယုတ်မာ ဆိုတဲ့ စကားလုံး ခေါ်ဝေါ်သုံးနှုန်းပြီး ပြောလေ့ရှိပါတယ်။ ဒီလို ကြမ်းတမ်း တဲ့ စကားလုံး သုံးနှုန်းပြီး ပြောဆိုတာကို အကြောင်းပြုပြီး ရဟန်း တွေက မြတ်စွာဘုရားကို "မြတ်စွာဘုရား…. အရိယာပုဂ္ဂိုလ်တွေ ဆိုတာ ကြမ်းတမ်းတဲ့စကား မပြောကြဘူး မဟုတ်လား ဘုရား" လို့ မေးလျှောက်ကြပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က " ရဟန်း တို့… အရိယာ ပုဂ္ဂိုလ်တွေမှာ သူတစ်ပါးကို နှိမ့်ချ ရှုတ်ချလိုတဲ့ ဒေါသစိတ်ထားနဲ့ ကြမ်းတမ်းတဲ့စကား ပြောတယ်ဆိုတာ မရှိကြဘူး၊ သို့သော်လည်း ဘဝသံသရာက အလေ့အကျင့်ပါလာရင်တော့ ကြမ်း တမ်းတဲ့စကား ပြောတာ ရှိနိုင်ပါတယ်" လို့ ဖြေကြားတော်မူပါတယ်။ အရိယာတွေ နှုတ်ထွက်ကြမ်းပေမယ့် စိတ်စေတနာ မကြမ်းတမ်းကြ။

ဆက်ပြီး ရဟန်းတွေက "မြတ်စွာဘုရား… ပိလိန္ဒဝစ္ဆ မထေရ်ဟာ လူတွေနဲ့ရော ရဟန်းတွေနဲ့ပါ စကားပြောတဲ့အခါ 'သူယုတ်မာ၊ သူယုတ်မာ' လို့ ပြောဆိုလေ့ရှိပါတယ် ဘုရား၊ ဒီလို ပြောဆိုရတာဟာ ဘယ်လို အကြောင်းကြောင့်ပါလဲ ဘုရား" လို့ မေးလျှောက်ကြပြန်ပါတယ်။ ဒီအခါ မြတ်စွာဘုရားက " ရဟန်း တို့… ငါ့ သားတော် ပိလိန္ဒဝစ္ဆ အခုလို ကြမ်းတမ်းတဲ့ စကားလုံး သုံးနှုန်းပြောဆိုတာဟာ ဒီဘဝမှ မဟုတ်ဘူး၊ သူဟာ အတိတ်ကာလ တုန်းက ဘဝ ငါးရာဆက်တိုက် သူယုတ်မာ၊ သူယုတ်မာ လို့ ခေါ်ဝေါ် သုံးနှုန်းပြီး ပြောလေ့ရှိတဲ့ ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ဖူးတယ်၊ ဒါကြောင့် ပိလိန္ဒဝစ္ဆဟာ ဘဝအလေ့အကျက် အထုံပါလာတဲ့အတွက်ကြောင့်ပဲ ကြမ်းတမ်းတဲ့ စကားလုံး သုံးနှုန်းပြောဆိုတာ ဖြစ်တယ်၊ ဒေါသစိတ် ထားနဲ့ ပြောတာ မဟုတ်ဘူး၊ ဘာကြောင့်လဲဆိုတော့ အရိယာတွေရဲ့ အသုံးအနှုန်းတွေဟာ ကြမ်းတဲ့ အသုံးအနှုန်း ဖြစ်နေပေမယ့် စေတနာ မကြမ်းတမ်းဘူး၊ ဒါကြောင့် သူတို့ဟာ စင်ကြယ်သူတွေ ဖြစ်တယ်။ အကုသိုလ်အပြစ်ဆိုလို့ အနည်းငယ်မျှပင် မရှိပါ" လို့ မိန့်ကြားတော်မူ ခဲ့ပါတယ်။



**အရှင်မြတ် သုံးတဲ့ စကားလုံး ကြမ်းတမ်းပေမယ့် စေတနာစိတ်ထား နူးညံ့ပုံ**

တစ်နေ့မှာတော့ အရှင်ပိလိန္ဒဝစ္ဆမထေရ် ရာဇဂြိုဟ်မြို့ထဲ ဆွမ်းခံကြွခိုက်မှာပဲ ပိတ်ချင်းသီးတွေ အပြည့်ထည့်ထားတဲ့ ခွက်ကိုင်ပြီး မြို့ထဲဝင်လာတဲ့ အမျိုးသားတစ်ယောက်ကို မြင်လိုက်တာနဲ့ "ဟဲ့ သူယုတ်မာ… သင့်ခွက်ထဲက ဘာတွေလဲ" လို့ မေးလိုက်ပါတယ်။ ဒီအခါ အဲဒီအမျိုးသားလည်း 'ဒီ ရဟန်းဟာ မနက်စောစောစီးစီး ငါ့ကို ကြမ်းတမ်းစွာ နှုတ်ဆက်ပြောဆိုခဲ့တယ်၊ သူ့စကားနဲ့ တော်တဲ့ စကားနဲ့ပဲ ငါ ပြန်ဖြေလိုက်တာ ကောင်းပါတယ်' လို့ တွေးပြီး "ကြွက်ချေးတွေပေါ့ ဘုရား" လို့ မကျေမနပ်နဲ့ ဖြေလိုက်ပါတယ်။ အရှင်မြတ်က "ဟဲ့ သူယုတ်မာ… ဒါဆိုရင်လည်း သင်ဖြေတဲ့အတိုင်း ဟုတ်မှာပေါ့" လို့ မိန့်ကြားပြီး ရှေ့ဆက်ကြွသွားပါတယ်။

အရှင်မြတ် ကြွသွားလို့ မကြာခင်မှာပဲ အဲဒီအမျိုးသားရဲ့ ခွက်ထဲက ပိတ်ချင်းသီးတွေဟာ အကုန်လုံး ကြွက်ချေးတွေ ဖြစ်သွားခဲ့

ပါတယ်။ ဒါနဲ့ ဒီအမျိုးသားဟာ "ပိတ်ချင်းသီးတွေက ကြွက်ချေးတွေလိုပါပဲလား၊ တကယ်ပဲ ကြွက်ချေး ဖြစ်ကုန်ပြီလား" ဆိုပြီး လက်နဲ့ သေချာအောင် ဖျစ်ညှစ်ကြည့်လိုက်ပါတယ်။ ဒီအခါ တကယ် ကြွက်ချေးတွေချည်း ဖြစ်သွားတယ်ဆိုတာ သိလိုက်ရလို့ အတော်လေး စိတ်ဆင်းရဲသွားတယ်။ ဒီအမျိုးသားဟာ "ဩော်… ဒီခွက်ထဲက ပိတ်ချင်းသီးတွေပဲ ကြွက်ချေး ဖြစ်သွားတာလား၊ လှည်းပေါ်မှာရှိတဲ့ ပိတ်ချင်းသီးတွေရော ဘယ်လိုလဲ" ဆိုပြီး လှမ်းကြည့်လိုက်တဲ့အခါ ပိတ်ချင်းသီးတွေ အကုန်လုံး ကြွက်ချေးတွေချည်း ဖြစ်သွားတာကို မြင်လိုက်ရတယ်ဆိုရင်ပဲ ရင်ဘတ်ကို လက်နဲ့ ပင့်ပြီး 'ဒီလို ဖြစ်တာဟာ အခြားသူကြောင့် မဟုတ်လောက်ဘူး၊ မနက်စောစော ငါတွေ့ခဲ့တဲ့ ရဟန်းကြောင့်ပဲ နေမှာ၊ တကယ်တော့ နည်းလမ်းတစ်ခုတော့ ရှိမှာပါ၊ ဒီရဟန်းနောက် ခြေရာခံ လိုက်သွားပြီး အကြောင်းတစ်ခုတော့ သိတန်ကောင်းရဲ့' လို့ တွေးကာ မထေရ်မြတ် သွားရာလမ်းကို မေးမြန်းပြီး လိုက်သွားခဲ့တယ်။

ဒီအခါ အခြား လူတစ်ယောက်က အဲဒီအမျိုးသားကို မြင်လိုက်တာနဲ့ "အို… အမောင်၊ သင်ဟာ တော်တော်လေး စိတ်ဆိုးမာန်ဆိုး ဖြစ်နေပုံပဲ၊ ဘာကိစ္စနဲ့ ခုလို စိတ်ဆိုမာန်ဆိုး ပျာယီးပျာယာ သွားနေရတာတုံး" လို့ မေးခဲ့ပါတယ်။ အဲဒီလို မေးလိုက်တယ်ဆိုရင်ပဲ ပိတ်ချင်းသီးပိုင်ရှင်ဟာ မေးလာတဲ့လူကို ဖြစ်ကြောင်းရယ် ကုန်စင် ပြောပြလိုက်တယ်။ ဒီအခါ အဲဒီလူဟာ ပိတ်ချင်းသီးပိုင်ရှင်ကို "အို… အမောင်၊ ဒါများ တောင်တွေးမြောက်တွေး တွေးကြံမနေပါနဲ့၊ သင်ပြောတဲ့ရဟန်းဟာ ငါတို့ရဲ့ အရှင်ပိလိန္ဒဝစ္ဆမထေရ် ဖြစ်ပါလိမ့်မယ်၊ သင်ဟာ အဲဒီ ကြွက်ချေးတွေနဲ့ ပြည့်နေတဲ့ခွက်ကိုပဲ ယူသွားပြီး မထေရ်ရဲ့ ရှေ့မှာ သွားရပ်နေလိုက်ပါ၊ ဒီအခါ 'သူယုတ်မာ…. အဲဒါ ဘာတွေလဲ' လို့ မေးရင် 'ပိတ်ချင်းသီးတွေပါ အရှင်ဘုရား' လို့



ပြန်ဖြေလိုက်ပါ၊ မထေရ်က ဆက်ပြီး 'ဟဲ့ သူယုတ်မာ… သင် ပြောတဲ့အတိုင်း ဖြစ်ပါလိမ့်မယ်' လို့ ပြန်ဖြေလိမ့်မယ်၊ ဒါဆိုရင် သင့်မှာ ပိတ်ချင်းသီးတွေချည်း အကုန်လုံး ပြန်ဖြစ်သွားလိမ့်မယ်" လို့ ပြောပြခဲ့ပါတယ်။ ပိတ်ချင်းသီးပိုင်ရှင်ဟာ အဲဒီလူ ပြောပြတဲ့ အတိုင်း ပြုမူဆောင်ရွက်ခဲ့တဲ့အတွက် ပိတ်ချင်းသီးတွေဟာ နဂိုမူလ အတိုင်း ပြန်ဖြစ်ခဲ့ပါတယ်။ ဒါကတော့ အရှင်မြတ်ရဲ့ စကားဟာ ကြမ်းတမ်းပေမယ့် စိတ်စေတနာ မကြမ်းတမ်းပုံကို ဖော်ပြတဲ့ ဖြစ်ရပ်ပဲ ဖြစ်ပါတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားဟာ အရှင်ပိလိန္ဒဝစ္ဆမထေရ်ကို နတ်တွေ ချစ်မြတ်နိုးခံရတဲ့ ရဟန်းတော်တွေထဲမှာ အရှင်မြတ်ဟာ အသာဆုံးပုဂ္ဂိုလ်ပဲ ဆိုပြီး ဧတဒဂ်အရာထား ချီးမြှောက်တော်မူခဲ့ပါတယ်။ အရှင်ဘဝက အရှင်မြတ်အလောင်း စကြဝတေးမင်းရဲ့ အဆုံးအမကို လိုက်နာပြီး ငါးပါးသီလ မြဲအောင် စောင့်ထိန်းခဲ့တဲ့အတွက် နတ်ပြည်မှာ နတ်ဖြစ်နေကြတဲ့ နတ်တွေ ရှိပါတယ်။ အဲဒီနတ်တွေက အရှင်မြတ်ရဲ့ ကျေးဇူးတရားကို သိမြင်ပြီး အရှင်မြတ်အပေါ် လေးစားချစ်ခင် မြတ်နိုးကြတယ်။ ညနေပိုင်း၊ မနက်ပိုင်းတွေမှာ အရှင်မြတ်ထံ ချဉ်းကပ် ပူဇော်ပြီးမှပဲ လိုရာခရီး ဆက်သွားကြတယ်။ ဒါကြောင့် မြတ်စွာဘုရားက အရှင်ပိလိန္ဒဝစ္ဆ မထေရ်ကို နတ်တွေ ချစ်မြတ်နိုးခံရတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး အမြတ်ဆုံး ဧတဒဂ်အရာ ထားတော်မူခဲ့တာ ဖြစ်ပါတယ်။

## (ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်အပိုင်း

အရှင်ပိလိန္ဒဝစ္ဆ မထေရ်မြတ်ဟာ တစ်နေ့မှာတော့ သံဃာ့ ပရိသတ်အလယ်မှာ ထိုင်နေရင်းက မိမိရဲ့ ဂုဏ်တွေကို ဆင်ခြင်မိပါ တယ်။ ဒီလို ဂုဏ်တွေ ရခဲ့တဲ့ အကြောင်းရင်းကတော့ မြတ်စွာ

ဘုရားထံ ရောက်လာလို့ပဲလို့ ရှင်းလင်းစွာသိမြင်ပြီး မြတ်စွာဘုရားထံ ရောက်လာခဲ့ပုံကို ချီးကျူးစကား လျှောက်ထားပြောကြားလိုတဲ့ အတွက် ဖော်ပြပါ အဓိပ္ပာယ်ရတဲ့ ဂါထာကို ရွတ်ဆို လျှောက်ထားခဲ့ပါတယ်။

**မြတ်စွာဘုရားကျေးဇူး**

"တပည့်တော် မြတ်စွာဘုရားထံ ရောက်လာခြင်းဟာ ကောင်းသောလာခြင်း ဖြစ်ခဲ့ပါတယ် ဘုရား၊ အကျိုးစီးပွားတွေ မဆုတ်ယုတ်တဲ့အပြင် အလွန်မြင့်မြတ်တဲ့ အကျိုးစီးပွားတွေ ဖြစ်ထွန်းခဲ့ပါတယ် ဘုရား၊ တပည့်တော် မြတ်စွာဘုရားထံ တရားနာပြီး ရှင်ရဟန်းပြုမယ်လို့ စိတ်ဖြစ်ခဲ့တဲ့အချိန်က စပြီး တပည့်တော် ပြောခဲ့၊ ဆိုခဲ့၊ စိတ်နဲ့ ကြံစည်တွေးတောခဲ့တာတွေဟာ မကောင်းတဲ့စိတ်ထားနဲ့ ပြောခဲ့ ဆိုခဲ့တာလည်း မရှိခဲ့ပါ၊ အသိဉာဏ်ကင်းမဲ့စွာ တွေးတော ကြံစည်ခဲ့တာလည်း မရှိခဲ့ပါ ဘုရား၊ အကြောင်းကတော့ မြတ်စွာဘုရားရှင်တို့သာ ဝေဖန်ဟောကြားနိုင်တဲ့ တရားတော်တွေအထဲက အမြတ်ဆုံးဖြစ်တဲ့ မဂ်၊ ဖိုလ်၊ နိဗ္ဗာန်တရားကို ကိုယ်တိုင်မျက်မှောက် သိမြင်ခဲ့ပြီး ဖြစ်လို့ပါ ဘုရား"

-----------

နိဂုံးချုပ်အနေနဲ့ အရှင်ပိလိန္ဒဝစ္ဆမထေရ်မြတ် အကြောင်း ကြည့်ညိုသိရှိရတဲ့ အခါမှာတော့ "သြော်... စရိုက်၊ ဝါသနာ၊ အလေ့၊ ဉာဉ်ဆိုတာ တော်တော်တန်တန် ရဟန္တာပုဂ္ဂိုလ်တွေတောင် ဖျောက်ဖို့ မလွယ်ပါလား"လို့ သံဝေဂဉာဏ် ဖြစ်ပွားမိကြမှာပါ။ စရိုက်နဲ့လျော်တဲ့ ကမ္မဋ္ဌာန်းတရားတွေကို ပွားများ အားထုတ်မယ်ဆိုရင် စရိုက်ဆိုး၊ ဝါသနာဆိုး၊ အလေ့အကျင့်ဆိုး၊ ဉာဉ်ဆိုးတွေကို လုံးဝ မပယ်နိုင်တောင်



အတော်အတန် လျော့ပါးအောင်တော့ ထိန်းနိုင်ကြမှာပါ။ ဒါကြောင့် မိမိတို့တစ်တွေ သာသနာကြုံရကျိုးနပ်အောင်ဆိုရင်ဖြင့် စရိုက်ဆိုး၊ ဝါသနာဆိုး၊ အလေ့အကျင့်ဆိုး၊ ဉာဉ်ဆိုးတွေ ဘဝဆက်တိုင်း ပါမသွား ရအောင် စရိုက်နဲ့ ကိုက်ညီတဲ့ ကမ္မဋ္ဌာန်းတရားတွေ ပွားများဖို့က အဓိကပဲ ဖြစ်တယ်လို့ တိုက်တွန်းပါရစေ။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပတွဲ၊ ၂၁၅။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပပိုင်း၊ ၃၈၉။
၃။ အပဒါန် ပါဠိတော်၊ ၆၅။
၄။ အပဒါန် အဋ္ဌကထာ၊ ဒုတွဲ၊ ၁၃။
၅။ ထေရဂါထာပါဠိ၊ ၂၂၁။
၆။ ထေရဂါထာ အဋ္ဌကထာ၊ ပတွဲ၊ ၆၃။
၇။ ဓမ္မပဒအဋ္ဌကထာ၊ ဒုတွဲ၊ ၄၁၉။



မဂ်ဉာဏ် ဖိုလ်ဉာဏ် အမြန်ဆုံးရသည့်အရာ အသာဆုံး

## ခိပ္ပာဘိညာ ဧတဒဂ်ရ

# အရှင်ဗာဟိယဒါရုစီရိယမထေရ်

တရားကျင့်တဲ့အခါ ခက်ခဲပြီး တရားအသိ နှေးသူ၊ တရားကျင့်တဲ့အခါ ခက်ခဲပြီး တရားအသိမြန်သူ၊ တရားကျင့်တဲ့အခါ လွယ်ကူပြီး တရားအသိ နှေးသူနဲ့ တရားကျင့်တဲ့အခါ လွယ်ကူပြီး တရားအသိမြန်သူဆိုပြီး တရားထူး သိမြင်တဲ့ပုဂ္ဂိုလ် လေးမျိုး လေးစား ရှိပါတယ်။

အရှင်ဗာဟိယမထေရ်ကတော့ မြတ်စွာဘုရားက ဆွမ်းခံကြွရင်း ''ဒိဋ္ဌေ ဒိဋ္ဌမတ္တံ ဘဝိဿတိ၊ သုတေ သုတမတ္တံ ဘဝိဿတိ၊ မုတေ မုတမတ္တံ ဘဝိဿတိ၊ ဝိညာတေ ဝိညာတမတ္တံ ဘဝိဿတိ'' စတဲ့ အကျဉ်းချုပ်ဟောတဲ့ တရားနာပြီး တရားအဆုံးမှာ ရဟန္တာဖြစ်သွားခဲ့တဲ့ အရှင်မြတ်ပါ။ ဒါကြောင့် အရှင်မြတ်ဟာ သုခပ္ပဋိပဒါ ခိပ္ပာဘိညာ-အကျင့်လွယ်ပြီး တရားအသိမြန်တဲ့ပုဂ္ဂိုလ် ဖြစ်ပါတယ်။ ဘာကြောင့် အရှင်မြတ် အခုလို လွယ်လင့်တကူ တရားရခဲ့တာလဲဆိုတာ သိရအောင် အရှင်မြတ် အကြောင်းကို ကြည့်ညိုကြည့်ကြပါစို့။

-----------

## အရှင်မြတ်ရတဲ့ ဧတဒဂ် နဲ့ ဘွဲ့အမည် အဓိပ္ပာယ်

အရှင်ဗာဟိယဒါရုစီရိယမထေရ်ဟာ အကျဉ်းဟောကြားတဲ့ တရားတော်ကို နာယူပြီးတဲ့ အဆုံးမှာ အရဟတ္တဖိုလ်ရခဲ့သူ ဖြစ်ပါတယ်။ မဂ် ဖိုလ်ရဖို့အတွက် အထူးတလည် မကျင့်လိုက်ရပါဘူး။ ဒါကြောင့် အရှင်မြတ်ဟာ မဂ်ဖိုလ်တရားထူးကို အမြန်ဆုံးရတဲ့ နေရာမှာ အသာဆုံး ခိပ္ပာဘိညာ ဧတဒဂ်ကို ရခဲ့တာ ဖြစ်ပါတယ်။

အရှင်မြတ်ဟာ ဗာဟိယတိုင်းမှာ မွေးဖွားခဲ့တာမို့ 'ဗာဟိယ' လို့ အမည်တွင်ခဲ့ပြီး နောက်ပိုင်းမှာ သစ်သားမျှင် အဝတ်ကို ဝတ်ခဲ့တဲ့အတွက်ကြောင့် 'ဒါရုစီရိယ' လို့ အမည်တွင်ခဲ့ပြန်ပါတယ်။ ဒီအမည် နှစ်ရပ်ကို ပေါင်းပြီး အရှင်မြတ်ကို 'ဗာဟိယဒါရုစီရိယ' လို့ ခေါ်ကြတာ ဖြစ်ပါတယ်။

-----------



## (က) အရှင်မြတ်ရဲ့ အတိတ်ဇာတ်ကြောင်း

## ပဒုမုတ္တရမြတ်စွာဘုရားထံ ဆုပန် ဗျာဒိတ်ခံ

အရှင်မြတ်အလောင်းတော်ဟာ ရှေးရှေးဘုရားရှင်တွေအထံမှာ သံသရာမှ လွတ်ကြောင်း ကောင်းမှုကုသိုလ်များ ဆည်းပူးပြုလုပ်အားထုတ်ခဲ့ပြီး ပဒုမုတ္တရမြတ်စွာဘုရား လက်ထက်တော်ရောက်တဲ့အခါ ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ ပုဏ္ဏားတို့ တတ်အပ်တဲ့ ဝေဒကျမ်းဂန်အတတ်ကို တစ်ဖက်ကမ်းခပ် တတ်မြောက်ခဲ့ပြီး တစ်နေ့မှာတော့ မြတ်စွာဘုရားထံ သွားရောက် တရားနာနေစဉ်မှာပဲ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို ခိပ္ပာဘိညာ - တရားကို လျင်မြန်စွာသိမြင်တဲ့အရာ အသာဆုံး ဧတဒဂ်ရာထူးပေးတာကို ဖူးတွေ့လိုက်ရပါတယ်။ ဒီအခါ အရှင်မြတ်အလောင်း ပုဏ္ဏားဟာ အားကျစိတ် ဖြစ်ကာ ခုနစ်ရက် ခုနစ်လီ အလှူဒါန ပြုလုပ်ပြီး ပဒုမုတ္တရမြတ်စွာဘုရားထံ ''တပည့်တော်လည်း ခိပ္ပာဘိညာ ဧတဒဂ်ရတဲ့ ရဟန်းလို နောင်အနာဂတ် တစ်ဆူသော ဘုရားရှင်ရဲ့ သာသနာတော်မှာ တရားလျင်မြန်စွာ သိသူတွေထဲမှာ အသာဆုံး ခိပ္ပာဘိညာ ဧတဒဂ်ရသူ ဖြစ်ရပါလို၏'' လို့ ဆုပန်ခဲ့ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားဟာ အနာဂတံသဉာဏ်တော်ဖြင့် ကြည့်တော်မူလိုက်ပြီး ဆုတောင်းပြည့်မှာကို မြင်တော်မူတဲ့အတွက် ''နောင်အနာဂတ် ဂေါတမဘုရားရှင်ရဲ့ သာသနာတော်မှာ သင်ရဲ့ဆုတောင်း ပြည့်လိမ့်မယ်'' လို့ ဗျာဒိတ်စကား မိန့်ကြားတော်မူခဲ့ပါတယ်။

## ကဿပဘုရားရှင်လက်ထက် တောင်ထိပ်တက်ပြီး အသက်စွန့် တရားအားထုတ်ခဲ့

အရှင်မြတ်အလောင်းဟာ အသက်ထက်ဆုံး ကောင်းမှုကုသိုလ်များ ပြုလုပ်ခဲ့ပြီး အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ နတ်ပြည်၊

လူ့ပြည် သုဂတိဘုံဘဝတွေမှာသာ ကျင်လည်ခဲ့ပြီး ကဿပမြတ်စွာဘုရားရှင်လက်ထက် ရောက်တဲ့အခါ အမျိုးကောင်းသား တစ်ဦး ဖြစ်လာခဲ့ပါတယ်။ ကဿပဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးတဲ့အခါ ရဟန်းဝတ်ခဲ့ပြီး သာသနာဆုတ်ယုတ်တဲ့ သာသနာနောက်ပိုင်းမှာ တရားမကျင့်၊ တရားမစောင့်တဲ့ ရှင်လူရဟန်းတွေ များပြားလာတာကို တွေ့မြင်ရတဲ့အတွက် သံဝေဂဉာဏ် ဖြစ်ပွားပြီး သာသနာ မကွယ်ခင် ထောက်ရာတည်ရာ ရအောင် ကြိုးစားအားထုတ်မယ်ဆိုတဲ့ စိတ်နဲ့ အခြားရဟန်း ခြောက်ပါးနဲ့အတူ တောင်ကလပ်တောင်ထိပ် တစ်ခုပေါ်တက်ကာ တရားအားထုတ်ခဲ့ပါတယ်။ အရှင်မြတ်အလောင်း အပါအဝင် ရဟန်းတော် ခုနစ်ပါးတို့ဟာ "အသက်ကို ငဲ့ကွက်သူတွေ နေရစ်ခဲ့၊ အသက်ကို မငဲ့ကွက်တဲ့ ပုဂ္ဂိုလ်တွေသာ ဒီတောင်ပေါ် တက်ကြပါ" ဆိုပြီး တောင်ထိပ်ပေါ်ကို လှေကားထောင်တက်ခဲ့ကြတာပါ။ တောင်ထိပ်ပေါ်ရောက်တဲ့အခါ လှေကားကို တွန်းချပြီး ရဟန်းတရား အားထုတ်ခဲ့ကြပါတယ်။

အဲဒီထဲက အကြီးဆုံး မထေရ်ဟာ တစ်ညလွန်တာနဲ့ ရဟန္တာ ဖြစ်ခဲ့ပါတယ်။ ရဟန္တာမထေရ်ဟာ မြောက်ကျွန်းကနေ ဆွမ်းခံပြီး ကျန်တဲ့ရဟန်းတွေကို ဆွမ်းလှူပါတယ်။ ဒီအခါ ကျန်တဲ့ရဟန်းတွေက "ရဟန္တာအရင်ဆုံး ဖြစ်တဲ့သူက ဆွမ်းခံပြီး ကျန်တဲ့ရဟန်းတွေက အဲဒီဆွမ်းကို စားကြမယ်" လို့ ကတိကဝတ် ထားခဲ့တာ မရှိလို့ ဆွမ်းလှူတာကို လက်မခံကြဘဲ "တပည့်တော်တို့လည်း အရှင်ဘုရားလို တရားထူးရပြီးမှ ကိုယ်တိုင် ဆွမ်းခံပြီး ဘုဉ်းပေးကြမယ်" လို့ ပြန်လည်လျှောက်ထားကာ ငြင်းပယ်ခဲ့ကြတယ်။ နောက်ဒုတိယမြောက်ရက်မှာတော့ ဒုတိယမထေရ်ဟာ အနာဂါမ် ဖြစ်ခဲ့ပါတယ်။ အဲဒီ အနာဂါမ်မထေရ်ကလည်း ဆွမ်းခံပြီး ဆွမ်းလှူပြန်ပါတယ်။ ဒီအခါမှာလည်း ကျန်တဲ့ ရဟန်း ငါးပါးက ငြင်းပယ်ခဲ့ကြတယ်။



အဲဒီရဟန်းတော် ခုနစ်ပါးထဲက အကြီးဆုံး ရဟန္တာမထေရ်က ပရိနိဗ္ဗာန်စံခဲ့ပြီး အနာဂါမ်ဖြစ်တဲ့ ဒုတိယ မထေရ်က ဗြဟ္မာ့ပြည်မှာ ဖြစ်ခဲ့ပါတယ်။ ကျန်တဲ့ ရဟန်းငါးပါးကတော့ တရားထူးရဖို့ မစွမ်းနိုင်ခဲ့ကြဘဲ အစာရေစာပြတ်ပြီး ခုနစ်ရက်မြောက်နေ့မှာ ပျံလွန်တော်မူကြကာ နတ်ပြည် ရောက်ခဲ့ကြတယ်။ အဲဒီရဟန်းငါးပါးဟာ ကဿပဘုရားနဲ့ ဂေါတမဘုရား နှစ်ဆူအကြား နတ်ပြည်မှာ နတ်စည်းစိမ်တွေ ခံစားခဲ့ကြပြီး အကျွန်ုပ်တို့ ဂေါတမဘုရားရှင် လက်ထက်ရောက်တဲ့အခါမှာတော့ တစ်ပါးက ပုက္ကုသာတိမင်း၊ တစ်ပါးက ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်မှာ ကုမာရကဿပလုလင်၊ တစ်ပါးက ဗာဟိယဒါရုစီရိယ၊ တစ်ပါးက မလ္လမင်းရဲ့သား ဒဗ္ဗ ဖြစ်လာပြီး တစ်ပါးကတော့ သဘိယပရိဗိုဇ် ဖြစ်လာခဲ့ပါတယ်။

## (ခ) အရှင်မြတ်ရဲ့ ပစ္စုပ္ပန်ဇာတ်ကြောင်း

### ရဟန္တာယောင်ဆောင်နေခဲ့တဲ့ ဗာဟိယ

ဗာဟိယဒါရုစီရိယအလောင်းတော်ဟာ နတ်ပြည်ကနေ စုတေခဲ့ပြီးနောက် ဗာဟိယတိုင်းမှာ မွေးဖွားခဲ့ပြီး အရွယ်ရောက်တဲ့အခါ အိမ်ထောင်ကျပြီးနောက် အရောင်းအဝယ် ကုန်သွယ်မှုလုပ်ငန်းလုပ်ရန်အတွက် သုဝဏ္ဏဘူမိဘက် သွားမယ့်လှေပေါ် တက်လိုက်လာခဲ့ပါတယ်။ လှေဟာ လိုရာခရီး မရောက်ဘဲ ပင်လယ်သမုဒ္ဒရာ အလယ်မှာ ကွဲပျက်သွားခဲ့ပြီး လူအများစုဟာ ငါးစာ၊ လိပ်စာဖြစ်ကုန်ကြတယ်။ အရှင်မြတ်အလောင်း ကုန်သည် ဗာဟိယကတော့ ပျဉ်ချပ်တစ်ခု ကိုင်ပြီး မျောပါနေရာက ခုနစ်ရက်မြောက်တဲ့နေ့မှာ သုပ္ပာရက ဆိပ်ကမ်း ကုန်းပေါ်ရောက်သွားခဲ့တယ်။ ကုန်းပေါ်ရောက်တဲ့အခါ လူတွေကြားထဲ ဒီအတိုင်း အဝတ်မပါဘဲနဲ့ သွားလို့တော့ မတော်ဘူး ဆိုပြီး ရေကန်ကြီး တစ်ကန်ထဲက ရေမှော်တွေကို ယူပြီး ခန္ဓာကိုယ်မှာ

ရစ်ပတ်ကာ တစ်နေရာမှာ ကျနေတဲ့ ခွက်တစ်ခုကို ကောက်ပြီး အစားအစာ ရဖို့ရန်အတွက် လူတွေရှိရာ သုပ္ပာရကဆိပ်ကမ်းဆီ သွားခဲ့တယ်။

လူတွေက သူ့ကို မြင်လိုက်တာနဲ့ "လောကမှာ ရဟန္တာသာ ရှိခဲ့မယ်ဆိုရင် ဒီပုဂ္ဂိုလ်လို ပုဂ္ဂိုလ်မျိုး ဖြစ်မှာပဲ" ဆိုပြီး စားဖွယ် သောက်ဖွယ်တွေ၊ အဝတ်အစားတွေ ဝိုင်းလှူကြတယ်။ ဒီအခါ ဗာဟိယက 'ငါဟာ မော်တွေ ပတ်ထားတဲ့ ဒီပုံစံနဲ့ မဟုတ်ဘဲ ဝတ်ကောင်းစားလှဝတ်ပြီး ချဉ်းကပ်ခဲ့မယ်ဆိုရင် ငါ့ကို ဘယ်သူကမှ ကြည်ညိုကြ၊ လှူကြ တန်းကြမှာ မဟုတ်ဘူး၊ ငါ ခုနေ သူတို့ လှူတဲ့ အဝတ်တွေကို ယူခဲ့မယ်ဆိုရင် ငါ့မှာ လာဘ်လာဘတွေ၊ ပူဇော်သက္ကာတွေ လျော့သွားလိမ့်မယ်'လို့ တွေးပြီး အဝတ်တွေကို အလှူမခံခဲ့ပါဘူး။ အဝတ်အလှူမခံတဲ့အတွက် လူတွေဟာ ပိုပြီး အထင်ကြီး ကြည်ညိုလေးစားသွားကြတယ်။ ဆက်ပြီး ဗာဟိယဟာ မော်တွေ ပတ်ထားရုံနဲ့တောင် ဒီလို ကြည်ညိုတာ ဒီထက်ပိုပြီး ကြည်ညိုခံရစေဖို့အတွက် ပေ့ါပါးတဲ့ သစ်သားပျဉ်ချပ်တွေကို ယူပြီး ပါးပါးလွှာလွှာလေးတွေ လွှာယူလိုက်ပြီးတဲ့နောက် ပျဉ်ချပ်လွှာလေးတွေကို လျှော်ချည်နဲ့ သီပြီးမှ ဝတ်ရုံခဲ့ပါတယ်။ လူတွေကလည်း သူ့ကို "ရဟန္တာ၊ ရဟန္တာ" ဆိုပြီး ချီးကျူးကြ၊ အထင်ကြီးကြတယ်။ ဗာဟိယကလည်း အဲဒီလို ချီးကျူးဖန် များလာတော့ သူ့ကိုယ်သူ 'ငါဟာ လောကမှာရှိတဲ့ ရဟန္တာတွေထဲမှာ တစ်ယောက်အပါအဝင် ပုဂ္ဂိုလ်ပဲ'လို့ တွေးထင်ပြီး ဒီနည်းနဲ့ လူတွေကို ရဟန္တာမဟုတ်ဘဲ ရဟန္တာလို့ လှည့်ပတ်ကာ အသက်မွေးနေတော့တယ်။

## ဗြဟ္မာကြီးက လာရောက် သတိပေးပြီ

ကဿပမြတ်စွာဘုရား သာသနာတော်တုန်းက တောင်ထိပ် တက်ပြီး တရားကျင့်ခဲ့တဲ့ ရဟန်း ခုနစ်ပါးထဲမှာ ပါဝင်ပြီး အနာဂါမ်



အရိယာဖြစ်ကာ သုဒ္ဓါဝါသဗြဟ္မာ့ပြည် ရောက်သွားတဲ့ ဗြဟ္မာကြီးက သူ့ရဲ့ ဗြဟ္မာ့စည်းစိမ်ကို ကြည့်ပြီး လာရာလမ်းကြောင်းကို ဆင်ခြင် ကြည့်ပါတယ်။ ဒီအခါ တောင်ထိပ်တက်ပြီး တရားအားထုတ်ခဲ့တဲ့ အတွက်ကြောင့် ဗြဟ္မာ့ပြည် ရောက်ခဲ့တာပါလားလို့ သိမြင်ပြီးနောက် ကျန်တဲ့ အတူတရားကျင့်ဖက် ပုဂ္ဂိုလ်တွေကို ဆက်ပြီး ဆင်ခြင်ကြည့် ပါတယ်။ တစ်ပါးက ရဟန္တာဖြစ်ပြီး ပရိနိဗ္ဗာန် စံသွားတာ၊ ကျန်ရဟန်းငါးပါးက နတ်ပြည်မှာ ဖြစ်နေကြတာတွေကို သိလိုက် ရတယ်။ နောက်ပြီး မကြာ မကြာ ဆင်ခြင်ကြည့်ရင်းက ဗာဟိယ ဟာ သုပ္ပာရကဆိပ်ကမ်းကို အမှီပြုပြီး ရဟန္တာ မဟုတ်ဘဲ ရဟန္တာလို့ ဝန်ခံပြီး လူတွေကို လှည့်ပတ်ကာ အသက်မွေးနေတာကို တွေ့လိုက် ပါတယ်။

ဒီအခါ ဗြဟ္မာကြီးဟာ 'ဩော်··· ဒီလူမိုက်တော့ ပျက်စီးနေ ပေ့ါပဲ၊ အရင်တုန်းက ရဟန်းတရား အားထုတ်စဉ်အချိန်က အလွန် ထက်မြက်တဲ့ပုဂ္ဂိုလ်တစ်ယောက်အဖြစ်နဲ့ ရဟန္တာပုဂ္ဂိုလ်က ဆွမ်းခံပေး ခဲ့တာကိုတောင် မစားမသောက်ဘဲ ယခုအခါကျမှ ဝမ်းရေးအတွက် ရဟန္တာ မဟုတ်ဘဲ ရဟန္တာလို့ ဝန်ခံပြီး လူတွေကို လှည့်ပတ်ကာ သွားလာနေပေ့ါပဲ၊ ဘုရားပွင့်နေတယ် ဆိုတာလည်း သိပုံမရ၊ သူ့ကို ထိတ်လန့်မှု သံဝေဂရစေပြီး ဘုရားပွင့်နေတာကို သိစေမယ်' လို့ တွေးကြံပြီး တစ်ခဏချင်းပဲ ဗြဟ္မာ့ပြည်ကနေ သက်ဆင်းလာကာ သုပ္ပာရကဆိပ်ကမ်းမှာ ညပိုင်းအချိန် ဗာဟိယဒါရုစီရိယရဲ့ ရှေ့မှောက် မှာ ကိုယ်ထင်ရှား ဘွားခနဲ ပေါ်လာတယ်။

ဗာဟိယဒါရုစီရိယဟာ ဗြဟ္မာကြီးကို မြင်တွေ့လိုက်ရပြီး လက်အုပ်ချီကာ "သင် ဘယ်သူလဲ"လို့ မေးလိုက်ပါတယ်။ ဒီအခါ ဗြဟ္မာကြီးက "ငါဟာ သင့်ရဲ့ မိတ်ဆွေဟောင်းပါ၊ အနာဂါမ်ဖြစ်ပြီး ဗြဟ္မာ့ပြည် ရောက်နေတာပါ၊ ငါတို့ အတူ တရားအားထုတ်ခဲ့တဲ့

သူတွေထဲက အကြီးဆုံးရဟန်းဟာ ရဟန္တာဖြစ်ပြီး ပရိနိဗ္ဗာန် စံသွားပြီ၊ သင်တို့ ငါးယောက်ကတော့ နတ်ပြည် ရောက်နေခဲ့တာ၊ ခုတော့ ရဟန္တာယောင်ဆောင်ပြီး လူတွေကို လှည့်ပတ်ကာ အသက်မွေးနေတဲ့ သင့်ကို ငါက သတိပေး ဆုံးမဖို့ လာခဲ့တာ ဖြစ်တယ်'' လို့ ပြောဆိုခဲ့ပါတယ်။ ဆက်ပြီး ဗြဟ္မာကြီးက ''ဗာဟိယ… သင်ဟာ ရဟန္တာလည်း မဟုတ်သေးဘူး၊ ရဟန္တာဖြစ်ကြောင်း အကျင့်ဆိုလို့လည်း အနည်းငယ်မျှတောင် မရှိသေးဘူး၊ မြတ်စွာဘုရားရှင် လောကမှာ ထင်ရှားပွင့်ထွန်း ပေါ်ပေါက်နေပြီ၊ သာဝတ္ထိပြည် ဇေတဝန်ကျောင်းမှာ သီတင်းသုံးနေတယ်၊ မြတ်စွာဘုရားဆီ သွားပါလော့'' လို့ တိုက်တွန်းစကား ပြောဆိုပြီး ဗြဟ္မာ့ပြည် ပြန်သွားပါတော့တယ်။

**ဗာဟိယ မြတ်စွာဘုရားထံ သွားပြီ**

ဒီအခါ ဗာဟိယဒါရုစီရိယဟာ ထိတ်လန့်မှု သံဝေဂဉာဏ်တွေ ဖြစ်ပြီး ညတွင်းချင်းပဲ သုပ္ပာရက ဆိပ်ကမ်းကနေ ယူဇနာ ၁၂၀ဝေးကွာတဲ့ သာဝတ္ထိပြည်ကို တစ်ညတည်းနဲ့ ရောက်အောင် သွားခဲ့တယ်။ အဲဒီအချိန်မှာ မြတ်စွာဘုရားက သာဝတ္ထိမြို့ထဲ ဆွမ်းခံကြွနေတဲ့အချိန် ဖြစ်ပါတယ်။ ဇေတဝန်ကျောင်း ရောက်တဲ့အခါ ရဟန်းတော်တွေက ဗာဟိယကို ခရီးဝေးကြီးကနေ လာရတာဖြစ်လို့ ခေတ္တခဏ နားပါဦး၊ အပန်းဖြေပါဦးလို့ ဆိုတာတောင် မနားနိုင်ဘဲ ဗာဟိယဟာ မြို့ထဲ ဆွမ်းခံကြွသွားတဲ့ မြတ်စွာဘုရားနောက်ကို လိုက်သွားတယ်။ ဗာဟိယဒါရုစီရိယဟာ အနှိုင်းမဲ့ ဘုရားရှင်ရဲ့ အသရေတော်နဲ့ ဆွမ်းခံကြွနေတဲ့ မြတ်စွာဘုရားကို ဖူးတွေ့လိုက်ရတဲ့အခါ ''သမ္မာသမ္ဗုဒ္ဓဘုရားရှင်တော်မြတ်ကို အလွန်ကြာမြင့်မှပဲ ဖူးတွေ့ရပါတော့တယ် ဘုရား'' လို့ ကြည်ညိုစိတ်တွေ ဖြစ်ပြီး ကိုယ်လေးကိုင်းညွှတ်ကာ ဘုရားထံမှောက် ရောက်အောင်သွား၊ ရှိခိုးဦးချ ကန်တော့



ကာ ခြေတော်အစုံကို ကိုင်ပြီး ''မြတ်စွာဘုရား… ဘုရားတပည့်တော်အား အကျိုးများကြောင်း၊ ချမ်းသာကြောင်း တရားကို ဟောတော်မူပါဘုရား'' လို့ တောင်းပန်လျှောက်ထားပါတယ်။

ဒီအခါ မြတ်စွာဘုရားက ဗာဟိယရဲ့ ဣန္ဒြေမရင့်ကျက်သေးတာရယ်၊ ခရီးပင်ပန်းနေသေးတာရယ်၊ ကြည်ညိုမှု ပီတိအဟုန်က အားကြီးနေသေးတာရယ် ဒီအကြောင်းတွေကြောင့် ''ဗာဟိယ… အချိန် မကျသေးဘူး၊ ငါဘုရား ခု ဆွမ်းခံဝင်နေတုန်းကွယ်'' ဆိုပြီး တရားဟောဖို့ ငြင်းပယ်လိုက်ပါတယ်။

မြတ်စွာဘုရားက ခုလို မိန့်လိုက်တဲ့အခါ ဗာဟိယက ''မြတ်စွာဘုရား… သံသရာမှာ ကျင်လည်နေရသူတွေအဖို့ အစားအစာ မရဖူးတဲ့ပုဂ္ဂိုလ်ရယ်လို့ မရှိပါဘုရား၊ အရှင်ဘုရားတို့ရဲ့ အသက်အန္တရာယ်ကိုရော တပည့်တော်ရဲ့ အသက်အန္တရာယ်ကိုပါ မသိနိုင်ပါ ဘုရား၊ တပည့်တော်အား တရား ဟောတော်မူပါ ဘုရား၊ တပည့်တော်အား တရားဟောတော်မူပါ ဘုရား'' လို့ ဒုတိယအကြိမ် တောင်းပန် လျှောက်ထားခဲ့ပါတယ်။ ဒုတိယအကြိမ်မှာလည်း အချိန်မကျသေးလို့ မြတ်စွာဘုရားက တရားဟောဖို့ ငြင်းပယ်လိုက်ပြန်ပါတယ်။

ဆက်ပြီး ဗာဟိယက သုံးကြိမ်မြောက် တရားဟောဖို့ရန် လျှောက်ထားတောင်းပန်တဲ့ အခါမှာတော့ တရားဟောချိန် တန်ပြီမို့ မြတ်စွာဘုရားဟာ ဆွမ်းခံသွားနေရင်း လမ်းခရီးကြားမှာပဲ ''တသ္မာတိဟ တေ ဗာဟိယ ဧဝံ သိက္ခိတဗ္ဗံ၊ ဒိဋ္ဌေ ဒိဋ္ဌမတ္တံ ဘဝိဿတိ'' စသည်ဖြင့် တရားဒေသနာကို အကျဉ်းအားဖြင့် ဟောကြားတော်မူခဲ့ပါတယ်။

**ဗာဟိယအား မြတ်စွာဘုရား ဟောကြားသည့် တရားအကျဉ်းချုပ်**

(၁) "ချစ်သား ဗာဟိယ…ဒါဖြင့်ရင် သင်ဟာ ခု ငါဟောတဲ့အတိုင်းကျင့်ပါ၊ မြင်ရတဲ့ အဆင်းမျိုးစုံ ရူပါရုံတွေအပေါ် မြင်ကာမျှဖြစ်အောင်၊ ကြားရတဲ့ အသံမျိုးစုံ သဒ္ဒါရုံတွေအပေါ် ကြားကာမျှဖြစ်အောင်၊ တွေ့ရောက်အပ်တဲ့ အနံ့မျိုးစုံ ဂန္ဓာရုံ၊ ရသာမျိုးစုံ ရသာရုံ၊ အတွေ့မျိုးစုံ ဖောဋ္ဌဗ္ဗာရုံတွေအပေါ်မှာ တွေ့ရောက်ကာမျှဖြစ်အောင်၊ စိတ်ဖြင့် သိအပ်တဲ့ ရုပ်နာမ်မျိုးစုံ ဓမ္မာရုံတွေအပေါ်မှာ သိအပ်ကာမျှဖြစ်အောင် သင်ချစ်သား ကျင့်ပါ။ (အာရုံတွေအပေါ်မှာ လောဘ၊ ဒေါသ၊ မောဟ မဖြစ်အောင် အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘလို့ ရှုပါ၊ နှလုံးသွင်းပါလို့ ဟောလိုရင်း ဖြစ်ပါတယ်။)

(၂) ချစ်သား ဗာဟိယ… သင်ဟာ ခုပြောခဲ့တဲ့ အမြင်အာရုံ၊ အကြားအာရုံ၊ အတွေ့အာရုံ၊ အသိအာရုံတွေအပေါ် မြင်ကာမျှ၊ ကြားကာမျှ၊ တွေ့ရောက်အပ်ကာမျှ၊ သိအပ်ကာမျှ ဖြစ်အောင် ကျင့်နိုင်၊ အားထုတ်နိုင်ပြီဆိုရင် သင်ဟာ အဲဒီအာရုံတွေနဲ့ပတ်သက်တဲ့ ရာဂဖြင့် တပ်မက်သူ၊ ဒေါသဖြင့် ပြစ်မှားသူ၊ မောဟဖြင့် တွေဝေသူ မဖြစ်နိုင်တော့ချေ။

(၃) ချစ်သား ဗာဟိယ… သင်ဟာ အမြင်အာရုံ၊ အကြားအာရုံ၊ အတွေ့အာရုံ၊ အသိအာရုံတွေနဲ့ ပတ်သက်ပြီး ရာဂဖြင့် မတပ်မက်သူ၊ ဒေါသဖြင့် မပြစ်မှားသူ၊ မောဟဖြင့် မတွေဝေသူ ဖြစ်ခဲ့ပြီဆိုရင် သင်ဟာ အဲဒီ အမြင်အာရုံ၊ အကြားအာရုံ၊ အတွေ့အာရုံ၊ အသိအာရုံတွေအပေါ်မှာ တဏှာဖြင့် ငါ့ဥစ္စာလို့ မစွဲငြိသူ မမှီသူဖြစ်ပေလိမ့်မည်၊ မာနဖြင့် ငါဟု မစွဲငြိသူ မမှီသူ ဖြစ်ပေလိမ့်မည်၊ ဒိဋ္ဌိဖြင့် ငါ့အတ္တ, ငါ့လိပ်ပြာဟု မစွဲငြိသူ မမှီသူ ဖြစ်ပေလိမ့်မည်။

(၄) ချစ်သား ဗာဟိယ… သင်ချစ်သားဟာ အဲဒီအာရုံတွေအပေါ်မှာ တဏှာ၊ မာန၊ ဒိဋ္ဌိတို့ဖြင့် မစွဲငြိသူ၊ မမှီသူ ဖြစ်ပြီဆိုရင်



မျက်မှောက် လူ့ဘဝမှာလည်း နောက်တစ်ဖန် ဖြစ်တော့မည်မဟုတ်၊ တမလွန် ဘဝဖြစ်သည့် အခြားဘုံဘဝတွေမှာလည်း နောက်တစ်ဖန် ဖြစ်တော့မည် မဟုတ်။ အခုလို မျက်မှောက်၊ တမလွန် ဘဝတွေမှာ နောက်တစ်ဖန် ရုပ်သစ်၊ နာမ်သစ် မဖြစ်ခြင်းသည်ပင်လျှင် ကိလေသာဆင်းရဲ၊ ဝဋ္ဋဆင်းရဲတွေရဲ့ အဆုံးဖြစ်ပေတယ်" လို့ အနုပါဒါပရိနိဗ္ဗာန်တိုင်အောင် အထွတ်တပ်ပြီး ဟောကြားတော်မူခဲ့ပါတယ်။

ဗာဟိယဒါရုစီရိယဟာ မြတ်စွာဘုရား ဟောကြားတဲ့ တရားတော်ကို ဉာဏ်စိုက်ပြီး နာရင်းနဲ့ပဲ သီလကို စင်ကြယ်စေကာ ရရှိလာတဲ့ စိတ္တသမာဓိကို အမှီပြုပြီး ဝိပဿနာဉာဏ်ကို ပွားများတဲ့အတွက် လမ်းခရီးအကြား ထိုခဏမှာပဲ အာသဝေါတရားတွေကို ကုန်ခန်းစေပြီး ပဋိသမ္ဘိဒါလေးပါးတို့နဲ့အတူ အရဟတ္တဖိုလ်သို့ ရောက်ကာ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

ရဟန္တာဖြစ်ပြီးတဲ့နောက် ဗာဟိယဟာ မြတ်စွာဘုရားထံ ရှင်ရဟန်းပြုခွင့် တောင်းခဲ့ပါတယ်။ မြတ်စွာဘုရားက သပိတ်၊ သင်္ကန်းပြည့်စုံပြီလားလို့ မေးလို့ ဗာဟိယက မပြည့်စုံသေးပါကြောင်း လျှောက်ထားဖြေဆိုပါတယ်။ ဒီအခါ မြတ်စွာဘုရားက ဗာဟိယကို "ဒါဖြင့်ရင် သပိတ်၊ သင်္ကန်း ရှာလိုက်ပါဦး" လို့ မိန့်ကြားကာ ဆွမ်းခံ ဆက်ကြွသွားတော်မူခဲ့ပါတယ်။

**သပိတ်၊ သင်္ကန်း မလှူဖူးတဲ့အတွက် ဗာဟိယဒါရုစီရိယ ဧဟိ ဘိက္ခု ရဟန်းအဖြစ်ကို မရခဲ့**

အခြားမထေရ်တွေဆိုရင် ခုလို ရဟန္တာဖြစ်ပြီးတာနဲ့ မြတ်စွာဘုရားရှင်က "ဧဟိ ဘိက္ခု - ရဟန်း လာခဲ့လော့" လို့ မိန့်လိုက်တာနဲ့ ဆံ မုတ်ဆိတ် ကျင်စွယ်တွေ အလိုလို ရိတ်ပယ်ပြီးသား၊ တန်ခိုးကြောင့်ဖြစ်ပေါ်လာတဲ့ သပိတ်သင်္ကန်းတွေ ခန္ဓာကိုယ်မှာ ဝတ်ဆင်မြန်းထားပြီး

သား ဝါတော် ခြောက်ဆယ်ရ မထေရ်ကြီးတစ်ပါးလို အသွင်ပြောင်းသွားကြပါတယ်။ ဒါကို ဖေဟိ ဘိက္ခု ရဟန်းဖြစ်တယ်လို့ ခေါ်ပါတယ်။ အရှင်ဗာဟိယကိုတော့ မြတ်စွာဘုရားက အဲဒီလို ဖေဟိ ဘိက္ခု လို့ ခေါ်တော်မမူခဲ့ပါဘူး။ ဒီအကြောင်းကို ဥဒါန်းအဋ္ဌကထာ (၈၅)မှာ လာတဲ့တိုင်း ဖော်ပြပါ့မယ်။

ဗာဟိယဟာ ကဿပမြတ်စွာဘုရား သာသနာတော်မှာ ရဟန်းတရား အားထုတ်ခဲ့စဉ်က 'ရဟန်းဆိုတာ ကိုယ်ရတဲ့ ပစ္စည်း သူများ ပေးနေစရာ မလိုပါဘူး၊ ကိုယ်ပဲ သုံးဆောင်သင့်တယ်' လို့ ယူဆပြီး ရဟန်းတစ်ပါးတလေကိုမျှ သပိတ်၊ သင်္ကန်း မလှူဒါန်းခဲ့ဖူးပါဘူး။ ဒါကြောင့် 'ဗာဟိယမှာ ဒီလို သပိတ်၊ သင်္ကန်း မလှူခဲ့ဖူးတဲ့အတွက်ကြောင့် တန်ခိုးနဲ့ပြီးတဲ့ သပိတ်၊ သင်္ကန်း ရနိုင်မှာ မဟုတ်ဘူး' လို့ မြတ်စွာဘုရားရှင်က သိတော်မူတဲ့အတွက် ဖေဟိ ဘိက္ခု ရဟန်းအဖြစ်နဲ့ ရှင်ရဟန်းပြုမပေးခဲ့တာ ဖြစ်တယ်။

ကေစိ ဆရာတွေကတော့ 'ဗာဟိယဟာ ဘုရားမပွင့်တဲ့ ခေတ်ကာလတစ်ခုမှာ သူခိုး၊ ဓားမြ ဖြစ်ခဲ့ပြီး ပစ္စေကဗုဒ္ဓါအရှင်မြတ်တစ်ပါးကို သူ့ရဲ့ သပိတ်၊ သင်္ကန်းကို လိုချင်တာနဲ့ လေး၊ မြားနဲ့ ပစ်ခတ်ပြီး သပိတ်၊ သင်္ကန်းကို လုယူခဲ့ဖူးတယ်' လို့ ဆိုပါတယ်။ 'ဒီအကုသိုလ်ကံကြောင့် သူ့မှာ တန်ခိုးကြောင့် ဖြစ်တဲ့ သပိတ်၊ သင်္ကန်း မရနိုင်လောက်ဘူးဆိုတာကို ဘုရားရှင်က သိတော်မူတဲ့အတွက် ဖေဟိ ဘိက္ခု ရဟန်းအဖြစ်ကို မပေးခဲ့တာဖြစ်တယ်' လို့ မိန့်ဆိုကြောင်းကိုလည်း ဥဒါန်းအဋ္ဌကထာမှာ မှတ်တမ်းတင်ထားပါတယ်။

## ဗာဟိယဒါရုစီရိယမထေရ် နွားဝှေ့ခံရပြီး ပရိနိဗ္ဗာန်စံတော်မူခြင်း

အဲဒီနောက်တော့ ဗာဟိယဟာ သပိတ်၊ သင်္ကန်းရှာဖို့အတွက် မြတ်စွာဘုရားထံပါးမှ ထွက်ခွာလာခဲ့ပါတယ်။ သပိတ်သင်္ကန်းရှာဖို့



လှည့်လည်နေတုန်းမှာပဲ ရှေးက ရန်သူဖြစ်ခဲ့ဖူးတဲ့ ဘီလူးမက နွားမတစ်ကောင်ကို ဝင်ပူးပြီး ဝှေ့သတ်လို့ ဗာဟိယ အသက်ကုန်ကာ လမ်းဘေးအမှိုက်ပုံနားမှာပဲ ပရိနိဗ္ဗာန် စံတော်မူခဲ့ရပါတယ်။

## နွားဝှေ့ခံရခြင်းရဲ့ ရှေးမကောင်းမှုအကုသိုလ်ကံ

ရှေးအတိတ်ကာလ ဘဝတစ်ခုမှာ သူဌေးသားလေးယောက်တို့ဟာ ပြည့်တန်ဆာမ တစ်ယောက်ကို ဥယျာဉ်တစ်ခုဆီ ခေါ်သွားပြီး တစ်နေ့လုံး ပျော်ပါးကြတယ်။ ညနေရောက်လို့ မှောင်လာတဲ့အခါ သူဌေးသားလေးယောက်က ""သူငယ်ချင်းတို့… ဒီ ပြည့်တန်ဆာမဆီမှာ အသပြာငွေ တစ်ထောင်လည်း ရှိတယ်၊ ရွှေ၊ ငွေ လက်ဝတ်တန်ဆာ အဖိုးတန်ရတနာတွေလည်း ရှိတယ်။ ဒီတောထဲမှာလည်း အခြားဘယ်သူမှ မရှိဘူး၊ ငါတို့ ဒီပြည့်တန်ဆာမကို သတ်ပြီး ပစ္စည်းတွေ ယူကာ သွားကြစို့"" လို့ သဘောတူ တိုင်ပင်ပြီး ပြည့်တန်ဆာမကို သတ်ဖို့ ကြိုးစားကြတယ်။

ဒီအခါ ပြည့်တန်ဆာမက 'ဒီလူတွေဟာ အရှက်လည်း မရှိ၊ ကရုဏာတရားလည်း ကင်းမဲ့ကြတယ်။ ငါနဲ့ တစ်နေ့လုံး စိတ်ကြိုက်ပျော်ပါးပြီး အပြစ်မရှိတဲ့ ငါ့ကို ပစ္စည်းတွေ လိုချင်တဲ့လောဘနဲ့ သတ်ကြတယ်၊ ဒီတစ်ကြိမ်တော့ သတ်ကြဦးပေါ့၊ ငါဟာ ဘီလူးမဖြစ်ပြီး အကြိမ်များစွာ သူတို့ကို ပြန်သတ်နိုင်တဲ့သူဖြစ်ရပါလို၏' လို့ ဆုတောင်းရင်း သေသွားခဲ့တယ်။

အဲဒီသူဌေးသား လေးယောက်ထဲက တစ်ယောက်က ပက္ကုသာတိ အမျိုးကောင်းသား ဖြစ်လာတယ်၊ တစ်ယောက်က ဗာဟိယဒါရုစီရိယ၊ တစ်ယောက်က တမ္ဗဒါဌိက ခိုးသားသတ်သမား၊ တစ်ယောက်က သုပ္ပဗုဒ္ဓ ကုဋ္ဌနူနာသည် ဖြစ်လာတယ်။ ပြည့်တန်ဆာမဟာ ဘီလူးမဖြစ်ခဲ့ပြီး သူဌေးသားလေးယောက်ကို ဘဝပေါင်းများစွာ

နွားမယောင်ဆောင်ပြီး ငှေ့သတ်ခဲ့တယ်။ သူဌေးသား လေးယောက်ဟာ ပြည့်တန်ဆာမကို သတ်ခဲ့တဲ့ အကုသိုလ်ကံရဲ့ အကျိုးဆက်ကြောင့် ဘဝတော်တော်များများမှာ သက်တမ်းမစေ့ဘဲ သေခဲ့ကြရတယ်။ အခုလည်း ဗာဟိယဒါရုစီရိယဟာ အဲဒီ အကုသိုလ်ကံရဲ့ အကျိုးဆက်ကြောင့်ပဲ ဘီလူးမက နွားမကို ဝင်ပူးပြီး ငှေ့သတ်တာကို ခံခဲ့ရတာ ဖြစ်ပါတယ်။ (ဥဒါန်း အဋ္ဌကထာ၊၂၆၂။)

## ဓိပ္ပာဘိည ဧတဒဂ် ပေးတော်မူခြင်း

မြတ်စွာဘုရား သာဝတ္ထိမြို့တွင်း ဆွမ်းခံလှည့်လည်ကာ ဆွမ်းစားပြီးတဲ့နောက် ရဟန်းတော်များနဲ့ အတူ သာဝတ္ထိမြို့တွင်းက ပြန်ထွက်လာတဲ့အခါ လမ်းဘေး အမှိုက်ပုံပေါ်မှာ တင်နေတဲ့ ဗာဟိယရဲ့ ရုပ်အလောင်းကို မြင်တော်မူတဲ့အတွက် ရဟန်းတွေကို "ရဟန်းတို့… အိမ်တစ်အိမ်က ခုတင် ညောင်စောင်းတစ်ခုကို ဆောင်ယူစေပြီး ဒီရုပ်အလောင်းကို မြို့ပြင်ထုတ် မီးသင်္ဂြိုဟ်ကာ ဓာတ်တော်တွေကို ကောက်ယူပြီး စေတီတည်ထားလိုက်ပါ" လို့ မိန့်တော်မူခဲ့ပါတယ်။

ရဟန်းတော်တွေလည်း မြတ်စွာဘုရား မိန့်တော်မူတဲ့အတိုင်း ဓာတ်တော်ကို လမ်းမဆုံမှာ စေတီတည်ပြီးတဲ့နောက် မြတ်စွာဘုရားထံ သွားရောက်ကာ မိမိတို့ ဆောင်ရွက်ပြီးတဲ့ကိစ္စကို လျှောက်ထားကြတယ်။ ဒီ့နောက်တော့ သံဃာ့အလယ်မှာ ရဟန်းတွေအချင်းချင်း "မြတ်စွာဘုရားရှင်ဟာ ရဟန်းတွေကို ဗာဟိယရဲ့ ရုပ်အလောင်းဈာပနကိစ္စ ဆောင်ရွက်ခိုင်းတယ်၊ ဓာတ်တော် ယူခိုင်းပြီး စေတီလည်း တည်ခိုင်းတယ်၊ ဗာဟိယရဲ့ လားရာဂတိကား ဘယ်လိုပါလဲ၊ သူ့ရဲ့ အဖြစ်သနစ်ကား ဘယ်လိုပါလဲ၊ ဗာဟိယဟာ ရှင်သာမဏေလား၊ ရဟန်းလား" လို့ စကားပြောဆို ဆွေးနွေးခဲ့ကြတယ်။



ဒီအကြောင်းအရာကို မြတ်စွာဘုရားရှင် သိတော်မူတဲ့အခါ "ရဟန်းတို့…ဗာဟိယဟာ ထောက်ရာတည်ရာ ရပြီးသွားပြီ၊ အရဟတ္တဖိုလ်ရကာ ပရိနိဗ္ဗာန်ဝင်စံချုပ်ငြိမ်းသွားပြီ" လို့ မိန့်တော်မူပြီး "ရဟန်းတို့… ဗာဟိယဒါရုစီရိယဟာ ငါဘုရားရဲ့ တပည့်သာဝက ရဟန်းတွေထဲမှာ မဂ်ဖိုလ်အသိဉာဏ်ကို လျင်မြန်စွာသိတဲ့အရာ အသာဆုံး ရဟန်းဖြစ်ပေတယ်" လို့ ဗာဟိယ ဒါရုစီရိယကို ခိပ္ပာဘိည ဧတဒဂ်အရာထားကာ ချီးမြှောက်တော်မူခဲ့ပါတယ်။ (အပဒါန် အဋ္ဌကထာ၊ ၂၃၈။)

## (ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော်

အဲဒီနောက်တော့ ရဟန်းတော်တွေက မြတ်စွာဘုရားကို "မြတ်စွာဘုရား… အရှင်ဘုရားတို့က 'ဗာဟိယဒါရုစီရိယဟာ အရဟတ္တဖိုလ် ရခဲ့ပြီ' လို့ မိန့်တော်မူခဲ့ပါတယ်၊ သူဟာ ဘယ်အချိန်မှာ အရဟတ္တဖိုလ် ရခဲ့တာလဲ ဘုရား" လို့ မေးလျှောက်ခဲ့ကြပါတယ်။ မြတ်စွာဘုရားက "ရဟန်းတို့… သူဟာ ငါဘုရားဟောတဲ့ တရားကို နာပြီးတယ်ဆိုရင်ပဲ အရဟတ္တဖိုလ် ရခဲ့တာ" လို့ မိန့်တော်မူလိုက်ပါတယ်။ ဒီအခါ ရဟန်းတော်တွေက "မြတ်စွာဘုရား… အရှင်ဘုရားက ဗာဟိယကို ဘယ်အချိန်မှာ တရားဟောလိုက်တာပါလဲ ဘုရား" လို့ မေးလျှောက်ပြန်တဲ့အတွက် "ဆွမ်းခံကြွနေတုန်း လမ်းခရီးအကြားမှာ ရပ်နေရင်းပဲ ငါဘုရား တရားဟောခဲ့တယ်" လို့ မြတ်စွာဘုရားက ဖြေကြားတော်မူပါတယ်။

ဆက်ပြီးတော့ ရဟန်းတော်တွေက "မြတ်စွာဘုရား… အရှင်ဘုရား လမ်းခရီးအကြား ရပ်ပြီး ဟောတဲ့တရားက နည်းနည်းလေးပါ ဘုရား၊ ဗာဟိယဟာ ဘယ်လိုလုပ်ပြီး အဲဒီလောက် တရားကလေးနဲ့ အရဟတ္တဖိုလ်တရားထူးကို ဖြစ်စေနိုင်မှာလဲ ဘုရား"

လို့ လျှောက်ထားပြန်ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ရဟန်းတော်တွေကို "ရဟန်းတို့… ငါဘုရားရဲ့ တရားတော်ကို နည်းနည်းလေးပဲ၊ အများကြီးပဲလို့ တောင်တောင်ဤဤ မကြံစည်ကြ၊ မတွေးကြနဲ့၊ ဂါထာထောင်ပေါင်းများစွာ ဖြစ်လင့်ကစား အကျိုးစီးပွားနဲ့ မစပ်ယှဉ်ရင် မချီးမွမ်းအပ်၊ မကောင်းမြတ်ပါ၊ အကျိုးစီးပွား ဖြစ်စေနိုင်တဲ့စကားဖြစ်ရင်တော့ ဂါထာတစ်ပုဒ်ပင် ဖြစ်ပါစေ ချီးမွမ်းအပ်၊ ကောင်းမြတ်လှပါတယ်"လို့ မိန့်တော်မူပြီး ဖော်ပြပါ ဂါထာကို ဟောကြားတော်မူခဲ့ပါတယ်။

"သဟဿမပိ စေ ဂါထာ၊ အနတ္ထပဒသံဟိတာ။

ဧကံ ဂါထာပဒံ သေယျော၊ ယံ သုတွာ ဥပသမ္မတိ။

ဂါထာတစ်ထောင်ပင် ဖြစ်လင့်ကစား အကျိုးစီးပွားမရှိတဲ့ ပုဒ်ဝါကျတွေနဲ့ စပ်ယှဉ်နေရင် ဘယ်လိုနည်းနဲ့မှ မချီးမွမ်းအပ်၊ မကောင်းမြတ်ပါ၊ အကြင်ဂါထာတစ်ပိုဒ်ကို နာရလို့ ကိလေသာအပူတွေ ငြိမ်းအေးတယ်၊ အဲဒီလို ကိလေသာအပူငြိမ်းကြောင်း တရားဂါထာတစ်ပုဒ် တစ်ပိုဒ်ကသာလျှင် အထူးသဖြင့် ချီးမွမ်းအပ်၊ ကောင်းမြတ်ပါပေတယ်"

ဒီတရားဒေသနာ ဂါထာအဆုံးမှာ တရားနာပရိသတ် အတော်များများဟာ သောတာပတ္တိဖိုလ် ဆိုက်ရောက်ခဲ့ကြတယ်။

---------

အရှင်ဗာဟိယမထေရ်အကြောင်းကို ကြည်ညိုရတဲ့အခါ ပဒုမုတ္တရဘုရားရှင်ထံမှာ ကောင်းမှု ကုသိုလ်ပြုပြီး ဆုတောင်းခဲ့တာနဲ့ ကဿပမြတ်စွာဘုရားလက်ထက်မှာ တောင်ထိပ်ပေါ်တက်ပြီး အသက်စွန့် တရားအားထုတ်ခဲ့တဲ့အတွက်ကြောင့် အရှင်မြတ်ဟာ တရားအကျဉ်းလေး နာပြီး ရဟန္တာဖြစ်သွားတယ်ဆိုတာ တွေ့ရမှာပါ။



နောက်ပြီး အရှင်မြတ်ဟာ သပိတ်၊ သင်္ကန်း မလှူခဲ့ဖူးတဲ့ အားနည်းချက်လေးကြောင့် ဧဟိ ဘိက္ခု ရဟန်းအဖြစ် မရခဲ့တာ၊ သူဌေးသားဘဝက ပြုမှားမိခဲ့တဲ့ အကုသိုလ် ဝဋ်ကြွေးပါခဲ့လို့ ဘဝနိဂုံးအဆုံးသတ် မလှပခဲ့တာတွေကြောင့် အရှင်မြတ်ရဲ့ နောက်ဆုံးဘဝဟာ မလှပခဲ့ဘူးလို့ ဆိုရမှာပါ။

ဒါတွေကို ကြည့်ပြီး မိမိတို့လည်း ကုသိုလ်ပြုပြီး ဆုတောင်းတတ်ဖို့၊ ဆုတောင်းပြည့်စေကြောင်း လက်တွေ့ တရားအားထုတ်ဖို့၊ လိုအပ်ချက်တွေ မရှိအောင် တတ်နိုင်သလောက် လှူတန်းဖို့နဲ့ အကုသိုလ်ကံ ဝဋ်ကြွေးတွေ မပါစေဖို့၊ အကုသိုလ်တွေ နည်းနိုင်သမျှ နည်းအောင် ကျင့်နိုင်ဖို့ အရေးကြီးတယ်ဆိုတာ သတိထား အသိပွားကြရမှာပါ။

အရှင်မြတ်လို မြင်ရင် မြင်တယ်၊ ကြားရင် ကြားတယ်၊ တွေ့ရောက်ရင် တွေ့ရောက်တယ်၊ သိရင် သိတယ်လောက်ထားနိုင်ပြီး ရာဂတွေ၊ ဒေါသတွေ၊ မောဟတွေ မဖြစ်တဲ့တစ်နေ့ရောက်ပြီ ဆိုရင်တော့ မိမိတို့လည်း ဒုက္ခအပူတွေ ဆုံးပြီး ငြိမ်းအေးတဲ့ နိဗ္ဗာန်ဆိုက်မှာကတော့ ယုံမှားစရာ မရှိပါဘူးလို့ပဲ ဆိုပါရစေ။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပတွဲ၊ ၂၁၇။

၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၃၉၇။

၃။ အပဒါန်ပါဠိတော်၊ ဒုတွဲ၊ ၁၂၇။

၄။ အပဒါန်အဋ္ဌကထာ၊ ဒုတွဲ၊ ၂၃၂။

၅။ ဥဒါန်းပါဠိတော်၊ ၈၄။

၆။ ဥဒါန်းအဋ္ဌကထာ၊ ၇၀။



အဆန်းတကြယ် တရားစကား တောကြြားတတ်ထည့်အရာ အသာဆုံး

## စိတ္တဟတ္ထိတ တေဒဝ်ရ

# အရှင်ကုမာရကဿပမထေရ်

ဘဝမှာ အတွေးအခေါ် အယူအဆ မှန်ကန်ဖို့ သိပ်ကို အရေးကြီးလှပါတယ်။ လူတစ်ယောက်ရဲ့ အကောင်း အဆိုး၊ အနိမ့် အမြင့်တွေကို သူ့ရဲ့ အယူအဆ အတွေးအခေါ်တွေကပဲ ပုံဖော် ဖန်တီး ပေးနေတာပါ။ ဒါကြောင့် ကိုယ့်ရဲ့ အယူအဆတွေ၊ အတွေးအခေါ်တွေ

ဟာ မှန်ကန်မှု ရှိရဲ့လားဆိုတာ အမြဲမပြတ် ဆန်းစစ်နေရမှာ ဖြစ်ပါတယ်။

မှန်ပါတယ်၊ ရှင်တော်မြတ်ဗုဒ္ဓကလည်း “လူတစ်ယောက် အတွေးအခေါ် မှားပြီဆိုရင် အကာနဲ့ အနှစ် မခွဲခြားနိုင်တော့ဘဲ အကာတွေကို အနှစ်လို့ ထင်၊ အနှစ်တွေကို အကာလို့ ထင်တဲ့အတွက် ဘဝရဲ့ အနှစ်တွေကို မရနိုင်ကြဘူး၊ အတွေးအခေါ်မှန်မှ အကာနဲ့ အနှစ်ကို ခွဲခြားသိမြင်တဲ့အတွက် အနှစ်တွေကို ရအောင် ယူနိုင်ကြတယ်” လို့ မိန့်တော်မူခဲ့ပါတယ်။

မိမိရဲ့ အတွေးအခေါ် အယူအဆ မှန်၊ မမှန် မှတ်ကျောက်တင်ဖို့နဲ့ တကယ်လို့ ကိုယ့်မှာ မှားယွင်းတဲ့ အယူအဆရှိနေရင်လည်း အမှန်နဲ့ အစားထိုးနိုင်ဖို့အတွက် အရှင်ကုမာရကဿပမထေရ် ဟောကြားတဲ့ ပါယာသိသုတ္တန်ကို မဖြစ်မနေ လေ့လာမှတ်သားသင့်ပါတယ်။

ဒါကြောင့် ဘဝမှာ အရေးအကြီးဆုံးဖြစ်တဲ့ အယူအဆ အတွေးအခေါ် မှန်ကန်မှု ရှိရေးကို များစွာအထောက်အကူ ဖြစ်စေမယ့် အရှင်ကုမာရကဿပမထေရ်ရဲ့ ဘဝဇာတ်ကြောင်းနဲ့ အရှင်မြတ် ဆန်းကြယ်စွာ ဟောထားတဲ့ ပါယာသိသုတ္တန်တွေကို ကြည်ညိုကြပါစို့။

## အရှင်မြတ်ရတဲ့ ဧတဒဂ် အဓိပ္ပာယ်

အရှင်ကုမာရကဿပမထေရ်ဟာ တရားဟောကြားတဲ့အခါ အဆန်းတကြယ် ဟောကြားတတ်ပါတယ်။ တရားနာတဲ့ပုဂ္ဂိုလ် တစ်ယောက် ဖြစ်ဖြစ်၊ နှစ်ယောက် ဖြစ်ဖြစ် ဥပမာတွေ၊ အကြောင်းအချက်အလက်တွေ များစွာနဲ့ တန်ဆာဆင်ပြီး အသိရှင်းအောင် ဟောကြားလေ့ရှိပါတယ်။ ဒါကြောင့် အရှင်မြတ်ဟာ အဆန်းတကြယ် တရားဟောကြားတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး စိတ္တကထိက ဧတဒဂ် ရခဲ့တာ ဖြစ်ပါတယ်။



## (က) အတိတ်ဘဝ ဇာတ်ကြောင်း

အရှင်မြတ်အလောင်းဟာ ပဒုမုတ္တရမြတ်စွာဘုရားရှင် လက်ထက်တော်အခါက ပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပြီး တတ်သိနားလည်တဲ့ အရွယ် ရောက်တဲ့အခါ တစ်နေ့မှာ မြတ်စွာဘုရားထံ သွားရောက်ပြီး တရားနာယူပါတယ်။ ဒီအခါ ပဒုမုတ္တရမြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို တရား ဆန်းကြယ်စွာ ဟောတတ်သည့်အရာ အသာဆုံး စိတ္တကထိက ဧတဒဂ်ဘွဲ့ထူး ပေးပြီး ချီးမြှောက်တာကို ဖူးတွေ့လိုက်ရပါတယ်။ အရှင်မြတ်အလောင်းဟာ အဲဒီ ဧတဒဂ်ရ ရဟန်းတော်ကို အားကျပြီး ကုသိုလ် ကောင်းမှုပြုကာ စိတ္တကထိက ဧတဒဂ်ဆုပန်ခဲ့ပါတယ်။ ဆုပန်ပြီးနောက် ဆုတောင်းနဲ့လျော်ညီတဲ့ ကောင်းမှုကုသိုလ်တွေ တစ်သက်ပတ်လုံး ကြိုးစားပြုလုပ် အားထုတ်ခဲ့ပြီး အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ လူ့ပြည်၊ နတ်ပြည်တွေမှာ ကျင်လည်ခဲ့ပြီးနောက် ကဿပမြတ်စွာဘုရားရှင် လက်ထက်ရောက်တဲ့ အခါ အမျိုးကောင်းအိမ်မှာ ဖြစ်ခဲ့ပါတယ်။

## ကဿပဘုရားရှင်လက်ထက် ရဟန်းဝတ်ပြီး တရားအားထုတ်ခဲ့

အရှင်မြတ်အလောင်းဟာ ကဿပဘုရားရှင်ရဲ့ သာသနာတော်မှာ ရဟန်းပြုခဲ့ပြီး သာသနာနောက်ပိုင်း သာသနာဆုတ်ယုတ်နေတဲ့အခါ အခြားသီတင်းသုံးဖော်ရဟန်း ခြောက်ပါးနဲ့အတူ တောင်ထိပ်ပေါ်တက်ကာ အသက်စွန့်ပြီး တရားအားထုတ်ခဲ့ပါတယ်။ တရားလည်း အားထုတ်၊ ရဟန်းသီလနဲ့လည်း ပြည့်စုံတဲ့အတွက် အဲဒီ ဘဝကနေ စုတေကွယ်လွန်တဲ့အခါ နတ်ပြည်မှာ ဖြစ်ခဲ့ပြီး ဘုရားနှစ်ဆူအကြား ကာလပတ်လုံး နတ်စည်းစိမ်တွေ ခံစားကာ အကျွန်ုပ်တို့ မြတ်စွာဘုရား လက်ထက် ရောက်တဲ့အခါ ရာဇဂြိုဟ်က သူဌေးသမီး တစ်ဦးရဲ့ ဝမ်းမှာ ပဋိသန္ဓေ တည်နေခဲ့ပါတယ်။

## (ခ) ပစ္စုပ္ပန်ဘဝ ဇာတ်ကြောင်း

အဲဒီ သူဌေးသမီးဟာ အိမ်ထောင်မကျမီ ငယ်ရွယ်စဉ်ကပင် ရှင်ရဟန်းပြုချင်လို့ မိဘတွေဆီ ခွင့်ပန်ခဲ့ပေမယ့် အခွင့်မရ ရှင်ရဟန်းမပြုခဲ့ရဘဲ အရွယ်ရောက်တဲ့အခါ အိမ်ထောင်ကျပြီး လင်ယောကျ်ားအိမ်လိုက်သွားခဲ့ရကာ ကိုယ်ဝန် ရခဲ့ပါတယ်။ သူဌေးသမီးဟာ ကိုယ်ဝန်ရနေတာကို မသိရှာဘဲ လင်ယောကျ်ားကို ကျေနပ်အောင် တောင်းပန်နိုင်လို့ ခွင့်ပြုချက် ရတာနဲ့ ရှင်ဒေဝဒတ်ရဲ့ အသင်းအပင်းဝင် ဘိက္ခုနီမတွေထံမှာ ရှင်ရဟန်းမ ပြုခဲ့ပါတယ်။ ဒီ ဘိက္ခုနီမလေးမှာ ကိုယ်ဝန်ထင်ရှား ဖြစ်ပေါ်လာတာကို သိရတဲ့အခါ ဘိက္ခုနီမတွေက ရှင်ဒေဝဒတ်ကို မေးခဲ့ကြတယ်။ ဒီအခါ ရှင်ဒေဝဒတ်က "ရဟန်းမ မဟုတ်တော့ပြီ" လို့ ဆုံးဖြတ်ပေးခဲ့ပါတယ်။ ဒီအခါ ဘိက္ခုနီမလေးက "ငါဟာ ဒေဝဒတ်ကို ရည်ရွယ်ပြီး ရဟန်းပြုခဲ့တာ မဟုတ်၊ မြတ်စွာဘုရားကို ရည်ရွယ်ပြီး ရဟန်းပြုခဲ့တာ ဖြစ်တယ်" ဆိုပြီး မြတ်စွာဘုရားထံ သွားရောက်ကာ ဒီကိစ္စကို မေးမြန်းလျှောက်ထားခဲ့တယ်။

ဒီအခါ မြတ်စွာဘုရားက အရှင်ဥပါလိမထေရ်ကို တာဝန်ပေးခဲ့တယ်။ အရှင်ဥပါလိမထေရ်က သာဝတ္ထိမြို့သူ အမျိုးကောင်းသမီးကြီးတွေကိုရော ဝိသာခါကျောင်းအမကြီးကိုပါ ခေါ်စေပြီး မင်းပရိသတ် အလယ်မှာ မေးမြန်းစစ်ဆေး ဖြေရှင်းစေခဲ့ပါတယ်။ အားလုံးရဲ့ စစ်ဆေးချက်အရ အရှင်ဥပါလိမထေရ်ဟာ "ဒီဘိက္ခုနီမလေးရဲ့ ကိုယ်ဝန်ဟာ ရဟန်း မဖြစ်ခင် ရှေးလူ့ဘဝက ရခဲ့တဲ့ ကိုယ်ဝန်ဖြစ်တယ်၊ ဒါကြောင့် ဘိက္ခုနီမလေးရဲ့ ရဟန်းအဖြစ်ဟာ အပြစ်မရှိ စင်ကြယ်ပါတယ်" လို့ ဆုံးဖြတ်ပေးခဲ့ပါတယ်။ မြတ်စွာဘုရားရှင်က ဒီဆုံးဖြတ်ချက်ကို ကြားရတဲ့အခါ "သာဓု သာဓု၊ ဥပါလိဟာ ဒီအဓိကရုဏ်းကို ကောင်းမွန်စွာ ဆုံးဖြတ်အပ်ပါပေတယ်" လို့ အရှင်ဥပါလိမထေရ်ကို သာဓုခေါ် ကောင်းချီးပေးတော်မူခဲ့ပါတယ်။



ဘိက္ခုနီမလေးဟာ အချိန်ရောက်တဲ့အခါ ရွှေရုပ်နဲ့တူတဲ့ သားလေး မွေးဖွားခဲ့ပါတယ်။ ပသေနဒီ ကောသလမင်းက "ကလေး ထိန်းသိမ်း စောင့်ရှောက်ရတာဟာ ဘိက္ခုနီမတွေအတွက် တာဝန်ကြီးလှပါတယ်" လို့ ဆိုပြီး ဒီကလေးကို အထိန်းတော်တွေလက် အပ်ကာ နို့တိုက်မွေးမြူစေခဲ့ပါတယ်။ ကလေးရဲ့ နာမည်ကို 'ကဿပ' လို့ အမည်ပေးခဲ့တယ်။ ခုနစ်နှစ်သားအရွယ် ရောက်တဲ့အခါ ကောင်းမွန်စွာ တန်ဆာဆင်ပြီး မြတ်စွာဘုရားထံ ပို့ဆောင်ကာ ရှင်ပြုစေခဲ့ပါတယ်။

## ကုမာရကဿပ လို့ အမည်တွင်လာခဲ့ပုံ

ငယ်ရွယ်သေးတဲ့အချိန်မှာပဲ ရှင်ပြုပေးခဲ့တာမို့ မြတ်စွာဘုရားက "ကဿပကို ခေါ်လိုက်စမ်း၊ ဒီသစ်သီး၊ ဒီ မုန့်ခဲဖွယ်ကို ကဿပကို ပေးလိုက်စမ်း" လို့ မိန့်တဲ့အခါ ရဟန်းတော်တွေက "ဘယ် ကဿပပါလဲ ဘုရား" လို့ ပြန်လည် မေးမြန်းလျှောက်ထားခဲ့ကြတယ်။ ဒီအခါ မြတ်စွာဘုရားက "ကုမာရကဿပကို ပေးလိုက်ကြ" လို့ ပြန်လည် မိန့်ခဲ့ပါတယ်။ ဒါကို အကြောင်းပြုပြီး အရှင်မြတ်ရဲ့ နာမည်ဟာ အသက်ကြီးတဲ့အထိ "ကုမာရကဿပ" လို့ပဲ တွင်ခဲ့ပါတယ်။ ဒါအပြင် ကောသလမင်းကြီးက မင်းသားအနေနဲ့ မွေးစားခဲ့သူ ဖြစ်တာကြောင့်လည်း "ကုမာရကဿပ" လို့ အရှင်မြတ်ကို အသိအမှတ်ပြုခဲ့ကြတယ်။

## တရားကျင့်ဖက် ဗြဟ္မာကြီးက လာရောက်စောင့်ရှောက်ခြင်း

အရှင်ကုမာရကဿပဟာ ရှင်ဖြစ်ပြီးတဲ့အချိန်ကစပြီး ဝိပဿနာတရား အားထုတ်ခဲ့ပါတယ်။ မြတ်စွာဘုရားရဲ့ တရားစကားတော် ပိဋကတ်တွေကိုလည်း သင်ယူခဲ့ပါတယ်။ တစ်နေ့မှာတော့

မြတ်စွာဘုရားရှင် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူတဲ့အခါ အရှင် ကုမာရ ကဿပ အရှင်မြတ်ဟာ ဇေတဝန်ကျောင်းတိုက်အနီးမှာ ရှိတဲ့ အန္ဓဝန်တောထဲ ကြွပြီး ရဟန်းတရား ကြိုးစားပွားများ အားထုတ်နေပါတယ်။ ဒီအခါ ကဿပ မြတ်စွာဘုရား သာသနာတော်နောက်ပိုင်းတုန်းက အရှင်မြတ်နဲ့အတူ တောင်ထိပ်တက်ပြီး တရားအားထုတ်တဲ့အတွက် အနာဂါမ်ဖြစ်ပြီး သုဒ္ဓါဝါသ ဗြဟ္မာ့ပြည်ရောက်နေတဲ့ ဗြဟ္မာကြီးက အဲဒီအချိန် ဆင်ခြင်ကြည့်လိုက်တဲ့အခါ အရှင်ကုမာရကဿပကို တွေ့မြင်ပြီး 'ငါ့သူငယ်ချင်းဟာ ခုနေခါ ဝိပဿနာအလုပ်အတွက် ပင်ပန်းနေတယ်၊ ငါသွားပြီး ဝိပဿနာရဲ့ နည်းအမြွက်ကို ဖော်ပြပြီး မဂ်ဖိုလ်ရစေနိုင်တဲ့ နည်းလမ်းကို ပြပေးမယ်' ဆိုတဲ့ အတွေးအကြံနဲ့ ပြဿနာ ၁၅-ချက်ကို စီရင်ပြီးနောက် သန်းခေါင်ယံအချိန် အန္ဓဝန်တောထဲမှာ သီတင်းသုံးနေတဲ့ အရှင်ကုမာရကဿပထံ ကိုယ်ရောင်ကိုယ်ဝါ တောက်ပစွာနဲ့ ရောက်လာခဲ့ပါတယ်။

**ဝမ္မိကသုတ် - တောင်ပို့တရားဒေသနာ**

ဗြဟ္မာကြီး ရောက်လာပြီးတဲ့အခါ သူလာရင်း အကြောင်းကို လျှောက်ထားတဲ့ အနေနဲ့ အရှင်ကုမာရကဿပကို ပြဿနာ ၁၅-ချက်ပါတဲ့ ဖော်ပြပါ စကားရပ်ကို လျှောက်ထားခဲ့ပါတယ်။

"ရဟန်း... ရဟန်း... (၁) ဒီ တောင်ပို့ဟာ (၂) ညမှာ အခိုးလွှတ်တယ်၊ (၃) နေ့မှာ မီးဟုန်းဟုန်း တောက်တယ်၊ (၄) ဆရာပုဏ္ဏားက (၅) ပညာရှိတပည့်နဲ့ (၆) ဓားလက်နက်ကို ယူပြီး၊ တပည့်ကို (၇) အဖန်ဖန် တူးပါ လို့ ပြောဆိုတယ်။ ပညာရှိတပည့်ဟာ ဓားလက်နက်ကို ယူပြီး တူးတဲ့အခါ (၈) တံခါးကျည်-မင်းတုပ်ကို တွေ့တာနဲ့ တံခါးကျည်-မင်းတုပ် တွေ့တဲ့အကြောင်း ဆရာပုဏ္ဏားကို ပြောပြတယ်။

ဒီအခါ ဆရာပုဏ္ဏားက ပညာရှိတပည့်ကို တံခါးကျည်-မင်းတုပ်ကို ဖယ်ပြီး ဆက်တူးပါလို့ ပြောဆိုလိုက်တယ်၊ ပညာရှိတပည့်က ဆက်တူးတဲ့အခါ (၉) ဖားပွ၊ (၁၀) လမ်းနှစ်ခွ၊ (၁၁) ရေစစ်၊ (၁၂) လိပ်၊ (၁၃) သန်လျက်(ဓား)နဲ့ စဉ်းတီတုံး၊ (၁၄) သားတစ်တွေကို တစ်ခုစီ တစ်ခုစီ တွေ့တဲ့အကြောင်း ဆရာပုဏ္ဏားကို ပြောပြပါတယ်၊ ဒီလို ပြောပြတိုင်း ဆရာပုဏ္ဏားကလည်း တွေ့တဲ့ဟာတွေကို ဖယ်ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးပါလို့ပဲ လမ်းညွှန်ပါတယ်၊ ပညာရှိတပည့်ဟာ သားတစ်ကို ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးတဲ့အခါ (၁၅) နဂါးကို တွေ့လို့ နဂါး တွေ့တဲ့အကြောင်း ဆရာပုဏ္ဏားကို ပြောပြပါတယ်၊ ဒီအခါ ဆရာပုဏ္ဏားက နဂါးဆိုရင် သူ့ဘာသာသူ နေပါစေ၊ နဂါးကို မထိပါနဲ့၊ နဂါးကို ရှိခိုးပါလို့ ပြောဆိုပါတယ်။

ရဟန်း... သင်ဟာ ဒီပြဿနာတွေကို မြတ်စွာဘုရားထံ သွားပြီး မေးမြန်းလျှောက်ထားပါ၊ မြတ်စွာဘုရား ဖြေတဲ့အတိုင်း အနက်အဓိပ္ပာယ်ကို မှတ်သားပါ၊ ဘုရားရယ်၊ ဘုရားရဲ့ တပည့်သားရယ်၊ ငါ့ဆီကနေ နာကြားဖူးတဲ့သူရယ် ဒီပုဂ္ဂိုလ်တွေကလွဲရင် လောကမှာ ဒီပြဿနာရဲ့ အဖြေကို စိတ်ကျေနပ်လောက်အောင် ဖြေဆိုနိုင်မယ့်သူကို ငါ မတွေ့မြင်ပါ" လို့ အရှင်ကုမာရကဿပကို လျှောက်ထားပြီးနောက် ဗြဟ္မာကြီးဟာ ကွယ်ပျောက်သွားခဲ့ပါတယ်။

အရှင်ကုမာရကဿပဟာ နောက်နေ့ မိုးလင်းတာနဲ့ မြတ်စွာဘုရားထံ သွားရောက်ကာ ရှိခိုးကန်တော့ပြီး ဗြဟ္မာကြီး မနေ့ညက လာရောက်လျှောက်ထားပုံ အကြောင်းအရာ အပြည့်အစုံကို လျှောက်

ထားပြီးနောက် အောက်ပါအတိုင်း ပြဿနာ ၁၅-ချက်ကို မေးမြန်းခဲ့ပါတယ်။

“မြတ်စွာဘုရား… (၁) တောင်ပို့ ဆိုတာ ဘာလဲ ဘုရား၊ (၂) ညမှာ အခိုးလွှတ်တယ်ဆိုတာ၊ (၃) နေ့မှာ မီးဟုန်းဟုန်းတောက်တယ်ဆိုတာ၊ (၄) ဆရာပုဏ္ဏားဆိုတာ၊ (၅) ပညာရှိတပည့်ဆိုတာ၊ (၆) ဓားလက်နက် ဆိုတာ၊ (၇) အဖန်ဖန် တူးတယ်ဆိုတာ၊ (၈) တံခါးကျည်-မင်းတုပ်ဆိုတာ၊ (၉) ဖားပွ ဆိုတာ၊ (၁၀) လမ်းနှစ်ခွ ဆိုတာ၊ (၁၁) ရေစစ်ဆိုတာ၊(၁၂) လိပ် ဆိုတာ၊ (၁၃) သန်လျက်(ဓား)နဲ့ စဉ်းတီတုံး ဆိုတာ၊ (၁၄) သားတစ်ဆိုတာ၊ (၁၅) နဂါးဆိုတာ ဘာလဲ ဘုရား”

ဒီအခါ မြတ်စွာဘုရားက အရှင်ကုမာရကဿပကို ဖော်ပြပါ အတိုင်း အကျယ်ဖြေကြားတော်မူခဲ့ပါတယ်။

(၁) “ရဟန်း… တောင်ပို့ ဆိုတာ ဒီ ခန္ဓာကိုယ်ကြီးကို ဆိုလိုတာ ဖြစ်တယ်၊ (၂) ညမှာ အခိုးလွှတ်တယ်ဆိုတာ နေ့ပိုင်းက ပြုထားတဲ့ အမှုကိစ္စတွေကို အာရုံပြုပြီး ညပိုင်းမှာ ကြံစည် စဉ်းစားတာကို ဆိုလိုတာဖြစ်တယ်၊ (၃) နေ့မှာ မီးဟုန်းဟုန်းတောက်တယ်ဆိုတာ ညပိုင်းက ကြံစည် စဉ်းစားထားတဲ့အတိုင်း နေ့ပိုင်းမှာ ကာယကံနဲ့ ပြုလုပ်တာ၊ ဝစီကံနဲ့ ပြောဆိုတာ၊ မနောကံနဲ့ ကြံစည်တာကို ဆိုလိုတာ ဖြစ်တယ်၊ (၄) ဆရာပုဏ္ဏားဆိုတာ မြတ်စွာဘုရားကို ဆိုလိုတာ၊ (၅) ပညာရှိတပည့်ဆိုတာ ဘုရား ဆုံးမတဲ့အတိုင်း တရားကျင့်နေတဲ့ ရဟန်းကို ဆိုလိုတာ၊ (၆) ဓားလက်နက်ဆိုတာ လောကီ၊ လောကုတ္တရာ ပညာကို ဆိုလိုတာ၊ (၇) အဖန်ဖန် တူးတယ် ဆိုတာ ထက်ထက်သန်သန် ကြိုးစားတာကို ဆိုလိုတာ ဖြစ်တယ်။

(၈) တံခါးကျည်-မင်းတုပ်ဆိုတာ အဝိဇ္ဇာ (အမှန်မသိတာ)ကို ဆိုလိုတာဖြစ်တယ်၊ ‘တံခါးကျည် - မင်းတုပ်ကို ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးပါ’ ဆိုတာ အဝိဇ္ဇာကို ပယ်ပြီး ဉာဏ်ပညာနဲ့ ဆက်ကြိုးစားအားထုတ်ပါလို့ ဆိုလိုတာ ဖြစ်တယ်။

(၉) ဖားပွဆိုတာ ကောဓ (အမျက်ထွက်တာ)ကို ဆိုလိုတာ ဖြစ်တယ်၊ ‘ဖားပွကို ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးပါ’ ဆိုတာ ‘ကောဓကို ပယ်ပြီး ဉာဏ်ပညာနဲ့ ဆက်ကြိုးစားအားထုတ်ပါ’လို့ ဆိုလိုတာ ဖြစ်တယ်။

(၁၀) လမ်းနှစ်ခွ ဆိုတာ ဝိစိကိစ္ဆာ (ယုံမှားသံသယ ဖြစ်တာ)ကို ဆိုလိုတာ ဖြစ်တယ်၊ ‘လမ်းနှစ်ခွ ကို ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးပါ’ ဆိုတာ ‘ဝိစိကိစ္ဆာကို ပယ်ပြီး ဉာဏ်ပညာနဲ့ ဆက်လက် ကြိုးစား အားထုတ်ပါ’ လို့ ဆိုလိုတာ ဖြစ်တယ်။

(၁၁) ရေစစ်ဆိုတာ ဈာန်တရား၊ မဂ်တရား၊ ဖိုလ်တရားတွေ မရအောင် တားမြစ်ပိတ်ပင်တတ်တဲ့ နီဝရဏတရား ငါးပါးကို ဆိုလိုတာ ဖြစ်တယ်၊ နီဝရဏတရားငါးပါးဆိုတာ (က) ကာမစ္ဆန္ဒ နီဝရဏ (ကာမဂုဏ်တရားတွေကို လိုချင်တာ)၊ (ခ) ဗျာပါဒနီဝရဏ (သူတစ်ပါးတွေကို ပျက်စီးစေလိုတာ၊ ဖျက်ဆီးတာ)၊ (ဂ) ထိနမိဒ္ဓ နီဝရဏ (ကောင်းမှုလုပ်ငန်းတွေမှာ ထိုင်းမှိုင်းလေးတွဲနေတာ)၊ (ဃ) ဥဒ္ဓစ္စ ကုက္ကုစ္စ နီဝရဏ (ပျံ့လွင့်နေတာ၊ နောင်တပူပန်မှုတွေ ဖြစ်နေတာ)၊ (င) ဝိစိကိစ္ဆာ နီဝရဏ (တွေးတော ယုံမှား သံသယပွားနေတာ)တွေပဲ ဖြစ်တယ်။ ‘ရေစစ်ကို ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးပါ’ ဆိုတာ ‘နီဝရဏတရားငါးပါးကို ပယ်ပြီး ဉာဏ်ပညာနဲ့ ဆက်လက်ကြိုးစား ပွားများ အားထုတ်ပါ’လို့ ဆိုလိုတာ ဖြစ်တယ်။

(၁၂) လိပ်ဆိုတာ တဏှာ ဒိဋ္ဌိဆိုတဲ့ ဥပါဒါန်တရားတွေရဲ့ အာရုံဖြစ်တဲ့ (က) ရူပက္ခန္ဓာ (ဖောက်ပြန်ခြင်းသဘော)၊ (ခ) ဝေဒနာက္ခန္ဓာ (ခံစားခြင်းသဘော)၊ (ဂ) သညာက္ခန္ဓာ (မှတ်သားခြင်းသဘော)၊ (ဃ) သင်္ခါရက္ခန္ဓာ (ပြုပြင်စီမံခြင်းသဘော)၊ (င) ဝိညာဏ

ကွန္ဒာ (သိခြင်းသဘော) ဆိုတဲ့ ခန္ဓာငါးပါးကို ဆိုလိုတာ ဖြစ်တယ်၊ ‘လိပ်ကို ဖယ်ရှားပြီး ဓားလက်နက်နဲ့ ဆက်တူးပါ’ဆိုတာ ‘ခန္ဓာငါးပါးကို ပယ်ပြီး ဉာဏ်ပညာနဲ့ ဆက်လက်ကြိုးစား ပွားများအားထုတ်ပါ’လို့ ဆိုလိုတာ ဖြစ်တယ်။

(၁၃) သန်လျက်(ဓား)နဲ့ စဉ်းတီတုံးဆိုတာ လိုချင် နှစ်သက်မက်မောစရာ ကောင်းတဲ့ အဆင်း ရူပါရုံ၊ အသံ သဒ္ဒါရုံ၊ အနံ့ ဂန္ဓာရုံ၊ အရသာ ရသာရုံ၊ အတွေ့ ဖောဋ္ဌဗ္ဗာရုံဆိုတဲ့ ငါးဖြာအာရုံ ကာမဂုဏ် တရားတွေကို ဆိုလိုတာ ဖြစ်တယ်၊ ‘သန်လျက်(ဓား)နဲ့ စဉ်းတီတုံးကို ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးပါ’ ဆိုတာ ‘အာရုံငါးပါး ကာမဂုဏ်တရားတွေကို ပယ်ပြီး ဉာဏ်ပညာနဲ့ ဆက်လက်ကြိုးစား ပွားများ အားထုတ်ပါ’လို့ ဆိုလိုတာ ဖြစ်တယ်။

(၁၄) သားတစ်ဆိုတာ နှစ်သက်စွဲလမ်းတပ်မက်တဲ့ နန္ဒီရာဂ (တဏှာ)ကို ဆိုလိုတာ ဖြစ်တယ်၊ ‘သားတစ်ကို ဖယ်ပြီး ဓားလက်နက်နဲ့ ဆက်တူးပါ’ ဆိုတာ ‘နန္ဒီရာဂ (တဏှာ)ကို ပယ်ပြီး ဉာဏ်ပညာနဲ့ ဆက်လက် ကြိုးစား ပွားများ အားထုတ်ပါ’လို့ ဆိုလိုတာ ဖြစ်တယ်။

(၁၅) နဂါး ဆိုတာ ရဟန္တာကို ဆိုလိုတာ ဖြစ်တယ်။ ‘နဂါး သူ့ဘာသာ နေပါစေ၊ နဂါးကို မထိပါးနဲ့၊ နဂါးကို ရှိခိုးပါ’ ဆိုတာ ‘ရဟန္တာကို မပြစ်မှားနဲ့၊ ရဟန္တာကို ရှိခိုးပါ’ လို့ ဆိုလိုတာ ဖြစ်တယ်။ (မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသပါဠိတော်၊ ဝမ္မိကသုတ်၊ စာ ၁၉၅။)

ဝမ္မိကသုတ် အမေး၊ အဖြေကို ပိုပြီး ရှင်းလင်းစွာ သဘောပေါက်စေဖို့အတွက် မူလပဏ္ဏာသ အဋ္ဌကထာလာအတိုင်း မင်းကွန်းဆရာတော်ကြီး ရှင်းပြထားတာကို ဖော်ပြပါဦးမယ်။



(၁) ပကတိတောင်ပို့ဟာ မြေ၊ မြေပါ၊ ကြွက်၊ အိမ်မြှောင်၊ ခြကောင်စတဲ့ ပိုးကောင်အမျိုးမျိုးကို အန်ထုတ်ပေးသလို ဒီ ခန္ဓာကိုယ်ကြီးဟာလည်း မျက်စိကနေ မျက်ချေး၊ နားကနေ နားဖာချေးစတဲ့ စက်ဆုပ်ဖွယ်ရာ အညစ်အကြေးတွေကို အန်ထုတ်ပေးတတ်လို့ ဒီ ခန္ဓာကိုယ်ကြီးကို တောင်ပို့ လို့ ဟောတော်မူခြင်း ဖြစ်ပါတယ်။

(၂) နေ့ပိုင်းမှာ လုပ်ဆောင်ရမည့် လုပ်ငန်းဆောင်တာများအတွက် ညပိုင်းကတည်းက အမျိုးမျိုး ကြံစည် စဉ်းစားကြရတယ်။ အခုလို ညပိုင်းမှာ အမျိုးမျိုး ကြံစည်နေတာကိုပဲ ညမှာ အခိုးလွတ်တယ်လို့ ဟောတော်မူခြင်း ဖြစ်တယ်။

(၃) နေ့ပိုင်းရောက်တဲ့အခါ ညက ကြံစည်စဉ်းစားထားတဲ့အတိုင်း ကိုယ်၊ နှုတ်နဲ့ လုပ်ကိုင် ပြောဆိုကြရတယ်။ ဒါကိုပဲ နေ့မှာ မီးဟုန်းဟုန်းတောက်နေတယ်လို့ ဟောတော်မူခြင်း ဖြစ်တယ်။

(၄) ဆရာပုဏ္ဏားဆိုတာ ရာဂ၊ ဒေါသ၊ မောဟ၊ မာန၊ သက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ သီလဗ္ဗတ ပရာမာသ ၇-ပါးကို ပယ်ပြီးဖြစ်တဲ့ မြတ်စွာဘုရားကို ဆိုလိုတာ ဖြစ်တယ်။

(၅) ပညာရှိတပည့် ဆိုတာကတော့ အဓိသီလသိက္ခာ၊ အဓိစိတ္တသိက္ခာ၊ အဓိပညာသိက္ခာဆိုတဲ့ သိက္ခာသုံးပါး အကျင့်တရားကို ကျင့်နေတဲ့ ကျင့်ဆဲရဟန်းကို ဆိုလိုတာ ဖြစ်တယ်။

(၆) ဓားလက်နက်ဆိုတာကတော့ လောကီ၊ လောကုတ္တရာ ပညာကို ဆိုလိုတာ ဖြစ်တယ်။

(၇) တူးတယ်ဆိုတာ ပညာနဲ့ ကြိုးစားအားထုတ်တာကို ဆိုလိုတာ ဖြစ်တယ်။

(၈) မြို့တံခါးကို ပိတ်ပြီး တံခါးကျည်-မင်းတုပ် ချထားလိုက်ရင် မြို့တွင်း မြို့ပြင် လူအသွားအလာ ပြတ်ကုန်တယ်၊ အတွင်းက လူလည်း အပြင်ထွက်မရ၊ အပြင်ကလူလည်း အတွင်းဝင်မရ။

ဒီ့အတူပဲ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ရဲ့ ဉာဏ်တံခါးဝမှာ အဝိဇ္ဇာဆိုတဲ့ မင်းတုပ် ကျရောက်လာရင် အဲဒီပုဂ္ဂိုလ်အတွက် နိဗ္ဗာန်ရောက်စေနိုင်တဲ့ ဉာဏ်အသွား လုံးဝပြတ်တောက်သွားတော့တယ်။ ဒါကြောင့် အဝိဇ္ဇာကို တံခါးကျည်-မင်းတုပ် လို့ ဟောတော်မူခြင်း ဖြစ်တယ်။ အဝိဇ္ဇာကို ပယ်ဆိုတာ ကမ္မဋ္ဌာန်းတရားကို သင်ယူခြင်း၊ မေးမြန်းခြင်းတွေနဲ့ အဝိဇ္ဇာကို ပယ်ပြီး ဆက်အားထုတ်ပါလို့ ဆိုလိုတာ ဖြစ်တယ်။

(၉) ဖားပွ ဆိုတာ ပင်ကိုက ကြီးလှတာ မဟုတ်ပါဘူး၊ လက်သည်းခွံလောက်ပဲ ရှိတာပါ။ သက်ရှက်ပေါင်းတွေ၊ ချုံတွေ၊ နွယ်တွေအကြားမှာ နေလေ့ရှိပါတယ်။ ဒီ ဖားပွဟာ တုတ်စွန်းနဲ့ ဖြစ်ဖြစ်၊ နွယ်အစွန်းနဲ့ ဖြစ်ဖြစ်၊ မြေမှုန့်နဲ့ဖြစ်ဖြစ် ထိခိုက်မိလိုက်ရင် အမျက်ဒေါသ ထွက်ကာ ခန္ဓာကိုယ် တဖြည်းဖြည်း ပွလာတယ်။ နောက်ပြီး ဥသျှစ်သီးမှည့်လောက် ကြီးထွားလာကာ ခြေထောက်လေးဖက် မိုးထောင် ပက်လက်လန်သွားပါတော့တယ်။ ဒီအခါ မသွားနိုင်တော့ဘဲ ကျီးငှက် စတဲ့ ရန်သူ့အလို လိုက်ပါရတော့တယ်။

ဒီ့အတူပဲ အမျက်ထွက်ခြင်း ကောဓ(ဒေါသ)ဟာ ဖြစ်စမှာတော့ စိတ်တုန်လှုပ်ရုံကလေး၊ စိတ်နောက်ကျုရုံလေးကို ဖြစ်စေတတ်ပါတယ်။ ဒီအချိန်မှာ ထိန်းနိုင်ရင် ထိန်း၊ မထိန်းနိုင်ရင်တော့ မျက်နှာရှုံ့ပြီး မဲ့ရွဲ့လာစေတတ်ပါတယ်။ ဒီအချိန်မှာ မနှိပ်ကွပ်ထားနိုင်ရင် ဆဲရေးတိုင်းထွာ ကြမ်းတမ်းတဲ့ စကားတွေ ပြောဖို့အတွက် မေးတလှုပ်လှုပ် ဖြစ်စေတတ်ပါတယ်။ ဒီအချိန်မှာ မထိန်းနိုင်ရင်တော့ ဆဲရေး တိုင်းထွာ ကြမ်းတမ်းတဲ့စကားကို ပြောလာစေတော့တာပါ။ ဒီအချိန်မှာ မထိန်းထားနိုင်ရင် တစ်ဖက်လူအတွက် ဘေးက ဝိုင်းကူမည့်သူ ရှိ၊ မရှိသိအောင် ဟိုဟိုဒီဒီ လျှောက်ကြည့်တဲ့အဖြစ် ရောက်စေပြီး၊ ဒီအချိန်မှာ မထိန်းနိုင်ရင် တစ်ဖက်သားကို ရိုက်ပုတ်ဖို့ရန်အတွက် ဆွဲလား၊ ယမ်းလား အခြေအနေ ရောက်စေတော့တာပါ။ ဒီခဏမှာ မနှိပ်ကွပ်နိုင်ရင် လက်နဲ့ တုတ်ဆွဲ၊ ဓားဆွဲ အခြေအနေ ရောက်လာစေပြီး



မထိန်းနိုင်ရင် ကိုင်ထားတဲ့ တုတ်၊ ဓားတွေနဲ့ ရိုက်ပုတ်တာ၊ သတ်ဖြတ်ထိုးခုတ်တာတွေ ဖြစ်စေပြီး ရာဇဝတ်မှု ကျူးလွန်တဲ့အနေအထားအထိ ရောက်စေတော့တာပါ။ အဲဒီခဏမှာ နှိပ်ကွပ်နိုင်ရင် တော်သေးတယ်၊ မနှိပ်ကွပ် မထိန်းနိုင်လို့ကတော့ သူတစ်ပါးကို သတ်တာ၊ ကိုယ့်ကိုယ်ကိုယ် သတ်တာစတဲ့ လမ်းဆုံးအထိ ရောက်စေတော့တာ ဖြစ်ပါတယ်။

ဒီဥပမာမှာ ဖားပွဟာ ခြေလေးချောင်းထောင်ပြီး ပက်လက်လန်သွားရင် သွားလို့ မရတော့ဘဲ အသွား ပြတ်စဲသွားတယ်။ ဒီအခြေအနေ ရောက်နေတဲ့ ဖားပွဟာ ရန်သူအလိုသို့ လိုက်ပါရပြီး ကျီးငှက်တွေရဲ့ အစာဖြစ်ရတော့တယ်။ ဒီ့အတူပဲ အမျက်ထွက်ခြင်း ကောဓ (ဒေါသ) လွှမ်းမိုးခံနေရသူဟာ ကမ္မဋ္ဌာန်းတရား မပွားနိုင်တော့ဘဲ ဉာဏ်အသွား ပြတ်တော့တာပါ။ ကိလေသာရန်သူတွေရဲ့ အလိုသို့ လိုက်ပါရပြီး ရန်သူနှိပ်စက်သမျှ ငုံ့ခံပြီး နေရတော့တာပါ။ ဒါကြောင့် အမျက်ထွက်ခြင်း ကောဓ(ဒေါသ) ကို ဖားပွလို့ ဟောတော်မူခြင်း ဖြစ်ပါတယ်။

(၁၀) အဖိုးတန်ရတနာတွေပါတဲ့ ကန္တာရခရီးကြမ်း သွားတဲ့ ခရီးသွားယောကျ်ားဟာ လမ်းနှစ်-မွာ လမ်းနှစ်ခွ ရောက်တဲ့အခါ "ဒီဘက်လမ်းနဲ့ သွားရ ကောင်းမလား၊ ဟိုဘက်လမ်းနဲ့ သွားရ ကောင်းမလား" လို့ ယုံမှားတွေးတောကာ မဆုံးဖြတ်နိုင်ဘဲ အဲဒီလမ်းနှစ်ခွဆုံရာမှာပဲ ရပ်တည်နေတယ်။ ဒီအခါ အဲဒီ ခရီးသွားယောကျ်ားကို လူဆိုးဓားပြတွေ နှိပ်စက်လုယက်ပြီး အကျိုးမဲ့ ပျက်စီးစေသလို ဒီ့အတူပဲ မူလ ကမ္မဋ္ဌာန်းကို ယူပြီး တရားအားထုတ်နေတဲ့ ရဟန်းဟာ ဘုရား၊ တရား၊ သံဃာ စတဲ့အရာတွေ အပေါ်မှာ ယုံမှားသံသယ ဝိစိကိစ္ဆာတွေ ဖြစ်လာတဲ့အခါ ကမ္မဋ္ဌာန်းကို ဆက်လက်ပြီး မပွားနိုင်တော့ဘဲ ဝိစိကိစ္ဆာ ဆိုတဲ့ လမ်းနှစ်ခွမှာပဲ ရပ်ပြီးနေတော့တယ်။ ဒီအခါ ကိလေသာရန်သူတွေက ညဥ်းဆဲနှိပ်စက်ပြီး အကျိုးမဲ့ပျက်စီးတဲ့

အခြေအနေသို့ ရောက်စေတော့တာပါ။ အခုလို ဝိစိကိစ္ဆာ ဆိုတဲ့ ယုံမှားသံသယဟာ လမ်းနှစ်-မွှာ လမ်းနှစ်ခွနဲ့ တူတာမို့ မြတ်စွာဘုရားက ဝိစိကိစ္ဆာကို လမ်းနှစ်ခွ လို့ ဟောတော်မူခြင်း ဖြစ်တယ်။

(၁၁) ရေစစ်ထဲကို ရေလောင်းထည့်တဲ့အခါ ရေတစ်အိုးဖြစ်ဖြစ်၊ နှစ်အိုးဖြစ်ဖြစ်၊ ဆယ်အိုး၊ အိုး နှစ်ဆယ်၊ အိုးတစ်ရာဖြစ်ဖြစ် လောင်းထည့်သလောက် ဝေါခနဲ စီးယို လျှောကျသွားတယ်၊ အနည်းငယ်မျှ ရေတောင်မကျန်ရစ်ပါ။ ဒီ့အတူပဲ နီဝရဏတရားငါးမျိုး တရားဆိုးတွေနဲ့ ပြည့်နေတဲ့သူရဲ့ သန္တာန်မှာ မည်သည့်ကုသိုလ်တရားမျှ မတည်နိုင်၊ မကျန်ရစ်တော့ပါ။ ဒါကြောင့် နီဝရဏတရားငါးပါးကို ရေစစ်လို့ ဟောတော်မူခြင်း ဖြစ်တယ်။

(၁၂) လိပ်မှာ ခြေလက်လေးချောင်းရယ်၊ ဦးခေါင်းရယ် အင်္ဂါ ငါးမျိုး ရှိသလို၊ ဒီ့အတူ ရုပ်နာမ် ဓမ္မ သင်္ခတတရား အားလုံးကို ဉာဏ်နဲ့သိမ်းယူလိုက်ရင် ခန္ဓာငါးပါး တရားအစုသာ ရှိပါတယ်။ ဒါကြောင့် ခန္ဓာငါးပါးကို လိပ်လို့ ဟောတော်မူတာ ဖြစ်ပါတယ်။

(၁၃) လောကမှာ စဉ်းတီတုံးပေါ် တင်ထားပြီး သန်လျက်(ဓား)နဲ့ အသားကို နုပ်နုပ်စဉ်းကြသလို ဒီ့အတူပဲ ဝတ္ထုအာရုံကာမဂုဏ်တွေကို ရရှိဖို့ရန်အတွက် ကိလေသာကာမနဲ့ ရှာကြံကြ ပင်ပန်းနေကြတဲ့ သတ္တဝါတွေကို ဓမ္မသဘောနဲ့ ကြည့်လိုက်ရင် ဝတ္ထုကာမဆိုတဲ့ စဉ်းတီတုံးပေါ်မှာ တင်ထားပြီး ကိလေသာကာမဆိုတဲ့ သန်လျက်(ဓား)နဲ့ နုပ်နုပ် ခုတ်စဉ်းနေသလိုပါပဲ။ ဒါကြောင့် ဝတ္ထုကာမဖြစ်တဲ့ ကာမဂုဏ်ငါးပါးကို စဉ်းတီတုံး၊ ကိလေသာကာမကို သန်လျက်(ဓား) လို့ ဟောတော်မူတာ ဖြစ်တယ်။

(၁၄) လောကမှာ အသားတုံး-သားတစ်ကို လူတွေလည်း လိုချင်ကြတယ်၊ ကျီးငှက် စတဲ့ တိရစ္ဆာန်တွေလည်း လိုချင်ကြတယ်။ အသားတုံး-သားတစ်ကို လိုချင်လို့ လူတွေ၊ သတ္တဝါတွေမှာ ဒုက္ခ



အဆင့်ဆင့် ပွားကြရတယ်။ ဒီ့အတူပဲ သတ္တဝါတွေဟာ အဝိဇ္ဇာနဲ့ ယစ်မူးနေတဲ့အတွက် နန္ဒီရာဂဆိုတဲ့ တဏှာကို ဒုက္ခဖြစ်ကြောင်း တရားပဲ လို့ မသိနိုင်ကြဘဲ ဒီ နန္ဒီရာဂဆိုတဲ့ တဏှာသားတစ်နောက်သာ တကောက်ကောက် လိုက်ပါကပ်ရောက်ကြပြီး သံသရာဝဋ်ဒုက္ခကို တိုးပွားစေကြတယ်။ ဒါကြောင့် နန္ဒီရာဂကို မြတ်စွာဘုရားက သားတစ်လို့ ဟောတောမူတာ ဖြစ်တယ်။

တစ်နည်းအားဖြင့် အသားတုံး-သားတစ်ဟာ ထားတဲ့နေရာတိုင်းမှာပဲ ငြိတွယ်သလို ဒီ့အတူ သတ္တဝါတွေဟာလည်း နန္ဒီရာဂဆိုတဲ့ တဏှာနဲ့ နှောင်ဖွဲ့ခံထားရတဲ့အတွက် ဝဋ်တရားမှာ ကပ်ငြိနေကြတယ်၊ ဆင်းရဲဒုက္ခတွေ ရောက်နေပေမယ့်လည်း မငြီးငွေ့နိုင်ကြပါဘူး။ အခုလို နန္ဒီရာဂဟာ သားတစ်နဲ့ တူတဲ့အတွက်ကြောင့် မြတ်စွာဘုရားရှင်ဟာ နန္ဒီရာဂဆိုတဲ့ တဏှာကို သားတစ်လို့ ဟောတော်မူတာ ဖြစ်တယ်။

(၁၅) ဘုရား စတဲ့ ရဟန္တာပုဂ္ဂိုလ်တွေကို အဂတိလေးပါး မလိုက်တဲ့အတွက်ကြောင့်ရယ်၊ မဂ်နဲ့ ပယ်ထားတဲ့ ကိလေသာတွေ သူတို့သန္တာန်မှာ ဘယ်တော့မှ ပြန်မဖြစ်တော့တဲ့အတွက်ကြောင့်ရယ်၊ ဘယ်လို မကောင်းမှု အကုသိုလ်ကိုမျှ မပြုတော့တဲ့အတွက်ကြောင့်ရယ် ဒီအကြောင်းတွေကြောင့် နာဂလို့ ခေါ်ပါတယ်။

နောက်ဆုံး အဝိဇ္ဇာနဲ့ တဏှာကို အကြွင်းမဲ့ ပယ်သတ်နိုင်ပြီဆိုရင် တရားစစ်တရားမှန်ကို ပြတော်မူတဲ့ ဘုရားဆိုတဲ့ နာဂကို တွေ့မြင်တော့တာပါ။ တရားမြင်လို့ ဘုရားမြင်တယ်လို့ ဆိုလိုတဲ့ သဘောပေါ့။ နောက်ဆုံးမြင်တွေ့ရတဲ့ အဲဒီ ဘုရားဆိုတဲ့ ရဟန္တာနဂါးကို ရှိခိုးကန်တော့လိုက်ပါလို့ ဟောတော်မူလိုရင်း ဖြစ်ပါတယ်။

## အရှင်ကုမာရကဿပ ရဟန္တာဖြစ်တော်မူခြင်း

ဒီ ဝမ္မိကသုတ္တန်ဟာ အရှင်ကုမာရကဿပမထေရ်အတွက်

ဝိပဿနာတရား အားထုတ်ဖို့အတွက် လုပ်ငန်းစဉ်ပြ ကမ္မဋ္ဌာန်း တရား ဖြစ်ပါတယ်။ အရှင်မြတ်ဟာ မြတ်စွာဘုရား ဖြေဆိုဟောကြားတဲ့ အတိုင်း နာယူမှတ်သားပြီး အန္ဓဝန်တောအုပ်ထဲ ပြန်လည် ကြွချီကာ ဝိပဿနာ ကမ္မဋ္ဌာန်းတရား ပွားများ အားထုတ်ခဲ့တဲ့အတွက် မကြာမီ မှာပဲ အရဟတ္တဖိုလ်ရောက်ကာ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။

အရှင်ကုမာရကဿပ ရဟန္တာမထေရ်မြတ်ဟာ ရဟန္တာ ဖြစ်တော်မူပြီးချိန်ကစပြီး ပရိသတ် လေးပါးတို့ကို တရားဟောတဲ့အခါ ဥပမာတွေ၊ အကြောင်းအချက်အလက်တွေနဲ့ ဝေဝေဆာဆာ တန်ဆာ ဆင်ပြီး ဟောကြားလေ့ရှိပါတယ်။

နောက်ပိုင်းကာလ တစ်ချိန်မှာတော့ မြတ်စွာဘုရားရှင်ဟာ အရှင်ကုမာရကဿပမထေရ်ကို ပါယာသိမြို့စားမင်းကို ပြဿနာ ၁၅-မျိုးနဲ့ တန်ဆာဆင်ပြီး ဥပမာ၊ ဥပမေယျတွေနဲ့ ပါယာသိရာဇည သုတ္တန်ကို ဟောတော်မူတာကို အကြောင်းပြုပြီး ‘‘ရဟန်းတို့... အဆန်းတကြယ် တရားစကား ဟောကြားတတ်တဲ့ ငါဘုရားရဲ့ တပည့်သာဝကရဟန်းတော်တွေထဲမှာ ကုမာရကဿပဟာ အသာဆုံး အမြတ်ဆုံး ဖြစ်ပေတယ်’’ လို့ ချီးကျူးတော်မူကာ စိတ္တကထိက ဧတဒဂ်အရာထားပြီး ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဂ) အရှင်မြတ်နဲ့ ဆက်စပ်တဲ့ တရားတော် မမှန်တဲ့ အယူအဆ ပယ်စွန့်ဖို့အတွက် ဥပမာပေါင်း များစွာနဲ့ တန်ဆာဆင်ပြီး ဟောထားတဲ့ ပါယာသိသုတ္တန်

အရှင်ကုမာရကဿပမထေရ်ဟာ တစ်ခါမှာတော့ ကောသလတိုင်းထဲက သေတဗျမြို့ ရောက်လာပြီး မြို့ရဲ့မြောက်ဘက်မှာ ရှိတဲ့ ယင်းတိုက်တောမှာ သီတင်းသုံးနေပါတယ်။ အဲဒီမြို့ကို



အုပ်ချုပ်သူက ပါယာသိ မြို့စားမင်းဖြစ်ပြီး သူက ‘ပရလောက ဆိုတာ မရှိ၊ ကိုယ်ထင်ရှား ဘွားခနဲ ပဋိသန္ဓေနေပြီး ဖြစ်ရတဲ့ ငရဲသားတွေ၊ နတ်တွေ၊ ဗြဟ္မာတွေ ဆိုတာ မရှိ၊ ကုသိုလ်ကံ အကုသိုလ်ကံတွေရဲ့ ကောင်းကျိုး၊ ဆိုးကျိုးဆိုတာ မရှိ’ လို့ ယုံကြည်တဲ့ နတ္ထိကဝါဒီ ပုဂ္ဂိုလ်တစ်ယောက်ပါ။

သေတဗျမြို့သူမြို့သားတွေဟာ တရား အဆန်းတကြယ် ဟောတတ်တယ်လို့ ကျော်ကြားတဲ့ အရှင်ကုမာရကဿပမထေရ် ရောက်လာတယ်ဆိုတာ သိကြတာနဲ့ အရှင်မြတ်ဆီ တရားနာဖို့ အုပ်စုလိုက် အုပ်စုလိုက် သွားခဲ့ကြတယ်။ ဒါကို ပါယာသိမြို့စား သိလိုက်တာနဲ့ ‘‘ငါ လိုက်သွားမှ ဖြစ်မယ်၊ တော်နေကြာ ကုမာရ ကဿပ ရဟန်းက ဘာမှ မသိနားမလည်တဲ့ မြို့သူမြို့သားတွေကို ‘ပရလောက ဆိုတာ ရှိတယ်၊ ဩပပါတိကသတ္တဝါတွေ ဖြစ်တဲ့ ငရဲသားတွေ၊ နတ်တွေ၊ ဗြဟ္မာတွေ ရှိတယ်၊ ကုသိုလ်ကံ၊ အကုသိုလ် ကံတွေရဲ့ အကျိုးဆိုတာ ရှိတယ်’ လို့ ဟောပြောနေလိမ့်မယ်’’ ဆိုပြီး သူလည်း အရှင်ကုမာရကဿပဆီ လိုက်သွားတယ်။

အရှင်မြတ်ဆီ ရောက်သွားတဲ့အခါ ပါယာသိမြို့စားက သူဟာ ပရလောကကို မယုံ၊ ဩပပါတိက သတ္တဝါတွေ ရှိတယ်ဆိုတာ မယုံ၊ ကံနဲ့ ကံရဲ့ အကျိုးရှိတယ်ဆိုတာ မယုံကြည်တဲ့ နတ္ထိကဝါဒီ ပုဂ္ဂိုလ် ဖြစ်တယ်ဆိုတဲ့အကြောင်း အရှင်မြတ်ကို လျှောက်ထားပါ တယ်။

## (၁) လ၊ နေ ဥပမာ

ဒီအခါ အရှင်မြတ်က ‘‘ငါဟာ ဒီလို အယူအဆရှိတဲ့ ပုဂ္ဂိုလ်ကို မြင်လည်း မမြင်ဖူးဘူး၊ ကြားလည်း မကြားဖူးဘူး၊ သင်ဟာ ဘာလို့ ဒီလို နတ္ထိကဝါဒီပုဂ္ဂိုလ် ဖြစ်ရတာလဲ’’ လို့ မိန့်လိုက်ပြီး

လ၊ နေ ဥပမာနဲ့ ရှင်းပြဖို့အတွက် ''မြို့စားမင်း... ခုမေးမယ့်မေးခွန်းနဲ့ ပတ်သက်ပြီး သင် ကြိုက်သလို ဖြေပါ၊ ဒီ လ၊ နေတွေဟာ ဒီလောက ထဲကလား၊ ပရလောကဘက်ကလား၊ သူတို့ဟာ နတ်တွေလား၊ လူတွေလား'' လို့ စတင် မေးခွန်းထုတ်လိုက်ပါတယ်။ မြို့စားမင်းက ဒီလောကထဲက မဟုတ်၊ ပရလောကဘက်က ဖြစ်ပါကြောင်းနဲ့ သူတို့ဟာ လူတွေ မဟုတ်၊ နတ်တွေ ဖြစ်ပါကြောင်း ဖြေကြားခဲ့ပါတယ်။ (သူ ဒီလို ဖြေရတာလည်း သေချာသိလို့ ဖြေတာတော့ မဟုတ်ပါဘူး၊ ဒီလောကထဲကပါဆိုရင် ဘယ်လောက် ဝေးတုံး၊ ဘယ်လောက် ပမာဏရှိတုံးဆိုပြီး မေးခွန်းတွေ ဆက်မေးလာရင် ဘာဖြေရမှန်း မသိတာနဲ့ လူကြားထဲ အရှက်ကွဲမှာ ကြောက်လို့ ပြီးစလွယ် ဖြေလိုက်တာ ဖြစ်တယ်လို့ အဋ္ဌကထာက ရှင်းပြပါတယ်။)

ဒီအခါ အရှင်မြတ်က ''မြို့စားမင်း... ဒီအဖြေနဲ့တင် သင်ဟာ ပရလောက ရှိတယ်၊ ဩပပါတိကသတ္တဝါတွေ ရှိတယ်၊ ကုသိုလ်ကံ၊ အကုသိုလ်ကံရဲ့ အကျိုးတွေဆိုတာ ရှိတယ်လို့ ယုံကြည်သူ ဖြစ်နေပါပကော'' လို့ မိန့်လိုက်တယ်။ ဒီလို မိန့်ပေမယ့်လည်း ပါယာသိမြို့စားက ''အရှင်ဘုရား ဘယ်လိုပင် ပြောစေကာမူ တပည့်တော်ကတော့ နတ္ထိကဝါဒီပုဂ္ဂိုလ်ပါပဲ'' လို့ ပြန်လျှောက်ခဲ့ပါတယ်။

ဆက်ပြီး အရှင်မြတ်က ''မြို့စားမင်း... သင်က ဘယ်လို အကြောင်းအထောက်အထား ရှိလို့ ဒီလို ယူဆရတာလဲ၊ အထောက်အထား ရှိရင် ပြောပါဦး'' လို့ မိန့်လိုက်ပါတယ်။ ဒီအခါ ပါယာသိမြို့စားက ''အရှင်ကဿပ... တပည့်တော်မှာ ပါဏာတိပါတ စတဲ့ ဒုစရိုက်မှုတွေ ပြုလုပ်နေတဲ့ မိတ်ဆွေတွေ၊ ဆွေမျိုးသားချင်းတွေ ရှိပါတယ်၊ သူတို့ မကျန်းမမာဖြစ်ပြီး ပြန်မရှင်နိုင်တော့ဘဲ သေတော့မယ်လို့ သေချာသိတဲ့အခါမှာ သူတို့ကို တပည့်တော်က 'အို... အမောင်တို့၊ လောကမှာ ဒုစရိုက်မှုတွေ ပြုတဲ့သူတွေ သေရင် ငရဲရောက်လိမ့်မယ်လို့ ဟောပြောတဲ့ ရှင်ရဟန်းတွေရှိတယ်၊ သူတို့စကား မှန်ခဲ့မယ်ဆိုရင် သင်တို့တစ်တွေဟာ ငရဲရောက်မှာပဲ၊ တကယ်လို့ သင်တို့တစ်တွေ ငရဲရောက်ခဲ့တယ်ဆိုရင် ငါ့ဆီ ပြန်လာပြီး ပရလောက ရှိတယ်၊ ဩပပါတိက သတ္တဝါ ရှိတယ်၊ ကံ၊ ကံရဲ့ အကျိုး ရှိတယ်ဆိုတဲ့ အကြောင်း ပြောပါဦး' လို့ မှာလိုက်ပါတယ်။ သူတို့ဟာ တပည့်တော် ယုံကြည် စိတ်ချရတဲ့သူတွေ ဖြစ်ပါတယ်၊ သူတို့ကလည်း ကောင်းပြီလို့ ဝန်ခံသွားကြတယ်၊ ဒါပေမယ့် တစ်ယောက်မှ ပြန်လာပြောသူလည်း မရှိ၊ လူကြုံနဲ့ စကားပါးလိုက်တာလည်း မရှိ၊ ဒါကြောင့် တပည့်တော်ဟာ နတ္ထိကဝါဒီအယူရှိသူ ဖြစ်နေတာပါ'' လို့ ရှင်းပြခဲ့ပါတယ်။

## (၂) သူခိုး ဥပမာ

အရှင်မြတ်က ''မြို့စားမင်း... ဒါဖြင့်ရင် သင့်ကို မေးဦးမယ်၊ စိတ်ကြိုက်ဖြေပါ၊ သင့်ရဲ့ အစေအပါး ဝန်ထမ်းတွေက သူခိုးတစ်ယောက် ဖမ်းလာပြီး သင့်ကို ပြစ်မှုစီရင်ခိုင်းတဲ့အခါ သင်က 'ဒီသူခိုးကို မြို့ပြင် သုသာန်ထုတ် ခေါင်းဖြတ်သတ်စေ' လို့ အမိန့်ပေးလိုက်တယ် ဆိုပါတော့။ ဒီအခါ သူခိုးသတ်မယ့် အာဏာ ပါးကွက်သားတွေက သူခိုးကို သုသာန်ထုတ်ပြီး ခေါင်းဖြတ်ခါနီးအချိန်မှာ သူခိုးက သူခိုးသတ်သမားတွေကို 'အရှင်တို့... ခဏနေပါဦး၊ ကျုပ်ဆွေမျိုးတွေဆီ သွားပြီး မှာစရာရှိတာလေး မှာပါရစေဦး၊ ပြန်လာမှ သတ်ပါ' လို့ တောင်းပန်လို့များ ရလေမလား၊ ဒါမှမဟုတ် တစ်ခါတည်း ခေါင်းဖြတ် အသတ်ခံရမလား'' လို့ မြို့စားမင်းကို မေးလိုက်ပါတယ်။

မြို့စားမင်းက ''အရှင်ဘုရား ဘယ်ရလိမ့်မတုံးဘုရား၊ တစ်ခါထဲ ခေါင်းဖြတ် အသတ်ခံရမှာပေါ့ ဘုရား''လို့ ဖြေပါတယ်။

ဒီအခါ အရှင်မြတ်က ''မြို့စားမင်း... လူသားဖြစ်တဲ့ သူခိုးက လူသားတွေဖြစ်တဲ့ သူခိုးသတ်သမားတွေကို ဆွေမျိုးတွေဆီ

မှာစရာရှိတာလေး သွားမှာပါရစေဦးလို့တောင် တောင်းပန်လို့ မရရင် ငရဲရောက်သွားတဲ့ သင့်ဆွေမျိုးတွေက ငရဲထိန်းတွေကို ဘယ်လိုလုပ်ပြီး ပါယာသိမြို့စား မှာလိုက်တာလေး သွားပြန်ပြောပါရစေလို့ တောင်းပန်လို့ ရနိုင်ပါ့မလဲ၊ ဒါကြောင့် သင်ဟာ သင့်ရဲ့ အယူမှားကြီးကို စွန့်လိုက်ပါ" လို့ မိန့်တော်မူခဲ့ပါတယ်။ မြို့စားမင်းကတော့ သူ့အယူအဆ မစွန့်နိုင်ပါကြောင်းပဲ ပြန်လျှောက်ခဲ့ပါတယ်။

ဒီအခါ "ဘယ်လို အကြောင်းရှိလို့ သင့် အယူဆကို မစွန့်နိုင်ရတာလဲ၊ အကြောင်းရှိရင် ပြောပါဦး" လို့ အရှင်မြတ်က မိန့်လိုက်ပါတယ်။

မြို့စားမင်းက "အရှင်ကဿပ၊ တပည့်တော်မှာ ကောင်းမှု ကုသိုလ် သုစရိုက်တရားတွေ ပြုလုပ်အားထုတ်နေတဲ့ မိတ်ဆွေတွေ၊ ဆွေမျိုးသားချင်းတွေ ရှိပါတယ်၊ သူတို့ တစ်တွေ မမာမကျန်းဖြစ်ပြီး ရောဂါဝေဒနာကနေ ပြန်မသက်သာလာနိုင်တော့ဘူးလို့ သေချာသိတဲ့ အချိန် သူတို့ဆီသွားပြီး 'အို... အမောင်တို့၊ လောကမှာ ကုသိုလ် သုစရိုက်တွေပြုတဲ့ သူတွေဟာ သေရင် နတ်ပြည်ရောက်မှာပဲလို့ ဟောပြောကြတဲ့ ရှင်ရဟန်းတွေ ရှိတယ်။ သင်တို့တစ်တွေဟာ သုစရိုက်တရားပြုနေတဲ့သူတွေ ဖြစ်တယ်၊ သူတို့ ဟောပြောတဲ့အတိုင်း မှန်ခဲ့မယ်ဆိုရင် သင်တို့တစ်တွေဟာ သေပြီးရင် နတ်ပြည်ရောက်မှာ အမှန်ပဲ၊ တကယ်လို့ သင်တို့ သေပြီး နတ်ပြည် ရောက်သွားခဲ့ရင် ပရလောက ရှိကြောင်း၊ ဩပပါတိက သတ္တဝါ ရှိကြောင်း၊ ကံ၊ ကံရဲ့အကျိုး ရှိကြောင်း လာရောက် ပြောပါဦး၊ သင်တို့ ပြောတာဆိုရင် ငါ လက်ခံ ယုံကြည်ရမှာ အမှန်ပဲ'လို့ မှာကြားလိုက်ပါတယ်၊ သူတို့တတွေကလည်း လာပြောပါ့မယ်လို့ ကတိပေးသွားကြတယ်၊ ဒါပေမယ့် တစ်ယောက်မှလည်း လာမပြောကြဘူး၊ လူကြုံလည်း ရောက်မလာဘူး ဘုရား၊ ဒါကြောင့် တပည့်တော်က နတ္ထိကဝါဒကို ကြိုက်နေတာ ဘုရား" လို့ ဖြေပါတယ်။



## (၃) မစင်တွင်းထဲကျတဲ့ ယောက်ျားဥပမာ

အရှင်မြတ်က ဆက်ပြီး "မြို့စားမင်း... သင့်ကို ဥပမာ တစ်ခု ပြောပြမယ်၊ လောကမှာ ဥပမာနဲ့ ရှင်းပြရင် လူတွေ ပိုပြီး နားလည်ကြတယ်၊ ဥပမာ လူတစ်ယောက် မစင်တွင်းထဲ ခေါင်းပါ မြုပ်ပြီး ကျနေတယ် ဆိုပါတော့၊ သင်ဟာ အဲဒီလူကို တွေ့မြင်ပြီး သင့်ရဲ့အမှုထမ်းတွေကို 'အမောင်တို့... ဒီယောက်ျားကို မစင်တွင်း ကနေ ထုတ်ဆယ်၊ မစင်တွေ ပြောင်အောင်သန့်စင်၊ နံ့သာရည် အထပ်ထပ် ချိုး၊ ဆံမုတ်ဆိတ်ကျင်စွယ်တွေပါ ရိတ်၊ အဖိုးတန်တဲ့ ပန်းနံ့သာတွေ လိမ်းခြယ်၊ အဖိုးတန်တဲ့ ဝတ်ကောင်းစားလှတွေ ဝတ်ဆင်ပေးပြီး နန်းတော်ထက် တင်ကာ ကာမဂုဏ်ငါးပါးနဲ့ ပျော်ဖို့ ပြင်ဆင်ပေး လိုက်ပါ' လို့ ခိုင်းလိုက်တယ်၊ ဒီအခါ သင့်အမှုထမ်းတွေကလည်း သင်ခိုင်းတဲ့အတိုင်း အကုန်လုံး စီမံဆောင်ရွက်ပေးကြတယ်၊ ဒီနေရာမှာ သင့်ကို မေးချင်တာက 'အခုလို ရေမွှေးချိုး ဖြီးလိမ်းပြင်ဆင် ဝတ်ကောင်း စားလှ ဝတ်ဆင်ပြီး အာရုံငါးပါး ကာမဂုဏ်တရားတွေနဲ့ ပျော်နေတဲ့ ဒီယောက်ျားဟာ မစင်တွင်းထဲ ပြန်ဆင်းချင်ပါဦးမလား၊ သင် ဘယ်လို ထင်ပါသလဲ' " လို့ မေးခဲ့ပါတယ်။

ဒီအခါ မြို့စားမင်းက "အရှင်ကဿပ... ဘယ် ဆင်းချင်တော့မလဲ ဘုရား၊ မစင်တွင်းဆိုတာ စင်လည်း မစင်ကြယ်၊ အနံ့ကလည်း မကောင်း၊ စက်ဆုပ်စရာ ရွံစရာကြီးကိုး ဘုရား" လို့ ဖြေခဲ့ပါတယ်။

အရှင်မြတ်က "မြို့စားမင်း... ဒီဥပမာလိုပဲ လူတွေဆိုတာ နတ်တွေအတွက် စင်လည်း မစင်ကြယ်၊ အနံ့လည်း မကောင်း၊ စက်ဆုပ်စရာ၊ ရွံစရာ ဖြစ်တယ်၊ လူတွေရဲ့အနံ့ဟာ ယူဇနာတစ်ရာ ဝေးတဲ့ အရပ်ကနေတောင် နတ်တွေကို အလွန်ဒုက္ခပေး နှိပ်စက်တဲ့ သဘောရှိတယ်၊ ဘယ်လိုလုပ်ပြီး နတ်ပြည်ရောက်သွားတဲ့ သင့်ဆွေမျိုး

တွေဟာ သင်မှာလိုက်တာကို သင့်ဆီ ပြန်လာပြီး ပြောချင်ပါ့မလဲ၊ ဒါကြောင့် သင်ဟာ သင့်ရဲ့ နတ္ထိကဝါဒ အယူမှားကို စွန့်လိုက်ပါ'' လို့ မြို့စားမင်းကို ရှင်းပြပါတယ်။ ဒါပေမယ့် မြို့စားမင်းကတော့ သူ့အယူအဆ မစွန့်နိုင်သေးကြောင်းပဲ ပြန်လည် လျှောက်ထားခဲ့တယ်။

ဒီအခါ အရှင်မြတ်က ''မြို့စားမင်း... ဒီလို မစွန့်နိုင်တဲ့ အခြားအကြောင်းများ ရှိရင် ပြောပါဦး'' လို့ မိန့်ပါတယ်။ မြို့စားမင်းက ''အရှင်ကဿပ... တပည့်တော်မှာ ငါးပါးသီလကို ခါးဝတ်ပုဆိုးကဲ့သို့ မြဲမြံစွာ စောင့်ထိန်းတဲ့ ဆွေမျိုးသားချင်းတွေ၊ မိတ်ဆွေသင်္ဂဟတွေ ရှိပါတယ်၊ သူတို့ သေခါနီးတဲ့အခါ သူတို့ကို 'အို... အမောင်တို့၊ လောကမှာ ငါးပါးသီလမြဲတဲ့ ပုဂ္ဂိုလ်တွေဟာ သေရင် တာဝတိံသာနတ်ပြည် ရောက်တယ်လို့ ဟောပြောတဲ့ ရှင်ရဟန်းတွေ ရှိတယ်၊ သင်တို့တစ်တွေဟာ ငါးပါးသီလမြဲတဲ့သူတွေ ဖြစ်တော့ သူတို့ ဟောပြောချက် မှန်ခဲ့မယ်ဆိုရင် တာဝတိံသာနတ်ပြည် ရောက်ကြမှာသေချာတယ်၊ သင်တို့တစ်တွေ သေပြီး တာဝတိံသာနတ်ပြည် ရောက်ခဲ့ရင် ငါ့ဆီပြန်လာပြီး ပရလောက ရှိကြောင်း၊ ဩပပါတိကသတ္တဝါတွေရှိကြောင်း၊ ကံ၊ ကံရဲ့အကျိုးတွေရှိကြောင်း ပြောလှည့်ပါဦး၊သင်တို့ဟာ ငါယုံကြည်ရတဲ့သူတွေ ဖြစ်တာမို့ သင်တို့ပြောတာဆိုရင် ငါ လက်ခံမယ်လို့ မှာလိုက်ပါတယ်၊ ဒါပေမယ့် တစ်ယောက်မှ လာလည်း မပြော၊ သတင်းစကားလည်း မပါးကြပါ၊ ဒါကြောင့် တပည့်တော် ဒီ အယူကို မစွန့်နိုင်သေးပါ'' လို့ ပြန်လည်ဖြေကြားခဲ့ပါတယ်။

အရှင်မြတ်က ''မြို့စားမင်း... ဒီလိုဆိုရင် သင့်ကို ပြန်မေးဦးမယ်၊ သင်နှစ်သက်သဘောကျသလို ဖြေပါ၊ လူတွေရဲ့ အနှစ်တစ်ရာဟာ တာဝတိံသာနတ်တွေအဖို့ရာ တစ်ရက်ပဲ ဖြစ်တယ်၊ အဲဒီလို ရက်ပေါင်း ၃၀-ကို တစ်လ၊ အဲဒီလို လပေါင်း ၁၂-လကို တစ်နှစ်၊ အဲဒီလို နှစ်ပေါင်း တစ်ထောင်ဟာ တာဝတိံသာနတ်တွေရဲ့ သက်တမ်းပမာဏ ဖြစ်တယ်၊ ငါးပါးသီလ မြဲတဲ့ သင့်ရဲ့ ဆွေမျိုးတွေက



သေပြီးလို့ တာဝတိံသာနတ်ပြည်ရောက်သွားပြီ ဆိုပါတော့၊ သူတို့မှာ 'ငါတို့ နှစ်ရက် သုံးရက်လောက်တော့ နတ်စည်းစိမ်တွေ ပျော်ပျော်ပါးပါး ခံစားလိုက်ဦးမယ်၊ ပြီးမှ မြို့စားမင်း မှာလိုက်တာ သွားပြောကြတာပေါ့'လို့ အဲဒီလိုတွေးပြီး ပျော်ကြလိမ့်မယ်၊ ပြီးမှ သင့်ကို သင်မှာလိုက်တာ လာပြောရင် ဖြစ်နိုင်ပါ့မလား'' လို့ မြို့စားမင်းကို မေးလိုက်ပါတယ်။

မြို့စားမင်းက ''အရှင်ကဿပ... ဒီလိုဆိုတော့လည်း ဘယ်ဖြစ်နိုင်မလဲ ဘုရား၊ သူတို့ လာပြောရင် တပည့်တော်တို့က သေလို့ ကြာတောင် ကြာပေါ့၊ ဒါပေမယ့် 'တာဝတိံသာနတ်တွေဆိုတာ ရှိတယ်၊ တာဝတိံသာနတ်တွေဟာ ဒီလောက်သက်တမ်းရှည်တယ်'လို့ ဘယ်သူ က အရှင်ကဿပကို လာပြောလဲ၊ တပည့်တော်တို့ကတော့ အရှင် ဘုရားပြောတဲ့ 'တာဝတိံသာနတ်တွေ ရှိတယ်၊ သူတို့ဟာ သက်တမ်း ဒီလောက်ရှည်တယ်'လို့ ပြောတာကို မယုံနိုင်ပါ'' လို့ ပြန်လည် ဖြေကြားခဲ့တယ်။

## (၅) သူကန်းဥပမာ

ဒီအခါ အရှင်မြတ်က သူကန်းဥပမာနဲ့ ခုလို ရှင်းပြပါတယ်။ ''မြို့စားမင်း... မွေးကတည်းက ကန်းနေလို့ အဖြူ၊ အမည်း၊ အညို၊ အဝါ၊ အနီ၊ အပြာရောင်တွေ လ၊ နေတွေ၊ နက္ခတ်ကြယ်တာရာတွေကို မမြင်ဖူးတဲ့ သူကန်းတစ်ယောက်က 'လောကမှာ အဖြူစတဲ့ အရောင်တွေ၊ လ၊ နေတွေ၊ နက္ခတ် ကြယ်တာရာတွေဆိုတာ မရှိပါဘူး၊ အဖြူစတဲ့ အရောင်တွေကို မြင်တဲ့သူ၊ လ၊ နေတွေ၊ ကြယ်တာရာတွေကို မြင်တဲ့သူဆိုတာလည်း မရှိပါဘူး၊ ဘာလို့လဲဆိုတော့ ငါမသိလို့၊ ငါမမြင်ရလို့ပဲ' လို့ ပြောမယ်ဆိုရင် သူ့ရဲ့ အပြောဟာ မှန်တဲ့အပြော ဖြစ်ပါ့မလား'' လို့ အရှင်မြတ်က မေးပါတယ်။

မြို့စားမင်းက ""အရှင်ကဿပ··· သူ့ရဲ့ အခုလိုပြောဆိုမှုဟာ ဘယ်မှန်တဲ့ အပြော ဖြစ်ပါ့မလဲ ဘုရား၊ အဖြူစတဲ့အရောင်တွေ၊ လ၊ နေ၊ နက္ခတ် ကြယ်တာရာတွေ၊ ဒါတွေကို မြင်တဲ့သူတွေဆိုတာ လောကမှာ ထင်ရှားရှိနေတာပဲ ဘုရား၊ ငါမသိလို့၊ ငါမမြင်လို့ အရောင်တွေ၊ လ၊ နေ၊ နက္ခတ် ကြယ်တာရာတွေ၊ ဒါတွေကို မြင်တဲ့သူတွေ မရှိပါဘူးလို့ ပြောတဲ့ သူ့ရဲ့ အပြောဟာ ဘယ်မှာ မှန်တဲ့အပြော ဖြစ်မှာလဲ ဘုရား"" လို့ ပြန်လည်ဖြေကြားပါတယ်။

ဒီအခါ အရှင်မြတ်က ""မြို့စားမင်း··· ဒီဥပမာအတိုင်းပဲပေါ့၊ 'တာဝတိံသာနတ်တွေ ဆိုတာ ရှိတယ်၊ အဲဒီနတ်တွေဟာ ဒီလောက် အသက်ရှည်တယ်' လို့ အရှင်မြတ်ကို ဘယ်သူက လာပြောလဲ၊ အရှင်မြတ်ရဲ့ စကားကို တပည့်တော် မယုံနိုင်ပါ' လို့ သင်ပြောတဲ့ စကားဟာလည်း သူကန်း ဥပမာလို ဖြစ်နေပြီ၊ မြို့စားမင်း··· တကယ်တော့ ပရလောကကို ပကတိမျက်စိနဲ့ မြင်ရသလိုမျိုး မမှတ်ရဘူး၊ လောကမှာ တောထဲတောင်ထဲ ဆိတ်ငြိမ်ရာအရပ်သွားပြီး မမေ့မလျော့ တရားအားထုတ်တဲ့အတွက် ဒိဗ္ဗစက္ခုအဘိညာဉ်ရတဲ့ ပုဂ္ဂိုလ်တွေဆိုတာ ရှိပါတယ်၊ အဲဒီပုဂ္ဂိုလ်တွေဟာ ဒိဗ္ဗစက္ခုအဘိညာဉ်နဲ့ ဒီပစ္စုပ္ပန်လောကကိုရော ပရလောကတွေ၊ ဩပပါတိကသတ္တဝါတွေကိုပါ မြင်တွေ့ရပါတယ်၊ ဒါကြောင့် သင်ဟာ သင် မမြင်ရတာနဲ့ တာဝတိံသာ ဆိုတာ မရှိဘူး စသည် မပြောပါနဲ့၊ ပရလောကရှိတယ်၊ ဩပပါတိက သတ္တဝါတွေဆိုတာ ရှိတယ်၊ ကုသိုလ်ကံ၊ အကုသိုလ်ကံတွေရဲ့ အကျိုးဆိုတာရှိတယ်လို့ မှတ်ပါ""လို့ မိန့်ကြားခဲ့ပါတယ်။

အရှင်မြတ်က အခုလို ရှင်းပြဟောကြားပေမယ့် ပါယာသိ မြို့စားမင်းကတော့ သူ့အယူကို မစွန့်လွှတ်နိုင်ကြောင်းကိုပဲ ပြန်လည်လျှောက်ထားခဲ့ပါတယ်။ အရှင်မြတ်က ဘယ်လိုအကြောင်းကြောင့် သင့်ရဲ့ အယူအဆကို မစွန့်လွှတ်နိုင်ရတာလဲလို့ ဆက်လက်



မေးခဲ့ပါတယ်။ ဒီအခါ မြို့စားမင်းက ""အရှင် ကဿပ··· သီလနဲ့ ပြည့်စုံပြီး သူတော်ကောင်းတရားတွေ ကျင့်ကြံအားထုတ်နေတဲ့ ရဟန်း ပုဏ္ဏားတွေကို တပည့်တော် တွေ့ဖူးပါတယ်၊ သူတို့ဟာ အသက်သာ ရှည်လိုပြီး မသေချင်ကြဘူး၊ ဆင်းရဲဒုက္ခကို စက်ဆုပ်ပြီး ချမ်းသာကိုသာ လိုလားကြတယ်၊ တပည့်တော် သူတို့ကို ကြည့်ပြီး 'ဒီသူတော်ကောင်းတွေဟာ ဒီဘဝမှာ အသက်ရှင်နေရတာထက် နောက်ဘဝ နေရတာက ပိုပြီး ကောင်းမြတ် ချမ်းသာမှာပဲ လို့သာ သိမြင်ကြရင် သူတို့တစ်တွေ အဆိပ်သောက်လို့ပဲဖြစ်ဖြစ်၊ ကိုယ့်ကိုယ်ကိုယ် ဓားနဲ့ ထိုးလို့ပဲဖြစ်ဖြစ်၊ ကြိုးဆွဲချလို့ပဲ ဖြစ်ဖြစ်၊ ချောက်ထဲ ခုန်ချလို့ပဲ ဖြစ်ဖြစ် ကိုယ့်ကိုယ်ကိုယ် သတ်သေကြမှာ အမှန်ပဲ၊ သူတို့တစ်တွေဟာ ဒီဘဝထက် နောက်ဘဝက ပိုကောင်းမြတ်တယ်လို့ မသိကြလို့သာ ကိုယ့်ကိုယ်ကိုယ် သတ်မသေကြတာ'လို့ တွေးမိတဲ့အတွက် တပည့်တော် အယူအဆကို မစွန့်လွှတ်နိုင်ပါ"" လို့ ဖြေကြားခဲ့ပါတယ်။

## (၆) ကိုယ်ဝန်သည် ဥပမာ

ဥပမာနဲ့ ရှင်းပြရင် သိလွယ်မြင်လွယ်ကြတာမို့ အရှင်မြတ်ဟာ မြို့စားမင်းကို ဥပမာတစ်ခုနဲ့ အခုလို ရှင်းပြခဲ့ပါတယ်။

""မြို့စားမင်း၊ ရှေးတုန်းက ပုဏ္ဏားတစ်ယောက်မှာ ဇနီးမယား နှစ်ယောက် ရှိခဲ့ပါတယ်၊ ဇနီးသည် အကြီးတစ်ယောက်မှာတော့ ၁၂ နှစ်ရွယ် သားယောကျ်ားလေး တစ်ယောက် ရှိခဲ့ပြီး ဇနီး အငယ်ကတော့ ကိုယ်ဝန်အရင့်အမာနဲ့ မွေးခါနီး ဖြစ်ပါတယ်၊ ဒီအချိန်မှာ ပုဏ္ဏားကြီး ကွယ်လွန်သွားခဲ့ပါတယ်၊ ဒီတော့ အရွယ်ရောက်စ သားဖြစ်သူက သူ့အမေရဲ့ ရန်ဘက်ဖြစ်တဲ့ ကိုယ်ဝန်သည် အမျိုးသမီးကို 'အရှင်မ··· ဒီအိမ်မှာရှိတဲ့ ရွှေငွေ စပါး စတဲ့ ပစ္စည်းဥစ္စာတွေ အားလုံးဟာ အကျွန်ုပ်ပိုင်တဲ့ ဥစ္စာတွေပဲ ဖြစ်တယ်၊ သင်နဲ့ ဘာမှ

မဆိုင်ဘူး၊ အကျွန်ုပ်အဖေရဲ့ ပစ္စည်းဥစ္စာအားလုံးကို အကျွန်ုပ်ကို အပ်ပါ' လို့ တောင်းဆိုခဲ့ပါတယ်။

ဒီအခါ ကိုယ်ဝန်သည်အမျိုးသမီးက 'အမောင်··· အကျွန်ုပ် ကိုယ်ဝန် မွေးဖွားပြီးတဲ့အထိ စောင့်ပါဦး၊ သားလေး မွေးခဲ့ရင် ဒီအမွေ ပစ္စည်းတွေက သူနဲ့လည်း တစ်ဝက်ဆိုင်ပါတယ်၊ သမီးလေး မွေးခဲ့ရင်တော့ သင်နဲ့ လက်ဆက်ပေးပါ့မယ်'' လို့ တောင်းပန်ပြောဆိုခဲ့ပါတယ်၊ ဒါပေမယ့် ဒီ ပုဏ္ဏားသားငယ်လေးက ကိုယ်ဝန်သည် အမျိုးသမီး ပြောတာကို နားမထောင်ဘဲ ဒုတိယအကြိမ်၊ တတိယအကြိမ် အထိ ဆက်လက်တောင်းဆိုခဲ့ပါတယ်။

တတိယအကြိမ် တောင်းဆိုအပြီးမှာတော့ ကိုယ်ဝန်သည် အမျိုးသမီးဟာ ကိုယ်ဝန်မွေးဖွားချိန်အထိ မစောင့်တော့ဘဲ အမွေရချင်ဇော အားကြီးပြီး သားလေးလား၊ သမီးလေးလား သိချင်တာနဲ့ ဓား ယူပြီး သူ့ဗိုက်ကို ခွဲလိုက်ပါတယ်၊ သူ့သဘောကတော့ မွေးလာမယ့် ကလေးဟာ သားလေးလား၊ သမီးလေးလား စောစောသိရင် အမွေကိစ္စကို စောစောစီးစီးပဲ ရှင်းနိုင်မယ်၊ သားလေးဆိုရင်လည်း အမွေတွေက သားလေးနဲ့လည်း တစ်ဝက်ဆိုင်တဲ့အတွက် တစ်ဝက်ရမယ်၊ သမီးလေးဆိုရင်လည်း ဒီပုဏ္ဏားလေးနဲ့ အိမ်ထောင်ချပေးလိုက်ရင် အမွေတွေ အထူးခွဲပေးနေစရာ မလိုတော့ဘူးဆိုတဲ့ အတွေးပါ၊ ဒါပေမယ့် သူ့ရဲ့ အမွေရအောင် ဖြေရှင်းနည်းက သဘာဝမကျခဲ့ပါဘူး။ အသိဉာဏ်ကင်းမဲ့စွာနဲ့ သူ့ဗိုက်ကို ဓားနဲ့ ခွဲလိုက်တဲ့အတွက် သူလည်း သေ၊ ကိုယ်ဝန်သန္ဓေသားလည်း သေကျေပျက်စီး၊ အမွေလည်း မရဖြစ်ပြီး အကျိုးမဲ့ ပျက်စီးခဲ့ရတယ်။

မြို့စားမင်း··· ဒီဥပမာလိုပဲ သင်ဟာ ပရလောက ရှိ၊ မရှိ ဆိုတာကို အသိဉာဏ်ကင်းမဲ့ပြီး မလျော်ကန်တဲ့နည်းနဲ့ ရှာမယ်ဆိုရင် ဒီ ကိုယ်ဝန်သည် အမျိုးသမီးလို အချည်းနှီး အကျိုးမဲ့ ပျက်စီးလိမ့်မယ်။



မြို့စားမင်း··· သီလနဲ့ ပြည့်စုံပြီး သူတော်ကောင်းတရား အားထုတ်နေတဲ့ ပုဂ္ဂိုလ်တွေဆိုတာ သေချိန်မရောက်သေးဘဲနဲ့ ကိုယ့်အသက်ကို သတ်သေရိုး ထုံးစံ မရှိဘူး၊ သဘာဝအတိုင်း သေရမယ့် အချိန်ကိုသာ စောင့်ကြပါတယ်၊ ဒီလို ကိုယ်ကျင့်သီလလည်းကောင်း၊ တရားလည်း အားထုတ်နေတဲ့ ပညာရှိသူတော်ကောင်းတွေ အသက်ရှည်ကြတာဟာ အများအတွက် အကျိုးရှိပါတယ်၊ သူတို့ကို အကြောင်းပြုပြီး ကျန်တဲ့ ပုဂ္ဂိုလ်တွေမှာ ကုသိုလ်တရားတွေ တိုးပွားကြရပါတယ်၊ သူတော်ကောင်းတွေဆိုတာ လူနတ်အများ ချမ်းသာဖို့၊ ကောင်းကျိုးစီးပွားတွေ ဖြစ်ထွန်းစေဖို့ ကျင့်ကြတဲ့ ပုဂ္ဂိုလ်တွေပဲ ဖြစ်ပါတယ်။

မြို့စားမင်း··· ဒါကြောင့် သင်ဟာ ပရလောက ရှိ၊ မရှိ၊ ဩပပါတိကသတ္တဝါတွေ ရှိ၊ မရှိ၊ ကံတွေရဲ့ အကျိုး ရှိ,မရှိဆိုတာကို မသင့်လျော်တဲ့နည်းနဲ့ မရှာချင်ပါနဲ့၊ ပရလောကတွေ၊ ဩပပါတိက သတ္တဝါတွေ၊ ကံ၊ ကံရဲ့အကျိုးတွေ ရှိတယ်ဆိုတာကို ယုံကြည်လိုက်ပါ''လို့ အရှင်မြတ်က အကျယ်တဝင့် ရှင်းပြပြီး ဆုံးမတော်မူခဲ့ပါတယ်။

ဒါပေမယ့်လည်း ပါယာသိမြို့စားမင်းဟာ သူ့ရဲ့ အယူအဆဟောင်းကို မစွန့်ခဲ့ပါဘူး။ ဒီအခါ အရှင်မြတ်က မြို့စားမင်းကို ဒီမှားယွင်းနေတဲ့ အမြင်အယူအဆ မစွန့်နိုင်တဲ့ အခြားအကြောင်းများ ရှိပါသေးသလားလို့ မေးခဲ့ပါတယ်။

မြို့စားမင်းက ''အရှင်ကဿပ၊ တပည့်တော်ရဲ့ ဝန်ထမ်းတွေက တစ်နေ့မှာ သူခိုးတစ်ယောက် ဖမ်းလာပြီး ပြစ်ဒဏ်စီရင်ပေးဖို့ တပည့်တော်ဆီ ခေါ်လာခဲ့ပါတယ်၊ ဒီအခါ တပည့်တော်က 'အမောင်တို့၊ ဒီသူခိုးကို အရှင်လတ်လတ် အိုးကြီးတစ်လုံးထဲ ထည့်၊ အပေါ် အိုးမျက်နှာဝကို သေချာပိတ်၊ သားရေနဲ့လည်း အပေါ်က ထပ်ပြီး ကြက်ထား၊ အဲဒီအပေါ်ကနေ မြေညက်တွေကို ထူထူလိမ်းကျံ၊

ပြီးတဲ့အခါ မီးဖိုပေါ်တင်ပြီး အိုးအောက်ကနေ မီးရှို့ မီးမြှိုက်လိုက်ကြ' လို့ အမိန့် ပေးလိုက်ပါတယ်၊ တပည့်တော်ရဲ့ ဝန်ထမ်းတွေလည်း တပည့်တော် ခိုင်းတဲ့အတိုင်း လုပ်ကြပါတယ်၊ အိုးထဲက သူခိုးသေလောက်ပြီလို့ မှန်းဆ သိနိုင်တဲ့အချိန်မှာ တပည့်တော်ဟာ အိုးကြီးကို မီးဖိုပေါ်ကနေ ချခိုင်း လိုက်ပြီ၊ အပေါ်က မြေညက်တွေ ခွာချပြီးတဲ့အခါ 'သူခိုးရဲ့ အသက် ထွက်လာတာကို မြင်ရမလား' ဆိုတဲ့ အတွေးနဲ့ အိုးအပေါက်ကို ဖြည်းဖြည်းချင်း ဖွင့်ခိုင်းပြီး ကြည့်ပါတယ် ဘုရား။ ဒီလို ကြည့်တဲ့အခါ သူခိုးရဲ့ အသက် ထွက်လာတာကို မမြင်ရပါ ဘုရား၊ ဒါကြောင့် တပည့်တော်ဟာ ပရလောက မရှိဆိုတဲ့ အယူအဆကို မစွန့်နိုင်တာပါ ဘုရား" လို့ ဖြေကြားခဲ့ပါတယ်။

## (၇) အိပ်မက်ဥပမာ

ဒီလို ဖြေကြားတဲ့အခါ အရှင်ကုမာရ ကဿပ မထေရ်က "မြို့စားမင်း… သင်ဟာ နေ့ခင်းပိုင်း တစ်ရေးတစ်မော အိပ်တဲ့အခါ ပျော်မွေ့ဖွယ်ရာ ကောင်းတဲ့ ဥယျာဉ် ပန်းခြံတွေ၊ သာယာဖွယ်ကောင်းတဲ့ တောတောင်တွေ၊ ရေကန်တွေကို မြင်မက်ဖူးပါသလား" လို့ မေးပါတယ်။ မြို့စားမင်းက မက်ဖူးတဲ့အကြောင်း ဖြေကြားလို့ အရှင်မြတ်က "မြို့စားမင်း… ဒီလို နေ့ပိုင်း အိပ်မက်မက်နေတဲ့အချိန် သင့်အနားမှာ သင့်ရဲ့ အထိန်းတော် အမျိုးသမီးတွေက သင့်ကို စောင့်ပေးနေကြပါသလား" လို့ ထပ်မေးပါတယ်။ မြို့စားမင်းက လည်း အထိန်းတော်အမျိုးသမီးတွေ သူ့ကို စောင့်ရှောက်ပေးနေတဲ့ အကြောင်း ဖြေကြားပါတယ်။

အရှင်မြတ်က "မြို့စားမင်း… ဒီလိုဆိုရင် သင့်ကို စောင့်ရှောက်ပေးနေတဲ့ အထိန်းတော် အမျိုးသမီးတွေက သင်ယူဆသလို သင့်ရဲ့ အသက်ကလေး ဥယျာဉ်၊ တော၊ တောင်၊ ရေကန်တွေဆီ



ထွက်သွားတာကိုရော၊ သင့်ဆီ ပြန်ဝင်လာတာကိုရော မြင်နိုင်ကြပါသလား" လို့ ဆက်မေးပါတယ်။ "ဒါကတော့ မဖြစ်နိုင်ပါ အရှင်ကဿပ" လို့ မြို့စားမင်းက ဖြေပါတယ်။ ဒီအခါ အရှင်မြတ်က "မြို့စားမင်း·· အသက်ရှင်ဆဲဖြစ်တဲ့ အထိန်းတော်တွေက အသက်ရှင်လျက် ရှိနေတဲ့ သင့်ရဲ့ အသက်ကလေး ထွက်သွားတာ၊ ပြန်ဝင်လာတာကိုမှ မမြင်နိုင်၊ မတွေ့နိုင်ရင် သေပြီးဖြစ်တဲ့ သူခိုးရဲ့ အသက်ဝင်တာ၊ ထွက်တာကို ဘယ်မှာ တွေ့နိုင်၊ မြင်နိုင်ပါ့မလဲ၊ ဒါကြောင့် သင့်ရဲ့ ပရလောက မရှိ စတဲ့ အယူအဆကို စွန့်လိုက်ပါ" လို့ မိန့်ကြားတော်မူပါတယ်။

ဒီနေရာမှာ အဋ္ဌကထာ ရှင်းပြချက်ကိုလည်း မှတ်ထားသင့်ပါတယ်။ ပါယာသိမြို့စားမင်းက လူတွေရဲ့ ခန္ဓာကိုယ်ထဲမှာ အသက်ကောင်၊ ဇီဝကောင်၊ ဝိညာဉ်ကောင်၊ လိပ်ပြာကောင်လေး ရှိတယ်လို့ မှားယွင်းစွာ ယူဆနေတာပါ။ သေသူရဲ့ ခန္ဓာကိုယ်ထဲမှာ ရှိတဲ့ အသက်ကောင်လေး ထွက်လာတာကို မြင်ရမယ်လို့ ထင်နေတာပါ။ သူခိုးရဲ့ ခန္ဓာကိုယ်ထဲက အသက်ထွက်လာတာကို သူ မမြင်ရတဲ့အတွက် နောက်ဘဝဆိုတာ မရှိဘူး၊ ဩပပါတိက သတ္တဝါဆိုတာ မရှိဘူး၊ ကံနဲ့၊ ကံရဲ့ အကျိုးတွေဆိုတာ မရှိဘူးလို့ ယူဆနေတာ ဖြစ်ပါတယ်။ ဒီနေရာမှာ သူယူဆတဲ့အတိုင်း အရှင်ကုမာရကဿပက အလိုက်သင့် အသက် ဝင်တာ၊ ထွက်တာ မြင်တွေ့ရရဲ့လားလို့ မေးတာ ဖြစ်ပါတယ်။ စို့ကြီးကို စို့လေးနဲ့ ရိုက်ထုတ်တဲ့သဘောပါလို့ သုတ်မဟာဝါအဋ္ဌကထာမှာ ရှင်းပြထားပါတယ်။

မြို့စားမင်းက "အရှင်ကဿပ… အရှင်ဘုရား ဘယ်လိုပင် ရှင်းပြပေမယ့်လည်း တပည့်တော်အယူအဆတော့ မစွန့်နိုင်သေးပါ" လို့ လျှောက်ထားပါတယ်။ အရှင်မြတ်က ဒီလို မစွန့်နိုင်သေးတဲ့ အခြား အကြောင်းများ ရှိပါသလားလို့ မေးပါတယ်။ ဒီအခါ မြို့စားမင်းက

''အရှင်ကဿပ၊ တပည့်တော်ရဲ့ အမှုထမ်းတွေက သူခိုး နောက် တစ်ယောက်ဖမ်းမိလို့ ပြစ်ဒဏ်စီရင်ပေးဖို့ တပည့်တော်ဆီ ခေါ်လာ တဲ့အခါ 'အမောင်တို့၊ သူခိုးကို အသက်ရှင်နေတုန်းမှာပဲ အလေးချိန် ဘယ်လောက်ရှိလဲ ဆိုတာ ချိန်လိုက်ပါ၊ ပြီးတဲ့အခါ သူ့ကို လေးမှာ တပ်တဲ့ ကြိုးနဲ့ လည်ပင်းမှာ ရစ်ပတ်ပြီး သေအောင် လုပ်လိုက်ပါ၊ သေပြီးတဲ့အခါ သူ့ကို တစ်ခါထပ်ပြီး အလေးချိန် ချိန်လိုက်ပါ' လို့ ခိုင်းလိုက်ပါတယ်၊ တပည့်တော်ရဲ့ အမှုထမ်းတွေကလည်း တပည့် တော် ခိုင်းတဲ့အတိုင်း လုပ်ကြပါတယ် ဘုရား၊ ဒီအခါ မသေခင်မှာ အလေးချိန်က ပေါ့ပါး၊ ခန္ဓာကိုယ်ကလည်း ပျော့ပျောင်းနေပါတယ်၊ သေပြီးတဲ့နောက်မှာတော့ အလေးချိန်က ပိုလေးသွားတယ်၊ ခန္ဓာကိုယ် ကလည်း တောင့်တင်းခိုင်မာသွားတယ် ဘုရား၊ ဒီလို အသက်ရှင်နေ တုန်းမှာ ပေါ့ပါးနေပြီး သေပြီးတဲ့နောက်မှာ ပိုပြီး လေးနေတာကို တွေ့ရတဲ့အတွက်ကြောင့် တပည့်တော်ဟာ နောက်ဘဝ ပရလောက ဆိုတာ မရှိဘူး၊ ဩပပါတိကသတ္တဝါဆိုတာ မရှိဘူး၊ ကံနဲ့၊ ကံရဲ့ အကျိုးဆိုတာ မရှိဘူးလို့ ယူဆပါတယ် ဘုရား'' လို့ သူ့အယူအဆ မစွန့်နိုင်တဲ့ အကြောင်းကို ရှင်းပြပါတယ်။

မြို့စားမင်း ခုလို ရှင်းပြတာကို ပိုနားလည်စေဖို့ အဋ္ဌကထာက ခုလို ရှင်းပြထားပါတယ်။ မြို့စားမင်းက 'သတ္တဝါတွေဟာ အသက် ရှင်နေစဉ်မှာ ခန္ဓာငါးပါး ရှိတယ်၊ အလေးချိန် ပိုနေရမှာ။ သေသွား ပြီးရင် ဝေဒနာ၊ သညာ၊ သင်္ခါရ ဆိုတဲ့ နာမ်ခန္ဓာ သုံးပါးက ချုပ်သွား တယ်၊ စိတ် ဝိညာဉ်ဆိုတဲ့ ခန္ဓာက နောက်ဘဝကို ရွှေ့သွား၊ ပြောင်း သွားတယ်။ ရုပ်ခန္ဓာ တစ်ခုပဲ ကျန်တော့တာ။ ဒါဆိုရင် သေပြီးတဲ့ အလောင်းကောင်ရဲ့ အလေးချိန်က ပေါ့ပါးနေရမှာ' လို့ ထင်နေတာ ဖြစ်ပါတယ်။ ခုတော့ အဲဒီလို မဟုတ်ဘဲ 'အလောင်းကောင်မှာ အလေး ချိန် တိုးနေတာ ထောက်ရင် သူက ဒီဘဝ ခန္ဓာမှာရှိတဲ့ ခန္ဓာငါးပါးဟာ နောက်ဘဝကို မပြောင်းဘူးလို့ ယူဆပြီး ပရလောကမရှိ၊ သေပြီးတဲ့



နောက် ဘဝပြတ်သွားပြီလို့ အယူမှားနေတာ ဖြစ်ပါတယ်' လို့ အဋ္ဌကထာက ရှင်းပြထားပါတယ်။

နောက်ပြီး ဘာသာဋီကာ ဆရာတော်ကလည်း 'ပါယာသိ မြို့စားမင်း ပြောသလို ဘဝတစ်ပါးသို့ ပြောင်းသွားတဲ့ သတ္တဝါ မရှိသည်မှာ မှန်၏၊ သို့ရာတွင် အနန္တရပစ္စည်း၊ နာနာက္ခဏိက ကမ္မပစ္စည်းတို့ဖြင့် ရုပ်နာမ်အစဉ်အဆက် ကျေးဇူးပြုလျက် ဤဘဝက ကံကြောင့် နောက်ဘဝဝယ် ရုပ်သစ်၊ နာမ်သစ် ဖြစ်ပုံကို အဘိဓမ္မာ သဘောအရ သတိပြုပါလေ' လို့ ပရလောက ရှိပုံကို မှတ်ချက်ပြု ရှင်းပြထားပါတယ်။

## (၈) သံတွေခဲ ဥပမာ

ဆက်လက်ပြီး အရှင်မြတ်က ''မြို့စားမင်း··· ဥပမာတစ်ခု ပြောမယ်၊ လူတစ်ယောက်ဟာ တစ်နေ့လုံး နီနီရဲရဲ မီးစွဲပြီး အလျှံ တပြောင်ပြောင် တောက်လောင်နေတဲ့ သံတုံး သံတွေခဲကို အလေးချိန် ချိန်ကြည့်ပါတယ်၊ ဒီသံတုံး သံတွေခဲကိုပဲ မီးငြိမ်းပြီး အေးသွားတဲ့အခါ အလေးချိန် တစ်ခါ ထပ်ချိန်ပါတယ်၊ ဘယ်အချိန်မှာ ချိန်တဲ့ သံတုံး သံတွေခဲက ပိုပြီး ပေါ့ပါး နူးညံ့နေမလဲ၊ ရဲရဲညီး မီးလောင်နေတဲ့ အခါ ချိန်တဲ့ သံတုံးသံတွေခဲကပဲ ပေါ့ပါး နူးညံ့နေမလား၊ ဒါမှမဟုတ် အေးသွားတဲ့အခါ ချိန်တဲ့ သံတုံး သံတွေခဲကပဲ ပေါ့ပါးနူးညံ့နေမလား'' လို့ ပါယာသိမြို့စားမင်းကို မေးခွန်း မေးလိုက်ပါတယ်။

မြို့စားမင်းက ''အရှင် ကဿပ··· သံတုံး သံတွေခဲဟာ အပူဆိုတဲ့ တေဇောဓာတ်နဲ့လည်း အတူတကွဖြစ်၊ လေဆိုတဲ့ ဝါယော ဓာတ်နဲ့လည်း အတူတကွဖြစ်ပြီး ရဲရဲညီး မီးတောက်လောင်နေတဲ့ အခါမှာ ပိုပြီး ပေါ့လည်း ပေါ့ပါး၊ နူးလည်း နူးညံ့ပါတယ်၊ တေဇော ဓာတ်လည်း မရှိ၊ ဝါယောဓာတ်လည်း မရှိတော့ဘဲ မီးငြိမ်းပြီး

အေးသွားတဲ့အခါမှာတော့ လေးလံပြီး ခက်ထန်မာကျောသွားပါတယ်'' လို့ ဖြေပါတယ်။

ဒီအခါ အရှင်မြတ်က ''မြို့စားမင်း... ဒီဥပမာလိုပဲ ဒီ ခန္ဓာကိုယ်ကြီးဆိုတာ ဇီဝိတိန္ဒြေဆိုတဲ့ အသက်နဲ့လည်း အတူတကွဖြစ်၊ တေဇောဓာတ်လို့ခေါ်တဲ့ ကိုယ်ငွေ့နဲ့လည်း အတူတကွဖြစ်၊ စိတ်ဝိညာဉ် နဲ့လည်း အတူတကွ ဖြစ်နေတဲ့အခါ ပိုပြီး ပေါ့ပါးတယ်၊ ပိုပြီး နူးညံ့ တယ်၊ အဲ... ဇီဝိတိန္ဒြေဆိုတဲ့ အသက်လည်း မရှိ၊ တေဇောဓာတ် ခေါ်တဲ့ ကိုယ်ငွေ့လည်း မရှိ၊ စိတ်ဝိညာဉ်လည်း မရှိတော့တဲ့အခါမှာ တော့ ဒီ ခန္ဓာကိုယ်ကြီးဟာ ပိုပြီး လေးလံသွားတယ်၊ ပိုပြီး တောင့်တင်း ကြမ်းတမ်းသွားတယ်၊ ဒါကြောင့် သင့်ရဲ့ မှားယွင်းနေတဲ့ ပရလောက မရှိဆိုတဲ့ အယူအဆကို စွန့်ပြီး ပရလောကဆိုတာ ရှိတယ်၊ ဩပပါတိက သတ္တဝါတွေဆိုတာ ရှိတယ်၊ ကံနဲ့ ကံရဲ့ အကျိုးဆိုတာ ရှိတယ်လို့ လက်ခံယုံလိုက်ပါ'' လို့ သံတုံး သံတွေခဲ ဥပမာနဲ့ ရှင်းပြပါတယ်။

ဒီအခါမှာလည်း မြို့စားမင်းက ''အရှင် ကဿပ... အရှင် ဘုရား ခုလို ရှင်းပြပေမယ့်လည်း တပည့်တော်မှာတော့ ပရလောက မရှိဆိုတဲ့ အယူအစွဲက ရှိနေတုန်းပါပဲ'' လို့ လျှောက်ပြန်ပါတယ်။ ''ဒါဆိုရင် သင့်မှာ ဘယ်လို အကြောင်းပြချက် ရှိနေသေးလို့ ဒီ အယူအစွဲ ဆက်ဖြစ်နေရတာတုံး'' လို့ အရှင်မြတ်က ဆက်မေး ပါတယ်။

မြို့စားမင်းက ''အရှင်ကဿပ... တစ်ခါမှာတော့ တပည့် တော်ရဲ့ အမှုထမ်းတွေက သူခိုး တစ်ယောက်ကို ဖမ်းလာပြီး စီရင်ချက် ချပေးဖို့ တပည့်တော်ဆီ ခေါ်လာပါတယ်၊ ဒီအခါ တပည့်တော်က 'အမောင်တို့ ... ဒီ သူခိုးကို အရေပါးတွေကိုလည်း မထိခိုက် မပျက်စီးစေဘဲ၊ အရေထူတွေ အသားတွေ အကြောတွေ အရိုးတွေ



ရိုးတွင်းခြင်ဆီတွေကိုလည်း မထိခိုက် မပျက်စီးစေဘဲ အသက် သေ အောင် သတ်ကြ၊ သူ့အသက် ထွက်တာကို တို့တစ်တွေ မြင်လိုမြင်ရငြား ကြည့်ကြတာပေါ့' လို့ စေခိုင်းလိုက်ပါတယ်၊ အမှုထမ်းတွေလည်း တပည့်တော် ခိုင်းတဲ့အတိုင်း သူခိုးကို အသက်သေအောင် သတ်ဖို့ စီမံကြပါတယ်၊ တပည့်တော်ဟာ ဒီသူခိုး သေလုမြောပါးဖြစ်ပြီး သေခါနီး ဖြစ်ပြီလို့ မှန်းဆမိတဲ့ အခါ အမှုထမ်းတွေကို 'အမောင်တို့... ဒီသူခိုးကို ပက်လက်လှန်ထားလိုက်ပါ၊ သူ့အသက် ထွက်တာကို တွေ့လို တွေ့ငြားပေါ့' လို့ စေခိုင်းပါတယ်၊ အမှုထမ်းတွေလည်း သူခိုးကို ပက်လက်အနေအထားနဲ့ ထားလိုက်ပါတယ်၊ ဒါပေမယ့် သူခိုးရဲ့ အသက် ထွက်တာကို တပည့်တော်တို့ မတွေ့ရဘူး ဘုရား။

ဒါနဲ့ အမှုထမ်းတွေကို 'အမောင်တို့... ဒီသူခိုးကို မှောက် လျက် အနေအထား၊ ဘယ်စောင်း အနေအထား၊ ညာစောင်း အနေအထား ထားလိုက်ကြ၊ မတ်တတ်ရပ်အနေအထား ထောင်ထား လိုက်ကြ၊ ဦးခေါင်းဇောက်ထိုး တွဲလောင်းအနေအထား ထားလိုက်ကြ၊ လက်နဲ့ လှုပ်ခါကြ၊ ခဲတွေ တုတ်တွေနဲ့ ခေါက်ကြည့်ကြ၊ ဓားနဲ့ ရိုက်ပုတ်ကြည့်ကြ၊ အတွင်းရော၊ အပြင်ရော လှုပ်ခါကြည့်ကြ၊ သူ့အသက် ဘယ်က ထွက်မလဲဆိုတာ သိရအောင်' ဆိုပြီး အမျိုးမျိုး ခိုင်းကြည့်ပါတယ်၊ အမှုထမ်းတွေလည်း တပည့်တော်ခိုင်းတဲ့အတိုင်း အကုန်လုပ်ပြပါတယ်၊ ဒါပေမယ့် သူခိုးရဲ့ အသက်ထွက်တာကို တပည့်တော် မမြင်ရပါ ဘုရား။

ဒီအချိန်မှာ သူခိုးမှာ မျက်စိလည်း ရှိသေးတယ်၊ မြင်စရာ အဆင်းလည်း ရှိနေတယ်၊ မျက်စိနဲ့ အဆင်းရှိနေပေမယ့်လည်း ဒီသူခိုးဟာ အဆင်းရူပါရုံကို မမြင်နိုင် မခံစားနိုင်တော့ပါ ဘုရား၊ ဒီအတူပဲ နားရော အသံရော ရှိနေပေမယ့် အသံကို မကြားနိုင် မခံစားနိုင်တော့ပါ၊ နှာခေါင်းရော အနံ့ရော ရှိနေပေမယ့် အနံ့ကို

မနံနိုင် မခံစားနိုင်တော့ပါ၊ လျှာရော အရသာရော ရှိနေပေမယ့် အရသာကို မသိနိုင် မခံစားနိုင်တော့ပါ၊ ကိုယ်ရော၊ အတွေ့ဖောဋ္ဌဗ္ဗရော ရှိနေပေမယ့် သူခိုးဟာ အတွေ့ ဖောဋ္ဌဗ္ဗကို မသိနိုင် မခံစားနိုင်တော့ပါ ဘုရား၊ အခုလို သူခိုးရဲ့ အသက်ထွက်တာ ကို မမြင်ရတာရယ်၊ မျက်စိတွေ၊ နားတွေ ရှိနေပါရက် အာရုံကို မခံစားနိုင်တော့တာရယ်၊ ဒီအကြောင်းတွေကြောင့် ဘဝဆိုတာ သေပြီးရင် ပြတ်သွားပြီ၊ နောက်ဘဝ ပရလောကဆိုတာ မရှိလို့ တပည့်တော် ယူဆနေရခြင်း ဖြစ်ပါတယ် ဘုရား'' လို့ ရှင်းလင်း လျှောက်ထားပါတယ်။

( မြို့စားမင်းရဲ့ အကြောင်းပြချက်ကို ရှင်းသထက် ရှင်းအောင် ဘာသာဋီကာ ဆရာတော် ကောက်ချက် ချပြထားတာကိုလည်း ဖော်ပြပေးပါ့မယ်။ ဘာသာဋီကာ ဆရာတော်က 'မသေမီက ထို မျက်စိ-စက္ခုပသာဒပင် ရှိ၏ဟု ပြောခြင်းမှာ သူ၏ (မြို့စားမင်း၏) အယူအဆ ဖြစ်၏။ အမှန်မှာ မျက်လုံး ရှိသေးသော်လည်း ကမ္မဇရုပ်များ ချုပ်ပြီးဖြစ်၍ စက္ခုပသာဒ မရှိတော့ပါ၊ သို့အတွက် မခံစားနိုင်ခြင်း ဖြစ်သည်။ မြို့စားမင်းကမူ 'စက္ခုပသာဒတို့ မပျက်စီး သေးဘဲ ဆက်လက်တည်နေ၏' ဟု ယူဆပြီး 'န ပဋိသံဝေဒေတိ - မခံစားနိုင်' ဟု ပြော၏။ သူ့ဆိုလိုရင်းမှာ-- စက္ခုပသာဒ စသည်တို့ မပျက်စီးသေးသောကြောင့် အာရုံကို ခံစားနိုင်ရမည် ဖြစ်၏။ ယခုလို မခံစားနိုင်ပုံကို ထောက်လျှင် သေလျှင် ပြတ်တော့၏-ဟု မဆီမဆိုင် အကြောင်းပြလေသည်' လို့ ရှင်းပြထားပါတယ်။ )

### (၉) ခရုသင်းမှုတ်သမား ဥပမာ

ဒီအခါ အရှင်မြတ်က ''မြို့စားမင်း··· ဒီလိုဆိုရင် သင့်ကို ဥပမာတစ်ခု ပြောပြမယ်။ ဥပမာနဲ့ ပြောရင် အဓိပ္ပာယ်ကို အလွယ် တကူ နားလည်လွယ်တယ်၊ မြို့စားမင်း··· ရှေးအခါက ခရုသင်း



မှုတ်တတ်တဲ့ လူတစ်ယောက်ဟာ ခရုသင်း ယူပြီး အစွန်အဖျားကျတဲ့ ပစ္စန္တရစ် တောနယ်ဘက်ဆီ ထွက်လာခဲ့ပါတယ်၊ အဲဒီလူဟာ ရွာတစ်ရွာရောက်လို့ ရွာလယ်ကောင်မှာ ရပ်ပြီးနောက် ခရုသင်း သုံးကြိမ်သုံးခါ မှုတ်ပြီး ခရုသင်းကို ကြမ်းပြင်ပေါ် ချကာ နားနေလိုက် ပါတယ်၊ ဒီအခါ ရွာသားတွေဟာ သာယာဖွယ်ကောင်းတဲ့ ခရုသင်းသံ ကြားတာနဲ့ ဝိုင်းအုံလာကြပြီး 'အမောင်··· ခုနက အသံလေးက အတော်လေး သာယာနာပျော်ဖွယ်၊ နှစ်သက်ဖွယ်၊ စွဲမက်ဖွယ်ကောင်း တာပဲ၊ ဒီအသံက ဘယ်က ထွက်ပေါ်လာတဲ့ အသံလဲ' ဆိုပြီး ခရုသင်း ပိုင်ရှင် လူကို မေးကြတယ်။ ခရုသင်း ပိုင်ရှင်က 'အို··· အမောင် တို့၊ ဒါကို ခရုသင်းလို့ ခေါ်တယ်၊ စောစောက သင်တို့ ကြားလိုက် တဲ့ အသံဟာ ဒီ ခရုသင်းရဲ့ အသံပဲ' လို့ ဖြေပါတယ်။

ဒီအခါ တောနယ် ရွာသားတွေဟာ အဲဒီ ခရုသင်းကို 'အို··· ခရုသင်း၊ အသံ မြည်ပါလော့၊ အို··· ခရုသင်း၊ အသံမြည်ပါလော့' လို့ ဆိုပြီး ပက်လက်လှန်လေး ထားလိုက်ကြတယ်၊ ဒါပေမယ့် ခရုသင်းက အသံထွက်မလာပါဘူး၊ ဒါနဲ့ ရွာသားတွေဟာ ခရုသင်းကို မှောက်လျက် အနေအထား၊ ဘယ်စောင်း အနေအထား၊ ညာစောင်း အနေအထား၊ ထောင်လျက် အနေအထား၊ ဇောက်ထိုး အနေအထား အမျိုးမျိုးထားပြီး လက်နဲ့ ပုတ်ကြည့်လိုက်၊ ခဲတွေ တုက်တွေ၊ ဓားတွေနဲ့ ခေါက်ကြည့်လိုက် လုပ်ကြတယ်၊ 'အို··· ခရုသင်း၊ အသံမြည်ပါ လော့၊ အို··· ခရုသင်း၊ အသံမြည်ပါလော့' လို့ ဆိုပြီး ခရုသင်းကို ခါကြည့်၊ လှုပ်ကြည့် အမျိုးမျိုး လုပ်ကြည့်ကြတယ်၊ ဒါပေမယ့် ခရုသင်းက သူတို့ ကြားချင်တဲ့ သာယာတဲ့ အသံ ထွက်မလာပါဘူး။

မြို့စားမင်း··· ဒီအခါ ခရုသင်းမှုတ်တတ်သူရဲ့ စိတ်ထဲမှာ 'သြော်··· ပစ္စန္တရစ် တောနယ်က လူတွေဟာ အတော်လေး မသိနား မလည်ကြဘဲကိုး၊ ဘယ့်နှယ်ကြောင့် ဒီ ခရုသင်းရဲ့ အသံကို မသင့်

တော်တဲ့နည်းနဲ့ ရှာကြပါလိမ့်' လို့ တွေးမိသွားတယ်၊ ဒီနောက်တော့ ခရုသင်းမှုတ်သမားဟာ ရွာသားတွေ ဝိုင်းကြည့်နေတုန်းမှာပဲ ခရုသင်းကို ကောက်ကိုင်လိုက်ပြီး သုံးကြိမ် သုံးခါ မှုတ်ကာ ခရီး ဆက်ထွက်သွားပါတော့တယ်။

ဒီအခါကျမှ ရွာသားတွေဟာ 'သြော်... ခရုသင်းဆိုတာ မှုတ်သူလည်း ရှိမှ၊ လုံ့လလည်း စိုက်မှ၊ လေလည်း ရှိပါမှ အသံ-မြည်တာပဲ၊ မှုတ်သူလည်း မရှိ၊ လုံ့လလည်း မစိုက်၊ လေလည်း မရှိခဲ့ရင် အသံ မမြည်ဘဲကိုး' လို့ နားလည်သဘောပေါက်သွားတော့တယ်။

မြို့စားမင်း... ဒီဥပမာလိုပဲ ဒီ ခန္ဓာကိုယ်ကြီးဆိုတာ အသက်လည်း ရှိမှ၊ ကိုယ်ငွေ့လည်း ရှိနေမှ၊ စိတ်ဝိညာဉ်လည်း ရှိနေမှ ရွေ့သွားလို့ ရတယ်၊ နောက်ဆုတ်လို့လည်း ရတယ်၊ ထိုင်လို့လည်း ရတယ်၊ ရပ်လို့လည်း ရတယ်၊ အိပ်လို့လည်း ရတယ်၊ မျက်စိနဲ့လည်း အဆင်းကို မြင်နိုင်တယ်၊ နားနဲ့လည်း အသံ ကြားနိုင်တယ်၊ နှာခေါင်းနဲ့လည်း အနံ့ နံလို့ရတယ်၊ လျှာနဲ့လည်း အရသာ ခံလို့ရတယ်၊ ကိုယ်နဲ့လည်း အတွေ့ဖောဋ္ဌဗ္ဗကို ထိတွေ့လို့ရတယ်၊ စိတ်နဲ့လည်း အာရုံတွေကို သိနိုင်တယ်၊ အဲဒီ ခန္ဓာကိုယ်ကြီးမှာ အသက်လည်း မရှိတော့ဘူး၊ ကိုယ်ငွေ့လည်း မရှိတော့ဘူး၊ စိတ်ဝိညာဉ်လည်း မရှိတော့ဘူး ဆိုရင်တော့ ရွေ့လည်း သွားလို့ မရ၊ နောက်လည်း ဆုတ်လို့ မရ၊ ရပ်တာ၊ ထိုင်တာ၊ လျောင်းတာတွေလည်း လုပ်လို့ မရတော့၊ မျက်စိနဲ့လည်း အဆင်းကို မမြင်နိုင်၊ နားနဲ့လည်း အသံကို မကြားနိုင်၊ နှာခေါင်းနဲ့လည်း အနံ့ကို နမ်းရှုလို့ မရ၊ လျှာနဲ့လည်း အရသာကို မသိနိုင်၊ ကိုယ်နဲ့လည်း အတွေ့ဖောဋ္ဌဗ္ဗကို မထိတွေ့နိုင်၊ စိတ်နဲ့လည်း အာရုံတွေကို မသိနိုင်တော့။

ဒါကြောင့် သင်ဟာ နောက်ဘဝ ပရလောကဆိုတာ ရှိတယ်၊ ဩပပါတိကသတ္တဝါတွေ ဆိုတာ ရှိတယ်၊ ကံ နဲ့ ကံရဲ့ ဆိုးကျိုး၊ ကောင်းကျိုးတွေဆိုတာ ရှိတယ်လို့ ယုံကြည်လိုက်ပါ'' လို့ ခရုသင်းမှုတ်သမား ဥပမာနဲ့ ရှင်းပြပြောဆိုပါတယ်။



ဒီအခါမှာလည်း ပါယာသိ မြို့စားမင်းက သူ့အယူအဆ မစွန့်နိုင်သေးတဲ့အကြောင်းပဲ ပြန်လည် လျှောက်ထားတဲ့အတွက် အရှင်မြတ်က သင့်အယူအဆ မစွန့်နိုင်တဲ့ နောက်ထပ် ပြစရာအကြောင်း ရှိပါသေးသလားလို့ မေးလိုက်ပါတယ်။

မြို့စားမင်းက ''အရှင်ကဿပ၊ တပည့်တော်ရဲ့ အမှုထမ်းတွေက သူခိုးတစ်ယောက် ဖမ်းလာပြီး ပြစ်ဒဏ် စီရင်ပေးဖို့ ခေါ်လာတဲ့အခါ တပည့်တော်က 'အမောင်တို့၊ ဒီသူခိုး ခန္ဓာကိုယ်က အပေါ်အရေပါးကို ဖြတ်တောက်ပြီး လှန်လိုက်ကြ၊ သူ့ရဲ့ အသက်ကို တွေ့လိုတွေ့ငြားပေါ့' ဆိုပြီး ခိုင်းပါတယ်၊ အမှုထမ်းတွေကလည်း တပည့်တော်ခိုင်းတဲ့အတိုင်း လုပ်ကြပါတယ်၊ ဒါပေမယ့် အပေါ်ရေတစ်လွှာလွှာလိုက်ပေမယ့် သူ့ရဲ့ အသက်ကို မတွေ့ပါ ဘုရား။

ဒါနဲ့ တပည့်တော်က ဆက်ပြီး 'အောက်က အရေထူကို ဆက်လွှာပြီး လှန်လိုက်ကြ၊ အသားကို ဖြတ်ပြီး လှန်လိုက်ကြ၊ အကြောတွေကို ဖြတ်လိုက်ကြ၊ အရိုးကို ဖြတ်လိုက်ကြ၊ ရိုးတွင်းခြင်ဆီကို ထုတ်ကြည့်ကြ၊ ဘယ်နားမှာ ဒီသူခိုးရဲ့ အသက်ရှိမလဲ သိရအောင်ပေါ့' ဆိုပြီး အမှုထမ်းတွေကို တစ်ခုချင်း ဆက်လုပ်ခိုင်းပါတယ်၊ အမှုထမ်းတွေလည်း တပည့်တော်ခိုင်းတဲ့အတိုင်း တစ်သဝေမတိမ်း လုပ်ကြပါတယ်၊ ဒါပေမယ့် ဘယ်နေရာမှာမှ သူခိုးရဲ့ အသက်ကို ရှာမတွေ့ခဲ့ပါ ဘုရား၊ အခုလို နောက်ဘဝ ပြောင်းစရာ အသက်ရှာမတွေ့တဲ့အတွက်ကြောင့် တပည့်တော်က ပရလောကဆိုတာ မရှိ၊ ဩပပါတိက သတ္တဝါတွေ ဆိုတာ မရှိ၊ ကံ နဲ့ ကံရဲ့ အကျိုးတွေဆိုတာ မရှိလို့ ယူဆနေခြင်း ဖြစ်ပါတယ် ဘုရား'' လို့ သူ့အယူ မစွန့်နိုင်တဲ့အကြောင်း ရှင်းပြ လျှောက်ထားပါတယ်။

## (၁၀) မီးမပြတ်ပူဇော်သည့် ရသေ့ ဥပမာ

အရှင်မြတ်က ဒါဆိုလည်း ဥပမာနဲ့ နားလည်အောင် ရှင်းပြပါဦးမယ် ဆိုပြီး ခုလို ရှင်းပြပါတယ်။ ““မြို့စားမင်း… ရှေးအခါက မီးနတ်ပူဇော်တဲ့အနေနဲ့ မီးကို အဆက်မပြတ် ထွန်းညှိပူဇော်ပြီးနေတဲ့ ရသေ့တစ်ပါးဟာ တောထဲမှာ သစ်ခက်မိုးကျောင်းလေးနဲ့ နေပါတယ်၊ တစ်နေ့မှာ လှည်းကုန်သည်တွေဟာ ရသေ့ရဲ့ ကျောင်းသခ်မ်းနဲ့ မလှမ်းမကမ်း တစ်နေရာမှာ တစ်ည စခန်းချ နားပြီး ခရီးဆက် ထွက်သွားကြပါတယ်၊ ရသေ့လည်း မနက်မိုးလင်းတဲ့အခါ သူ့အတွက် အသုံးတည့်မယ့် ပစ္စည်းတစ်ခုတလေ ရလို ရငြား လှည်းကုန်သည်တွေ စခန်းချသွားတဲ့ နေရာကို ပစ္စည်းရှာ ထွက်ခဲ့ပါတယ်၊ အဲဒီမှာ ရသေ့ဟာ လှည်းကုန်သည်တွေ စွန့်ပစ်ခဲ့တဲ့ ပက်လက်ပဲ အိပ်တတ် သေးပြီး မသွားနိုင်သေးတဲ့ ကလေးငယ် တစ်ယောက်ကို တွေ့လိုက်ပါတယ်၊ ဒါနဲ့ ရသေ့လည်း သနားပြီး အဲဒီကလေးကို ကျောင်းယူလာကာ ကျွေးမွေးစောင့်ရှောက် ပြုစုခဲ့ပါတယ်၊ ဒီလိုနဲ့ အဲဒီကလေးဟာ ၁၀-နှစ်၊ ၁၂-နှစ် အရွယ် ရောက်လာခဲ့တယ်။

တစ်ခါမှာတော့ ရသေ့လည်း ရွာထဲ သွားစရာ ကိစ္စတစ်ခု ပေါ်လာတာနဲ့ ကလေးကို ‘ချစ်သား… ငါ ရွာထဲ သွားလိုက်ဦးမယ်၊ မီးကို မပြတ်ပူဇော်ပါ၊ မီး မငြိမ်းပါစေနဲ့၊ တကယ်လို့ မီးငြိမ်းသွားရင် ဒါက ဓား၊ ဒါက ထင်း၊ ဒါက မီးပွတ်ခုံ ပွတ်ကျည်အစုံ ဖြစ်တယ်၊ မီးရအောင် လုပ်ပြီး မီးကို မပြတ်ထွန်းညှိ ပူဇော်ပါ’ လို့ မှာကြားပြီး ရွာထဲ သွားခဲ့ပါတယ်၊ ဒါပေမယ့် ကလေးက အဆော့မက်လို့ အဆော့ လွန်ပြီး မီးပုံထဲ ထင်းမထည့်မိတာနဲ့ မီးငြိမ်းသွားခဲ့တယ်၊ ဒါနဲ့ အဲဒီ ကလေးဟာ သူ့ ခမည်းတော်ရသေ့ မှာတဲ့အတိုင်း မီး ဆက်ပူဇော်မယ် ဆိုပြီး မီးရဖို့အတွက် မီးပွတ်ခုံ မီးပွတ်ကျည်ကို ဓားနဲ့ ခွဲကြည့်ပါတယ်။ မီးထွက်လာမလားဆိုတဲ့ အတွေးနဲ့ပေါ့၊ ဒါပေမယ့် သူလိုချင်တဲ့ မီးမရခဲ့



ပါဘူး၊ ဒီလိုနဲ့ ဒီကလေးဟာ မီးရဖို့အတွက် မီးပွတ်ခုံ မီးပွတ်ကျည်ကို နှစ်ပိုင်း ပိုင်းကြည့်တယ်၊ သုံးပိုင်း၊ လေးပိုင်း၊ ငါးပိုင်း၊ ဆယ်ပိုင်း၊ အပိုင်း တစ်ရာ၊ အစိတ်စိတ် အမွှာမွှာ ဖြစ်အောင် တစ်ခုပြီး တစ်ခု လုပ်ကြည့်တယ်၊ နောက်ဆုံး အဲဒီ သစ်သားစိတ်တွေကို ဆုံထဲ ထည့် ထောင်းကြည့်တယ်၊ သစ်သားမှုန့်တွေကို လေထဲ ဖြန့်ကြဲ လွှင့်ကြည့် တယ်၊ ဒါပေမယ့် မီးက ထွက်မလာခဲ့ပါဘူး။

အဲဒီအချိန်မှာ ရသေ့ဟာ ရွာထဲကနေ ကျောင်းပြန်ရောက် လာပြီး ‘ချစ်သား… ဘယ့်နှယ်လဲ၊ မီး မငြိမ်းဘူး မဟုတ်လား’ လို့ ကလေးကို မေးပါတယ်။ ကလေးက သူ အဆော့လွန်နေတဲ့ အတွက် မီး ငြိမ်းသွားတဲ့အကြောင်း၊ နောက်ပြီး မီးဆက်ပူဇော်ဖို့ရန် အတွက် သူ ဘယ်လို မီးရအောင် ကြိုးစား အားထုတ်တဲ့အကြောင်း တွေကို စုံအောင် ပြောပြပါတယ်၊ ဒီအခါ ရသေ့က ‘သြော်… ဒီကလေး ဘာမှ မသိနားမလည်သေးဘဲကိုး၊ ဘယ့်နှယ်ကြောင့် မလျော်ကန်တဲ့နည်းနဲ့ မီး ရှာပါလိမ့်’ လို့ တွေးပြီး ဒီကလေးရှေ့မှာ တင်ပဲ မီးပွတ်ခုံနဲ့ မီးပွတ်ကျည်ကို ယူကာ မီးထွက်လာအောင် ပွတ်တိုက်လိုက်တယ်၊ မီးထွက်လာတဲ့အခါ ‘ချစ်သား… မီးဆိုတာ ဒီလို ပွတ်ခုံသစ်သားနဲ့ ပွတ်ကျည်သစ်သားကို အဆက် မပြတ် ပွတ်တိုက်ပါမှ ထွက်တာ၊ မီးကို ဒီနည်းနဲ့ ရှာရတယ်၊ သင်က မလျော်ကန်တဲ့နည်းနဲ့ မီးရှာတာ ဆိုတော့ ဘယ်မှာ ရနိုင်ပါ့မလဲ’ လို့ ဆုံးမစကား ဆိုခဲ့ပါတယ်။

မြို့စားမင်း… ဒီဥပမာလိုပဲ သင်ဟာ ဘာမှ မသိနားမလည် ဘဲ မလျော်ကန် မသင့်မြတ်တဲ့နည်းနဲ့ ပရလောကကို ရှာနေတာ ဖြစ်တယ်၊ ဒါကြောင့် သင့်ရဲ့ မှားယွင်းနေတဲ့ ဒီအယူအဆကို စွန့် လိုက်ပါ၊ ဒါမှ နောင်သံသရာမှာ သင် ဒုက္ခမရောက်မှာ”” လို့ အရှင်မြတ်က ရှင်းပြပြီး ဆုံးမခဲ့ပါတယ်။

ဒီအခါ မြို့စားမင်းက "အရှင် ကဿပ··· အရှင်ဘုရား ဘယ်လိုပင် ရှင်းပြ ရှင်းပြ တပည့်တော်ကတော့ တပည့်တော်ရဲ့ အယူအဆကို မစွန့်နိုင်ပါ ဘုရား၊ တပည့်တော် ဒီလို ပရလောက မရှိလို့ ယုံကြည်တဲ့ အယူအဆရှိတာကို ပသေနဒီ ကောသလမင်းလည်း သိတယ်၊ တိုင်းတစ်ပါး မင်းတွေလည်း သိကြပါတယ် ဘုရား၊ ခုနေခါမှာ တပည့်တော် ဒီအယူအဆကို စွန့်လိုက်မယ်ဆိုရင် 'သြော်··· ပါယာသိမြို့စားမင်းဟာ အတော်ဖျင်းအတဲ့သူပဲ၊ ဘာမှ မသိနားမလည်တဲ့သူပဲ၊ ဘာမှ တည်တည်တံ့တံ့ မရှိဘဲ တွေ့ကရာ အယူလျှောက်ယူနေတဲ့သူပဲ' လို့ အများက ကဲ့ရဲ့ကြပါလိမ့်မယ်၊ ဒါကြောင့် တပည့်တော် အရှင်ဘုရားနဲ့ အတိုက်အခံ လုပ်ပြီးတော့ကိုပဲ ယူလက်စ အယူကို ဆက်ယူရပါလိမ့်မယ်" လို့ အယူ မစွန့်နိုင်တဲ့အကြောင်း ပြောခဲ့ပါတယ်။

## (၁၁) လှည်းကုန်သည်မှူး နှစ်ဦး ဥပမာ

အရှင်မြတ်က နောက်ထပ် ဥပမာတစ်ခုနဲ့ ဆက်ပြီး ခုလို ရှင်းပြပါတယ်။ "မြို့စားမင်း··· ရှေးအခါက လှည်းပေါင်း တစ်ထောင်ပါတဲ့ လှည်းကုန်သည်အုပ်စုကြီးဟာ အရှေ့ပိုင်းနယ်ကနေ အနောက်ပိုင်းနယ်ဆီ ကုန်ရောင်းကုန်ဝယ်လုပ်ဖို့ ခရီးထွက်လာကြတယ်။ သူတို့အုပ်စုက သိပ်ကြီးတော့ သူတို့ရောက်တဲ့နေရာတိုင်းမှာ မြက်တွေ၊ ထင်းတွေ၊ ရေတွေ၊ သစ်ရွက်နု ဟင်းရွက်စိမ်းတွေ ခဏချင်း ကုန်သွားကြတယ်၊ အဲဒီကုန်သည်အုပ်စုမှာ လှည်းငါးရာကို ခေါင်းဆောင်တစ်ယောက်စီနဲ့ ကုန်သည်မှူးခေါင်းဆောင် နှစ်ယောက် ပါပါတယ်၊ ဒီအခါ ခေါင်းဆောင်ကုန်သည်မှူး နှစ်ယောက်က 'ငါတို့အုပ်စုက သိပ်ကြီးလွန်းတယ်၊ ရောက်တဲ့နေရာတိုင်းမှာလည်း နွားစာ၊ လူစာ မြက်၊ ထင်း၊ ရေတွေ တစ်ခဏချင်း ကုန်ကုန်သွား



တယ်၊ အဲဒီတော့ အုပ်စု နှစ်စုခွဲပြီး ခရီးဆက်ကြစို့" လို့ တိုင်ပင်ကြတယ်။

တိုင်ပင်ပြီးတဲ့အခါ ခေါင်းဆောင်တစ်ယောက်က လှည်းငါးရာကို ဦးဆောင်ပြီး လိုအပ်တဲ့ မြက်၊ ထင်း၊ ရေတွေကို လှည်းတွေပေါ်တင်ပြီး ကန္တာရခရီးခဲကို ကျော်ဖြတ်ဖို့ အရင်ထွက်လာခဲ့ပါတယ်၊ နှစ်ရက် သုံးရက်လောက် ခရီးထွက်လာပြီးတာနဲ့ ဒီ ကုန်သည်အဖွဲ့ဟာ အသားလည်း မည်း၊ မျက်လုံးလည်း နီ၊ လေးမြားထည့်ထားတဲ့ ပုံးသေးတစ်ခုလည်း လွယ်လျက် အနေအထားနဲ့ အဝတ်အစားတွေ၊ ခေါင်းက ဆံပင်တွေလည်း ရေစိုရွှဲနေတဲ့ လူတစ်ယောက် ဆန့်ကျင်ဘက် ခရီးရင်ဆိုင်ကနေ သူတို့ဆီ ဦးတည် လာနေတာကို တွေ့လိုက်ပါတယ်၊ အဲဒီလူက လှည်းဘီးမှာ ရွှံ့တွေ ဗွက်တွေ ပေကျံနေတဲ့ လှည်းစီးပြီး လာနေတာပါ၊ ဒီအခါ ခေါင်းဆောင်ကုန်သည်မှူးက 'အို··· မိတ်ဆွေ၊ ရှေ့ ကန္တာရခရီးမှာ မိုးတွေ သဲသဲမဲမဲ ရွာနေပါသလား' လို့ မေးလိုက်ပါတယ်၊ ဒီအခါ အဲဒီလူက 'အို··· မိတ်ဆွေတို့၊ ဟုတ်ပါတယ်၊ ရှေ့ မှာ မိုးတွေ အကြီးအကျယ် ရွာနေတာပါ၊ လှည်းလမ်းတစ်လျှောက်လုံးလည်း ရေတွေ ဖွေးနေတာပါပဲ၊ မြက်တွေ၊ ထင်းတွေ၊ ရေတွေလည်း ပေါများပါတယ်၊ ဒါကြောင့် သင်တို့ လှည်းတွေပေါ် ပါလာတဲ့ မြက်၊ ထင်း၊ ရေတွေ စွန့်ပစ်ပြီး ပေါ့ပေါ့ပါးပါး ခပ်မြန်မြန် သွားကြပါ၊ နွားတွေ မပင်ပန်းပါစေနဲ့' လို့ ပြန်ပြောပါတယ်။

ဒီအခါ ခေါင်းဆောင်ကုန်သည်မှူးက နောက်လိုက်ငယ်သားတွေကို 'အမောင်တို့၊ ဒီ ခရီးသွား ယောကျ်ား ပြောတာ ကြားတယ် မဟုတ်လား၊ အဲဒီတော့ သူအကြံပေးသလို တို့တစ်တွေ ပေါ့ပေါ့ပါးပါး သွားကြတာပေါ့' လို့ ပြောလိုက်တယ်။ နောက်လိုက်ငယ်သားတွေလည်း ခေါင်းဆောင် ပြောသလို သူတို့ လှည်းတွေပေါ် ပါလာတဲ့

ရိက္ခာ မြက်၊ ထင်း၊ ရေတွေကို စွန့်ထားခဲ့ကြပြီး ခရီးဆက် ထွက်လာခဲ့ကြတယ်၊ ဒီကုန်သည်အုပ်စုဟာ ခရီးထွက်လာပြီး ပထမစခန်းချတဲ့ နေရာရောက်တော့ မြက်၊ ထင်း၊ ရေတွေ မတွေ့ကြပါဘူး၊ ဒုတိယရက် စခန်းချတဲ့နေရာ၊ တတိယစခန်း၊ စတုတ္ထစခန်း၊ ပဉ္စမစခန်း၊ ဆဋ္ဌမစခန်း၊ သတ္တမစခန်းရောက်တဲ့အထိလည်း ဘာ မြက်၊ ထင်း၊ ရေကိုမှ မတွေ့ကြပါဘူး၊ အဲဒီ ခုနစ်ရက်မြောက် စခန်းချတဲ့နေရာမှာပဲ အစာ၊ ရေစာ ပြတ်လပ်ပြီး စောစောက လူယောင်ဆောင်ထားတဲ့ ဘီလူးက လူတွေ၊ နွားတွေ အကုန်လုံးကို စားပစ်လိုက်ပါတယ်၊ အဲဒီစခန်းမှာ အရိုးတွေပဲ စုပုံကျန်နေရစ်ပါတော့တယ်။

နောက် လှည်းငါးရာရဲ့ ခေါင်းဆောင် ကုန်သည်မှူးလည်း 'အမောင်တို့… ပထမအုပ်စု ထွက်သွားတာ တော်တော်လေး ကြာသွားပြီ၊ တို့ လိုအပ်တဲ့ မြက်၊ ထင်း၊ ရေတွေ တင်ပြီး ခရီးဆက်ကြစို့' လို့ နောက်လိုက်ငယ်သားတွေကို ပြောဆိုပြီး ခရီးထွက်လာကြပါတယ်၊ သူတို့ အုပ်စုလည်း ခရီးထွက်လာပြီး သိပ်မကြာခင်မှာပဲ အရင်ပထမကုန်သည်အုပ်စု တွေ့တဲ့ပုံစံအတိုင်း လူတစ်ယောက်လှည်းနဲ့ သူတို့ ရှေ့ ခရီးရင်ဆိုင်ဘက်ဆီကနေ သူတို့ဆီ လာနေတာကို တွေ့ကြပါတယ်၊ ဒီအခါမှာလည်း အဲဒီလူက ရှေ့မှာ မိုးတွေ အကြီးအကျယ် ရွာနေတဲ့အကြောင်း၊ ရှေ့ခရီးမှာ မြက်၊ ထင်း၊ ရေတွေ ပေါများတာမို့ လှည်းပေါ် သယ်လာတဲ့ မြက်၊ ထင်း၊ ရေတွေ အလေးခံပြီး သယ်မသွားပဲ ပေါ့ပေါ့ပါးပါး ခရီးဆက်ကြဖို့ အကြောင်း ပြောပါတယ်။

ဒီအခါ ခေါင်းဆောင် လှည်းကုန်သည်မှူးက 'အမောင်တို့… ဒီလူ ပြောတာ ကြားကြလား၊ ဒါပေမယ့် ဒီလူက ငါတို့ရဲ့ မိတ်ဆွေလည်း မဟုတ်ဘူး၊ ဆွေမျိုးသားချင်းလည်း မဟုတ်ဘူး၊ တို့ သူ့စကားကို ယုံလို့ မဖြစ်ဘူး၊ ဒါကြောင့် တို့လှည်းတွေပေါ် ပါတာတဲ့ ရိက္ခာ မြက်၊ ထင်း၊ ရေတွေကို မစွန့်ပစ်ဘဲ ခရီးဆက်ကြပါစို့' လို့ ပြောပါတယ်။ နောက်လိုက်ငယ်သားတွေကလည်း ခေါင်းဆောင်ကြီး



ပြောတဲ့အတိုင်း ရိက္ခာဟောင်းတွေ မစွန့်ဘဲ ခရီးဆက် ထွက်လာခဲ့ကြတယ်။

သူတို့ အုပ်စုလည်း ပထမလှည်းစခန်း ချတဲ့ နေရာရောက်တဲ့အခါမှာ မြက်၊ ထင်း၊ ရေတွေ မတွေ့ကြပါဘူး။ ဒုတိယစခန်း၊ တတိယစခန်း၊ စတုတ္ထစခန်း၊ ပဉ္စမစခန်း၊ ဆဋ္ဌမစခန်း၊ သတ္တမစခန်း ရောက်တဲ့ အထိလည်း မြက်၊ ထင်း၊ ရေတွေကို မတွေ့ကြပါဘူး။ စောစောက လူယောင်ဆောင်ထားတဲ့ ဘီလူး စားထားလို့ ကျန်နေတဲ့ အရင်ကုန်သည်တွေ၊ နွားတွေရဲ့ အရိုးစု အရိုးပုံတွေကိုပဲ တွေ့ကြပါတော့တယ်။

ဒီအခါ ခေါင်းဆောင်ကုန်သည်မှူးက 'အမောင်တို့… ဘာမှ မသိနားမလည်တဲ့ ခေါင်းဆောင်ကြောင့် ပထမကုန်သည် အုပ်စုတော့ အကုန်လုံး အကျိုးမဲ့ ပျက်စီးကုန်ပေ့ါပဲ၊ ဒီတော့ တို့လှည်းတွေပေါ်က တန်ဖိုးနည်းတဲ့ ကုန်စည်တွေကို ထားပစ်ခဲ့ပြီး ဒီ အရင်အုပ်စုရဲ့ လှည်းတွေပေါ်က တန်ဖိုးကြီးတဲ့ ကုန်စည်တွေ တို့လှည်းတွေပေါ် တင်လာခဲ့ကြ' လို့ နောက်လိုက်ငယ်သားတွေကို ပြောလိုက်ပါတယ်၊ ငယ်သားတွေလည်း ခေါင်းဆောင်ကြီးပြောတဲ့အတိုင်း သူတို့လှည်းတွေပေါ်က တန်ဖိုးနည်း ကုန်စည်တွေ ထားပစ်ခဲ့ပြီး အရင်လှည်းတွေပေါ်က တန်ဖိုးကြီး ကုန်စည်တွေကို ယူဆောင်ကာ ကန္တာရ ခရီးခဲကို ဆက်ထွက်လာခဲ့ကြတယ်၊ ဒီ ဒုတိယအုပ်စုဟာ ပညာရှိ ခေါင်းဆောင် ကုန်သည်မှူးကြောင့် ကန္တာရ ခရီးခဲကို ချမ်းချမ်းသာသာ ကျော်ဖြတ်နိုင်ခဲ့ကြပြီး ချမ်းသာသုခတွေ ရခဲ့ကြတယ်။

မြို့စားမင်း… ဒီဥပမာလိုပဲ ဘာမှ မသိနားမလည်တဲ့ သင်ဟာ ပရလောကရှိကြောင်းကို မလျော်ကန်တဲ့နည်းနဲ့ ရှာဖွေရင်းပဲ ပထမ လှည်းကုန်သည်မှူး ခေါင်းဆောင်လို အချည်းနှီး အကျိုးမဲ့ ပျက်စီးလိမ့်မယ်၊ သင့်ကို ယုံကြည်ပြီး သင့်စကား လိုက်နာ နားထောင်

တဲ့သူတွေလည်း ပထမကုန်သည်မှူးရဲ့ တပည့်နောက်လိုက်တွေ အကျိုးမဲ့ ဒုက္ခရောက်ပြီး ပျက်စီးသလို ပျက်စီးပြီး အတိဒုက္ခ ရောက်ကုန်ကြလိမ့်မယ်၊ ဒါကြောင့် သင့်ရဲ့ မှားယွင်းနေတဲ့ အယူ အဆကို စွန့်လိုက်ပါ၊ နောင်မှာ ဒုက္ခမရောက်ဘဲ ချမ်းသာသုခ ရချင် တယ်ဆိုရင်တော့ သင့်ရဲ့ အယူအဆမှားနေတာကို စွန့်လိုက်ပါ'' လို့ အရှင်မြတ်က မြို့စားမင်းကို ဒီ လှည်းကုန်သည်မှူး နှစ်ယောက် ဥပမာနဲ့ သေချာ ရှင်းပြပါတယ်။

အရှင်ကုမာရကဿပ ဘယ်လိုပင် ဥပမာပေးပြီး ဟောပြ ပြောပြပေမယ့် ပါယာသိမြို့စားမင်းကတော့ သူ့အယူအဆ မစွန့်နိုင်ဘဲ ဆက်လက်ယူမှာ ဖြစ်တဲ့အကြောင်း လျှောက်ထားခဲ့ပါတယ်။

## (၁၂) မစင်ထုပ် ရွက်ထားသူ ဥပမာ

ဒါနဲ့ အရှင်မြတ်ဟာ ဆက်ပြီး မစင်ထုပ်ရွက်တဲ့သူ ဥပမာနဲ့ ခုလို ဟောပြန်ပါတယ်။ ''မြို့စားမင်း… ဒါဆိုရင်လည်း ဥပမာနဲ့ ပြောပြပါဦးမယ်။ ရှေးတုန်းက ဝက်မွေးတဲ့ လူတစ်ယောက်ဟာ သူ့ရွာကနေ တခြားရွာကို အလည်သွားပါတယ်၊ အဲဒီရွာမှာ လူ့မစင်ခြောက်တွေ အများကြီး စွန့်ပစ်ထားတာကို တွေ့လိုက်တယ် ဆိုရင်ပဲ အဲဒီလူဟာ ဝက်စာတွေ ရပြီဆိုပြီး ဝမ်းသာအားရ ဖြစ်သွား တယ်၊ နောက်ပြီး အပေါ်ခြုံ အဝတ်ပိုင်းကို ဖြန့်ခင်း၊ မစင်ခြောက်တွေ ကောက်ထည့်၊ ထုပ်ပိုးပြီး ခေါင်းပေါ်ရွက်ကာ သူ့ရွာကို ပြန်လာခဲ့ ပါတယ်၊ လမ်းခရီးအကြားမှာပဲ ရုတ်တရက် အချိန်မဲ့ အခါမဲ့ မိုးကြီး ရွာချတယ်၊ အဲဒီလူဟာ မိုးရွာလို့ မစင်တွေ အရည်ပျော် စီးကျပြီး တစ်ကိုယ်လုံး ညစ်ပတ် ပေရေနေတာတောင်မှ မစင်ထုပ်ကြီး ကို မစွန့်ရက်နိုင်ဘဲ ရွက်ပြီး ရွာထဲ ဝင်လာခဲ့ပါတယ်၊ ဒီအခါ လူတွေက သူ့ကို 'ဟေ့လူ… ခင်ဗျား ရူးနေလား၊ ဒါမှမဟုတ် စိတ်ဖောက်ပြန်နေ



လား၊ ဘယ့်နှယ်ဗျာ မစင်ရေတွေ ယိုထွက်ကျပြီး တစ်ကိုယ်လုံး ခြေဖျား လက်ဖျားမကျန် ညစ်ပတ် ပေရေနေတာတောင် ဒီ မစင်ထုပ် ကြီးကို ရွက်ထားနေသေးတယ်' လို့ ဝိုင်းပြောကြတယ်၊ ဒီလို ပြောတဲ့ အခါ အဲဒီ မစင်ထုပ် ရွက်ထားသူက 'ဟေ့ လူတွေ… ဒီကိစ္စမှာ ခင်ဗျားတို့သာ ရူးနေကြတာ၊ ခင်ဗျားတို့သာ စိတ်ဖောက်ပြန်နေကြတာ ပါဗျ၊ ဒီမစင်ခြောက်တွေက ကျုပ်ဝက်တွေအတွက် အစာတွေဗျ' လို့ ပြန်ပြော တယ်။

မြို့စားမင်း… ဒီဥပမာလိုပဲ သင်ဟာ မစင်ထုပ်ကြီး ရွက် ထားတဲ့သူလို ဖြစ်နေပြီ၊ ဒါကြောင့် မစင်ထုပ်နဲ့ တူတဲ့ သင့်ရဲ့ မှားယွင်းနေတဲ့ အယူအဆကို စွန့်လိုက်ပါ၊ ဒါမှ သင်ဟာ နောင်မှာ ဆင်းရဲဒုက္ခတွေ မတွေ့မှာ'' လို့ အရှင်မြတ်က မြို့စားမင်းကို ရှင်းပြ ပါတယ်။

ဒီအခါမှာလည်း ပါယာသိမြို့စားမင်းဟာ သူ့အယူအဆကို မစွန့်နိုင်သေးပါကြောင်းပဲ ပြန်လည် လျှောက်ထားခဲ့ပါတယ်။

## (၁၃) ကြွေအန်ကစားသမား ဥပမာ

အရှင်မြတ်က ''မြို့စားမင်း… ဒါဆိုလည်း နောက်ထပ် ဥပမာတစ်ခု ပြောပြမယ်၊ ရှေးတုန်းက ကြွေအန်ကစားတာ ဝါသနာ ပါသူ နှစ်ယောက် ကြွေအန်ကစားကြတယ်၊ တစ်ယောက်က သူ့ဆီ ရောက်ရောက်လာတဲ့ ကြွေအန်တွေကို ဝှက်တဲ့အနေနဲ့ ပါးစပ်ထဲ ထည့်ငုံပြီး ဖျောက်ထားတယ်၊ လူလည်ကျပြီး အနိုင်ယူတဲ့ သဘောပါ၊ အဲဒီတော့ သူကချည်း နိုင်ပြီး ကျန်တစ်ယောက်က အမြဲလိုလို ရှုံးနေတယ်၊ အဲဒီလို ညစ်ပတ်ပြီး အနိုင်ယူနေတာကို ကြာတော့ ဒုတိယတစ်ယောက်က သိသွားတယ်၊ ဒီအခါ ဒုတိယတစ်ယောက်က ပထမတစ်ယောက်ကို ဥပါယ်တံမျဉ်နဲ့ 'သူငယ်ချင်း… မင်းတော်

တော်လေး တော်ပါပေတယ်၊ မင်းချည်းပဲ နိုင်နေတယ်၊ ကြွေအန်တွေကို ငါ့ပေးပါဦး၊ ငါလည်း ကြွေအန်တွေကို ပူဇော်ပသလိုက်ပါဦးမယ်’လို့ ပြောပြီး ကြွေအန်တွေကို တောင်းလိုက်တယ်။ နိုင်နေတဲ့သူက ကောင်းပါပြီဆိုပြီး ကြွေအန်တွေကို ဒုတိယလူ လက်ထဲ ထည့်ပေးလိုက်တယ်၊ ဒုတိယတစ်ယောက်က အဲဒီကြွေအန်တွေကို တစ်နေရာ ယူသွားပြီး ပူဇော်ပသသလို ဟန်ဆောင်ကာ ပြင်းထန်တဲ့ အဆိပ်တွေ သုတ်လိမ်းထားလိုက်တယ်၊ ပြီးတာနဲ့ ‘သူငယ်ချင်း… တို့ ကြွေအန် ဆက်ကစားကြစို့’ လို့ ပြောပြီး နှစ်ယောက်သား ကြွေအန် ကစားကြတယ်။

ဒီအကြိမ်မှာလည်း အဲဒီ ပထမတစ်ယောက်ဟာ လာလာသမျှ ကြွေအန်တွေကို ပါးစပ်ထဲ ငုံပြီး ဝှက်ဝှက်ထားတယ်၊ ဒီအခါ ဒုတိယ တစ်ယောက်က အဲဒီလူကို ‘ဟယ် လူညစ်… မျိုကွ၊ အဲဒီ ကြွေအန် တွေမှာ အလွန်အစွမ်းထက်တဲ့ အဆိပ်တွေ သုတ်လိမ်းထားတယ်၊ မင်းက ဒါကို မသိဘဲကိုးကွ။ နောက်တော့ မင်း အဆိပ်တက်ပြီး အခံရခက်တဲ့ ဒုက္ခ တွေ့ပါလိမ့်မယ်’ လို့ ပြောလိုက်တယ်။

မြို့စားမင်း… သင်လည်း ဒီဥပမာလိုပဲ အဆိပ်လူးထားတဲ့ ကြွေအန်မျိုထားသူလို ဖြစ်နေပြီ၊ သင့်ရဲ့ မှားယွင်းနေတဲ့ အယူအဆကို မစွန့်ရင် သင်တော့ နောင် ဒုက္ခတွေ တွေ့လိမ့်မယ်၊ ဒါကြောင့် အဆိပ်လူးထားတဲ့ ကြွေအန်နဲ့ တူတဲ့ သင့် အယူအဆတွေကို ထွေးအန်စွန့်ပစ်လိုက်ပါ” လို့ စိတ်ရှည် လက်ရှည် ဟောပြပါတယ်။

ဒီအကြိမ်မှာလည်း မြို့စားမင်းဟာ အရင်ကလိုပဲ သူ့အယူကို မစွန့်နိုင်သေးပါကြောင်းပဲ ခေါင်းမာစွာနဲ့ ပြန်လည်လျှောက်ထားခဲ့ပါတယ်။

## (၁၄) လျှော်ကြမ်းထမ်းသူ ဥပမာ

အရှင်ကုမာရကဿပ အရှင်မြတ်က ဒါဖြင့်ရင်လည်း



နောက်ထပ် ဥပမာတစ်ခုနဲ့ ရှင်းပြပါဦးမယ် ဆိုပြီး ခုလို ရှင်းပြပါတယ်။ “မြို့စားမင်း…ရှေးအခါက ဇနပုဒ်ရွာကြီးတစ်ရွာ တစ်နေရာ ပြောင်းသွားခဲ့တယ်၊ ဒီအခါ အနီးအနားမှာရှိတဲ့ ရွာတစ်ရွာက သူငယ်ချင်း နှစ်ယောက်ဟာ ပြောင်းသွားတဲ့ ရွာဟောင်း ကနေ သူတို့အတွက် အသုံးဝင်မယ့် ပစ္စည်းတစ်စုံတစ်ရာ ရလေမလား မျှော်လင့်ချက်နဲ့ ထွက်လာခဲ့ကြတယ်၊ အဲဒီမှာ နာနတ်ရိုင်းပင်က ထွက်တဲ့ လျှော်ကြမ်းတွေကို သူတို့ တွေ့ခဲ့တယ်၊ ဒါနဲ့ သူငယ်ချင်း နှစ်ယောက်တိုင်ပင်ပြီး အဲဒီလျှော်ကြမ်းတွေကို သေချာ ကျကျနန ထုပ်ပိုး သယ်လာခဲ့ကြတယ်၊ အဲဒီလိုနဲ့ ရွာပျက်တစ်နေရာ ရောက်ပြန် တော့ လျှော်ကြမ်းကနေ ထုတ်ထားတဲ့ လျှော်ချည်တွေ တွေ့ပြန်တယ်။

ဒီအခါ သူငယ်ချင်းတစ်ယောက်က ‘သူငယ်ချင်း… တို့ လျှော်ကြမ်းတွေ ရှက်လာတယ် ဆိုတာ ဒီ လျှော်ချည်တွေ ရဖို့အတွက်ပဲ ဖြစ်တယ်၊ ခု လျှော်ချည်တွေ တွေ့နေမှတော့ တို့သယ်လာတဲ့ လျှော် ကြမ်းတွေ ဘာလုပ်တော့မလဲ၊ ပစ်ထားခဲ့စို့၊ ဒီ လျှော်ချည်တွေပဲ ယူသွားကြအောင်’ လို့ တိုင်ပင်ပါတယ်၊ ကျန်တဲ့ ဒုတိယသူငယ်ချင်း က ‘သူငယ်ချင်း… ငါတော့ ဒီလျှော်ကြမ်းထုပ်ကြီးကို အဝေးကြီး ကနေ သယ်လာခဲ့ရတယ်၊ အလွယ်တကူ သယ်လို့ရအောင် သေချာ ကျကျနနလည်း ထုပ်ပိုးထားတယ်၊ ဒါကြောင့် ပြန်မဖြေချင်တော့ဘူး၊ ငါတော့ တော်ပြီ၊ သင်ပဲ ယူချင်ရင် ယူခဲ့ပေါ့’ လို့ ပြန်ပြောတယ်၊ ဒီအခါ ပထမသူငယ်ချင်းဟာ လျှော်ကြမ်းထုပ်ကြီးကို ထားပစ်ခဲ့ပြီး လျှော်ချည်တွေကို ထုပ်ပိုး သယ်လာခဲ့တယ်။

ဒီလိုနဲ့ သူငယ်ချင်းနှစ်ယောက် လာရင်းက နောက်ထပ် ရွာပျက်တစ်ခု ရောက်သွားပြန်တယ်၊ အဲဒီမှာ လျှော်ချည်နဲ့ ယက်ထား တဲ့ အဝတ်အထည်တွေ တွေ့ခဲ့ကြတယ်၊ ဒီအခါမှာလည်း ပထမ သူငယ်ချင်းက ‘လျှော်ချည်တွေ ယူလာတယ်ဆိုတာ ဒီလို ရက်ပြီးသား

အဝတ်အထည်တွေ ရဖို့ အတွက်ပဲ ဖြစ်တယ်၊ ဒါကြောင့် သင်လည်း လျှော်ကြမ်းထုပ်ကြီးကို ထားပစ်ခဲ့၊ ငါလည်း လျှော်ချည်ထုပ်ကြီး ထားပစ်ခဲ့မယ်၊ ဒီ လျှော်ချည်နဲ့ ရက်ထားပြီးသား အထည်တွေကိုပဲ ယူသွားကြစို့ ' လို့ တိုင်ပင်ပါတယ်။ လျှော်ကြမ်းထုပ်ကြီး ရွက်လာတဲ့ သူငယ်ချင်းက စောစောကလိုပဲ 'သူ လျှော်ကြမ်းထုပ်ကြီးကို သေချာ ထုပ်ပိုးပြီး အဝေးကနေ သယ်လာခဲ့ရတယ်၊ ဒါကြောင့် သူကတော့ တော်ပါပြီ၊ သင်ပဲ လိုချင် ယူခဲ့ပေါ့ ' လို့ ပြောပြီး သူ့ လျှော်ကြမ်း ထုပ်ကြီးကို မပစ်ရက်နိုင်ဘဲ ဆက်သယ်လာခဲ့တယ်။ ပထမ သူငယ်ချင်းကတော့ တန်ဖိုးနည်းတဲ့ လျှော်ချည်တွေ ထားခဲ့ပြီး ပိုပြီး တန်ဖိုးရှိတဲ့ လျှော်ထည် အဝတ်တွေကို ထုပ်ပိုးပြီး ယူလာခဲ့တယ်။

သူငယ်ချင်းနှစ်ယောက် အထုပ်ကိုယ်စီ ထုပ်ပိုးသယ်လာရင်းက နောက်ထပ် ရွာပျက်တစ်ခု ရောက်သွားပြန်တယ်၊ အဲဒီမှာ ဂုံလျှော်တွေ၊ ဂုံလျှော်ချည်တွေ၊ ဂုံလျှော်ချည်နဲ့ ရက်ထားတဲ့ အဝတ်အထည်တွေ တစ်ခုပြီး တစ်ခု တွေ့ပြန်တယ်၊ တွေ့တဲ့အခါတိုင်း ပထမသူငယ်ချင်းကတော့ တန်ဖိုးနည်းတာတွေ ထားထားပစ်ခဲ့ပြီး တန်ဖိုးရှိတာတွေကို ပြောင်းပြောင်း ယူလာခဲ့တယ်၊ လျှော်ကြမ်းထုပ်ကြီး သယ်လာတဲ့ သူငယ်ချင်းကတော့ လျှော်ကြမ်းထုပ်ကို မပစ်ရက်နိုင်ဘဲ ဆက်ဆက် သယ်လာခဲ့တယ်၊ တစ်ခါ နောက်ထပ် ရွာပျက်တွေ ရောက်သွားပြန်တော့ ဝါတွေ၊ ဝါချည်တွေ၊ ဝါချည်နဲ့ ရက်ထားတဲ့ အဝတ်အထည်တွေ၊ သံတွေ၊ ကြေးတွေ၊ ခဲဖြူတွေ၊ ခဲနက်တွေ၊ ငွေတွေ၊ နောက်ဆုံး ရွှေတွေ တစ်ခုပြီးတစ်ခု ဆက်ဆက်တွေ့ကြတယ်၊ ရွှေတွေ တွေ့တဲ့အခါမှာလည်း ပထမသူငယ်ချင်းက 'သူငယ်ချင်း... သင်လည်း လျှော်ကြမ်းထုပ်ကြီး ထားပစ်ခဲ့တော့၊ ငါလည်း ငွေထုပ်ကြီး ထားပစ်ခဲ့တော့မယ်၊ ပိုပြီး အဖိုးတန်တဲ့ ရွှေတွေပဲ တို့နှစ်ယောက် ယူပြီး ရွာပြန်ကြပါစို့ ' လို့ ပြောပါတယ်။ ဒါပေမဲ့ လျှော်ကြမ်းထုပ်ကြီး ထမ်းလာတဲ့ သူငယ်ချင်းကတော့ သူ့အထုပ်ကြီး မပစ်ရက်နိုင်ကြောင်း



ပြောပြီး ဆက်ထမ်းလာခဲ့တယ်၊ ပထမသူငယ်ချင်းကတော့ ငွေထုပ် ထားခဲ့ပြီး ရွှေတွေ ထုပ်ပိုး သယ်လာခဲ့ပါတယ်။

ဒါနဲ့ သူငယ်ချင်း နှစ်ယောက် နေရပ်ရင်းရွာ ပြန်ရောက်သွားကြတယ်၊ ဒီအခါ လျှော်ကြမ်းထုပ်ကြီး ထမ်းပြန်လာတဲ့ သူငယ်ချင်းရဲ့ မိဘတွေက မနှစ်သက်ကြ မကျေနပ်ကြဘူး၊ သားမယားတွေ၊ မိတ်ဆွေ သူငယ်ချင်းတွေကလည်း ဝမ်းမသာကြဘူး၊ သူလည်း ဒီလျှော်ကြမ်းကို အကြောင်းပြုပြီး ဘာချမ်းသာမှ မရခဲ့ဘူး။

ရွှေထုပ်ကြီး ထမ်းပြန်လာတဲ့ သူငယ်ချင်းရဲ့ မိဘတွေကတော့ အလွန်ဝမ်းသာကြတယ်၊ သားမယားတွေ၊ မိတ်ဆွေ သူငယ်ချင်းတွေ လည်း ပျော်ရွှင် ဝမ်းမြောက်ကြတယ်၊ ရွှေတွေကို အကြောင်းပြုပြီး သူတို့မှာ ချမ်းသာသုခတွေ ရသွားကြတယ်။

မြို့စားမင်း... သင်လည်း ဒီဥပမာလိုပဲ ဘာမှ အဖိုးမတန်တဲ့ လျှော်ကြမ်းထုပ်ကြီး ထမ်းလာတဲ့သူလို ဖြစ်နေပြီ၊ ဒါကြောင့် တန်ဖိုးမဲ့ လျှော်ကြမ်းနဲ့တူတဲ့ သင့်ရဲ့ မှားယွင်းနေတဲ့ အယူအဆကို စွန့် လိုက်ပါလော့၊ ဒီအယူအဆကြောင့် သင့်အတွက် နောင်မှာ ဆင်းရဲ ဒုက္ခတွေ မဖြစ်ပါစေနဲ့ " လို့ မြို့စားမင်းကို ရှင်းပြပါတယ်။

## ပါယာသိမြို့စား သရဏဂုံ ဆောက်တည်

လျှော်ကြမ်းထုပ်ထမ်းထားသူ ဥပမာနဲ့ ရှင်းပြတာကို နာယူပြီး တဲ့အခါ ပါယာသိမြို့စားမင်းဟာ 'စောစောက မိန့်ခဲ့တဲ့ ဥပမာနဲ့တင် အရှင်ဘုရားကို ကြည်ညိုပါကြောင်း၊ ဒါပေမယ့် အရှင်ဘုရား မိန့်ကြား လာမယ့် ဆန်းကြယ်တဲ့ ဥပမာတွေကို နာကြားလိုတဲ့အတွက် ဆန့်ကျင် ဘက်လို ပြုလုပ်မိပါကြောင်း ' တောင်းပန်လျှောက်ထားပါတယ်။

ဆက်ပြီး "အရှင်ဘုရားဟာ တပည့်တော်ကို မှောက်ထားတဲ့ အိုးကို လှန်ပြသလို၊ အရာဝတ္ထုတစ်ခုခုနဲ့ ဖုံးကွယ်ထားတဲ့အရာကို

ဖွင့်လှစ်ဖော်ပြသလို၊ မျက်စိလည် လမ်းမှားနေသူကို လမ်းမှန်ပြသလို၊ အမှောင်ထဲမှာ အလင်းရောင် ထွန်းညှိပြသလို ဥပမာအမျိုးမျိုးနဲ့ အမှန်တရားကို ပြခဲ့ပါတယ် ဘုရား၊ တပည့်တော် ဒီနေ့ကစပြီး အသက်ထက်ဆုံး ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ကိုးကွယ်ပါတယ် ဘုရား''လို့ အရှင် ကုမာရကဿပမထေရ်ကို လျှောက်ထားခဲ့ပါတယ်။

ဒါတင်မက မြို့စားမင်းက သူဟာ ကြီးကျယ်တဲ့အလှူကို လှူလိုပါကြောင်း၊ အလှူနဲ့ ပတ်သက်ပြီး သွန်သင်ဆုံးမ လမ်းပြပေးပါရန် တောင်းပန်ပါကြောင်း၊ အရှင်ဘုရားရဲ့ သွန်သင်ဆုံးမမှုက တပည့်တော်အတွက် နောင်ကာလတာရှည် စီးပွားချမ်းသာ ဖြစ်နိုင်မည် ဖြစ်ပါကြောင်း တစ်ဆက်တည်း တောင်းပန်လျှောက်ထားပါတယ်။

## အကျိုး မကြီးတဲ့ အလှူ နဲ့ အကျိုးကြီးတဲ့ အလှူ

ဒီအခါ အရှင်ကုမာရကဿပ မထေရ်က ''မြို့စားမင်း... အလှူလုပ်တဲ့နေရာမှာ နွားတွေ အသတ်ခံရတယ်၊ ဆိတ်တွေ၊ သိုးတွေ၊ ကြက်တွေ၊ ဝက်တွေလည်း အသတ်ခံရတယ်၊ အခြား သတ္တဝါတွေလည်း အသတ်ခံရတယ်၊ နောက်ပြီး အလှူခံပုဂ္ဂိုလ်တွေကလည်း မှားယွင်းတဲ့ အယူ၊ မှားယွင်းတဲ့ အတွေးအကြံ၊ မှားယွင်းတဲ့ အပြော၊ မှားယွင်းတဲ့ အလုပ်၊ မှားယွင်းတဲ့အသက်မွေးမှု၊ မှားယွင်းတဲ့ အားထုတ်မှု၊ မှားယွင်းတဲ့ သတိ၊ မှားယွင်းတဲ့ သမာဓိတွေ ရှိနေမယ်ဆိုရင် ဒီလို အလှူမျိုးဟာ အကျိုး မကြီးနိုင်ဘူး။

ဥပမာအားဖြင့် လယ်သမားတစ်ယောက်ဟာ ကျောက်စရစ်ဆူးငြောင့် သစ်ငုတ်တွေ မရှင်းရသေးဘဲ ဆားဆပ်ပြာပေါက်နေတဲ့ ခပ်ညံ့ညံ့ လယ်ထဲမှာ အနှစ်သာရမရှိ ပုပ်ဆွေး ပျက်စီးနေတဲ့ မျိုးစေ့တွေကို စိုက်မယ်၊ မိုးကလည်း ကောင်းမွန်စွာ မရွာခဲ့ဘူးဆိုရင် သူစိုက်တဲ့ မျိုးစေ့တွေ အပင် မပေါက်နိုင်၊ မစည်ပင် မဖွံ့ဖြိုးနိုင်သလို ပါပဲ။



မြို့စားမင်း... တစ်ချို့အလှူတွေမှာတော့ ကျွဲ၊ နွား၊ သိုး၊ ဆိတ်၊ ကြက်၊ ဝက်စတဲ့ သတ္တဝါတွေလည်း အသတ်မခံရ။ အလှူခံတွေကလည်း မှန်ကန်တဲ့ အယူ၊ မှန်ကန်တဲ့ အတွေးအကြံ၊ မှန်ကန်တဲ့ အပြော၊ မှန်ကန်တဲ့ အလုပ်၊ မှန်ကန်တဲ့ အသက်မွေးမှု၊ မှန်ကန်တဲ့ ကြိုးစားအားထုတ်မှု၊ မှန်ကန်တဲ့ သတိ၊ မှန်ကန်တဲ့ သမာဓိ ရှိတဲ့ သူတော်ကောင်းတွေ ဖြစ်တယ်၊ ဒီလို အလှူမျိုးကျတော့ သိပ်ကို ကြီးကျယ်တဲ့ အကျိုးတရားတွေ ရနိုင်တယ်၊ သေချာ ထွန်ယက်ပြင်ဆင်ထားတဲ့ လယ်ယာမြေကောင်းမှာ အနှစ်သာရလည်းရှိ၊ မပုပ်မဆွေး အပြစ်အနာအဆာ ကင်းတဲ့ မျိုးစေ့တွေကို စိုက်ပျိုးကြဲချမယ်၊ မိုးကလည်း ကောင်းမွန်စွာ ရွာသွန်းခဲ့မယ်ဆိုရင် အောင်မြင်ဖြစ်ထွန်းတဲ့ ကောက်ပဲ သီးနှံတွေ ရနိုင်သလိုပါပဲ'' လို့ အကျိုး မကြီးတဲ့ အလှူနဲ့ အကျိုးကြီးတဲ့ အလှူကို ခွဲခြားပြီး ဟောပြပါတယ်။

## ပါယာသိမြို့စားရဲ့ အလှူ

အဲဒီနောက်မှာတော့ ပါယာသိ မြို့စားမင်းဟာ ရဟန်း၊ ပုဏ္ဏားတွေ၊ ဆင်းရဲသားတွေ၊ ခရီးသွား ပုဂ္ဂိုလ်တွေ၊ ဖုန်းတောင်း ယာစကာတွေကို အလှူဒါန ပြုလုပ်ခဲ့ပါတယ်။ ဒါပေမယ့် သူ လှူတာက ဆန်ကွဲထမင်း၊ ပဒုံးရည်ဟင်းနဲ့ ကြမ်းတမ်းတဲ့ အဝတ်အထည်တွေပဲ ဖြစ်ပါတယ်။ သူ့ရဲ့ အလှူပွဲကို စီမံ ဆောင်ရွက်ပေးရတဲ့သူက ဥတ္တရ လုလင်ပါ။ ဥတ္တရလုလင်က အလှူပွဲပြီးတဲ့အခါ ''ယခုလို လှူရတဲ့ အလှူဒါနကြောင့် ပါယာသိ မြို့စားမင်းကို ဒီဘဝမှာပဲ တွေ့ဆုံရပြီး နောင်ဘဝတွေမှာ မတွေ့ဆုံရပါလို၏'' လို့ ဆုတောင်းလိုက်ပါတယ်။ ဥတ္တရလုလင် ဒီလို ဆုတောင်းတဲ့သတင်းကို မြို့စားမင်း ကြားသိ

သွားတဲ့အခါ ဘာကြောင့် ဒီလို ဆုတောင်းရတာလဲလို့ ဥတ္တရလုလင်ကို မေးပါတယ်။

ဒီအခါ ဥတ္တရလုလင်က "အရှင်မြို့စားမင်းရဲ့ အလှူပွဲမှာ လှူတာလည်း ကြည့်ပါဦး၊ ဆန်ကွဲထမင်းနဲ့ ပအုံးရည်ဟင်းတဲ့၊ ဒီ အစားအစာကို အရှင်မြို့စားမင်းအနေနဲ့ ခြေထောက်နဲ့တောင် ထိလိုမယ် မဟုတ်ပါဘူး၊ စားဖို့ဆိုတာတော့ အဝေးကြီးပါ၊ ပြီးတော့ အဝတ် အထည် လှူပြန်တော့လည်း ထူထဲ ကြမ်းတမ်းတဲ့ အဝတ်ကြမ်းကြီး တွေ၊ ဒီအဝတ်တွေကိုလည်း အရှင်မြို့စားမင်း ဝတ်ဖို့ မပြောနဲ့ ခြေနဲ့ တောင် ထိချင်မှာ မဟုတ်ပါဘူး၊ အရှင်မြို့စားမင်းဟာ အကျွန်ုပ်တို့ လေးစားမြတ်နိုးတဲ့ပုဂ္ဂိုလ်ပါ၊ အကျွန်ုပ်တို့ မြတ်နိုးတဲ့ မြို့စားမင်းကို ဘယ်မှာ ခပ်ညံ့ညံ့ မကောင်းကျိုးတွေ ရစေချင်ပါ့မလဲ" လို့ ပစ္စည်း အကောင်းစားတွေ ရှိပါလျက် မကောင်းတာတွေ လှူဒါန်းတဲ့အတွက် ကြောင့် သူ ဆုတောင်းခဲ့ရပုံကို ဥပါယ်တံမျဉ်နဲ့ ဖြေလိုက်ပါတယ်။

အဲဒီအခါမှ ပါယာသိ မြို့စားမင်းဟာ ဥတ္တရလုလင်ကို သူ့ရဲ့ အလှူပွဲမှာ သူစားတဲ့ အစားအစာမျိုးကိုသာ လှူပေးဖို့နဲ့သူဝတ်တဲ့ အဝတ်အစားမျိုးတွေကိုသာ လှူပေးဖို့ ခွင့်ပြုပါတော့တယ်။ ဥတ္တရ လုလင်လည်း မြို့စားမင်း ခွင့်ပြုတဲ့အတိုင်း အလှူပွဲကို စနစ်တကျ စီမံဆောင်ရွက် လှူဒါန်းပေးခဲ့ပါတယ်။

## အလှူ့ရှင်က အောက်နတ်ဘုံ ရောက်ပြီး ဝေယျာဝစ္စက အထက်နတ်ပြည် ရောက်ခဲ့ကြပုံ

နောက်ဆုံးတော့ အလှူ့ရှင် ပါယာသိမြို့စားမင်းက လှူတဲ့ နေရာမှာ ရိုသေလေးစားမှုလည်း မရှိ၊ ကိုယ်တိုင်ကိုယ်ကျလည်း မလှူ၊ စိတ်ပါလက်ပါ တလေးတစားလည်း မလှူ၊ စွန့်ပစ်သလိုမျိုး လှူဒါန်း ခဲ့တဲ့အတွက်ကြောင့် အဲဒီဘဝက သေပြီးတဲ့နောက် နတ်ပြည်



ခြောက်ထပ်မှာ အနိမ့်ဆုံးဘုံဖြစ်တဲ့စတုမဟာရာဇ် နတ်ဘုံမှာ ဖြစ်ခဲ့ပါ တယ်။ နောက်ပြီး သူ့ဗိမာန်မှာ အခြွေအရံလည်း တစ်ယောက်မှ မရှိဘဲ ခြောက်ကပ်ကပ် ဗိမာန်မှာ အထီးကျန် နေခဲ့ရတယ်။ အလှူပွဲမှာ ဦးစီး စီမံဆောင်ရွက် လုပ်ကိုင်ပေးရတဲ့ ဥတ္တရ လုလင်ကတော့ လှူတဲ့နေရာမှာ လှူဖွယ်ပစ္စည်းကို သပ်သပ်ရပ်ရပ် လုပ်ပြီး လှူတယ်၊ ကိုယ်တိုင်ကိုယ်ကျ ကိုယ့်လက်နဲ့ လှူတယ်၊ အလှူခံ အပေါ်မှာလည်း လေးစားတဲ့စိတ်နဲ့ လှူတယ်၊ လွှင့်ပစ်သလိုမျိုး မဟုတ်ဘဲ တလေး တစား လှူတယ်။ ဒါကြောင့် သူကတော့ သေပြီးတဲ့နောက်မှာ အဆင့်မြင့်တဲ့ တာဝတိံသာနတ်ပြည် ရောက်ခဲ့ပြီး အခြွေအရံ အသင်း အပင်း များစွာနဲ့ ကောင်းမွန်စွာ နေရပါတယ်။

## ရဟန္တာ အရှင်ဂဝမ္ပတိမထေရ်အား ပါယာသိ နတ်သား တောင်းပန် လျှောက်ထားပုံ

အဲဒီအချိန်တုန်းက အရှင်ဂဝမ္ပတိမထေရ်ဟာ မကြာခဏ နတ်ပြည်တက်ပြီး ပါယာသိနတ်သားရဲ့ ပရိသတ်မရှိ တိတ်ဆိတ်နေတဲ့ ဘုံဗိမာန်ထဲမှာ နေ့လယ်နေ့ခင်း တရားသွားထိုင်ပါတယ်။ ဒီအခါ ဗိမာန်ရှင် ပါယာသိ နတ်သားက အရှင်ဂဝမ္ပတိ မထေရ်ကို ဦးချ ကန်တော့ပြီး နှုတ်ဆက်ပါတယ်။ အရှင်မြတ်က အသင် ဘယ်သူလဲလို့ မေးလိုက်တယ်ဆိုရင်ပဲ ပါယာသိ နတ်သားက သူဟာ လူ့ပြည်တုန်းက ပါယာသိမြို့စားမင်း ဖြစ်ခဲ့ပါကြောင်း လျှောက်ထားပါတယ်။ ဒီအခါ အရှင်မြတ်က "သင်ဟာ လူ့ဘဝတုန်းက ပရလောက မရှိ၊ ကိုယ် ထင်ရှား ဘွားခနဲ ဖြစ်တဲ့ နတ်တွေဆိုတာ မရှိ၊ ကံ နဲ့ ကံတွေရဲ့ ဆိုးကျိုး ကောင်းကျိုးဆိုတာ မရှိလို့ ယုံကြည်တဲ့ မိစ္ဆာဒိဋ္ဌိ အယူရှိတဲ့ ပုဂ္ဂိုလ် မဟုတ်ပါလား" လို့ ဆက်မေးပါတယ်။

ပါယာသိ နတ်သားက "မှန်ပါ၊ တပည့်တော်ဟာ မိစ္ဆာဒိဋ္ဌိ အယူရှိသူဖြစ်ပေမယ့် တပည့်တော်ရဲ့ မှားယွင်းနေတဲ့ အဲဒီ မိစ္ဆာဒိဋ္ဌိအယူ

ကို အရှင်ကုမာရကဿပ မထေရ်က ဖယ်ရှားပေးခဲ့ပါတယ် ဘုရား" လို့ ဖြေကြားခဲ့ပါတယ်။ ဒီနောက်တော့ အရှင်ဂဝမ္ပတိ မထေရ်က ဆက်ပြီး "သင့် အလှူပွဲမှာ ဦးစီး စီမံ ဆောင်ရွက်ပေးတဲ့ ဥတ္တရ လုလင်ကတော့ ဘယ်ရောက်သွားတုံး" လို့ မေးတယ်။

ဒီအခါ ပါယာသိ နတ်သားက "အရှင်ဘုရား၊ ဥတ္တရလုလင်က လှူဒါန်းတဲ့နေရာမှာ ရိုရိုသေသေ လှူတယ်၊ ကိုယ်တိုင်ကိုယ်ကျ ကိုယ်ထိလက်ရောက် လှူတယ်၊ အလှူခံကိုလည်း လေးစားတဲ့ စိတ်နဲ့ လှူတယ်၊ လွှင့်ပစ်သလိုမျိုးလည်း မလှူဘူးဘုရား၊ ဒါကြောင့် သူက တာဝတိံသာ နတ်ပြည် ရောက်သွားပါတယ် ဘုရား၊ တပည့်တော်ကတော့ သူလို မဟုတ်ဘဲ တရိုတသေ မလှူခဲ့၊ ကိုယ်ထိလက်ရောက် မလှူခဲ့၊ လေးလေးစားစား မလှူခဲ့၊ စွန့်ပစ်သလိုမျိုး လှူခဲ့တဲ့ အတွက်ကြောင့် အနိမ့်ဆုံး ဒီ စတုမဟာရာဇ်ဘုံမှာပဲ ဖြစ်ခဲ့တယ်၊ ဖြစ်ပြန်တော့လည်း တစ်ယောက်တည်း အထီးကျန်နေရပါတယ် ဘုရား" လို့ ဖြေကြား လျှောက်ထားခဲ့ပါတယ်။

ဆက်ပြီးတော့ ပါယာသိ နတ်သားက အရှင်ဂဝမ္ပတိ မထေရ်ကို "အရှင်ဘုရား၊ တပည့်တော် အရှင်ဘုရားကို တိုက်တွန်းလျှောက်ထားချင်ပါတယ် ဘုရား၊ အရှင်ဘုရား လူ့ပြည် ပြန်ရောက်တဲ့အခါ လူတွေကို 'အလှူလုပ်တဲ့အခါ ရိုရိုသေသေ အလှူဒါနဝတ္ထုကို ပေးလှူကြပါ၊ ကိုယ်တိုင်ကိုယ်ကျ ကိုယ်ထိ လက်ရောက် ပေးလှူကြပါ၊ အလှူခံပုဂ္ဂိုလ်ကိုလည်း လေးစားတဲ့စိတ်နဲ့ လှူကြပါ၊ စွန့်ပစ်လိုတဲ့ စိတ်နဲ့ မလှူကြပါနဲ့၊ ပါယာသိ မြို့စားမင်းဟာ အခုလို မလှူခဲ့တဲ့အတွက် အလှူရှင် ဖြစ်ပေမယ့် အဆင့်နိမ့်တဲ့ ဘုံမှာပဲ ဖြစ်ခဲ့ရတယ်၊ ဥတ္တရလုလင်ကတော့ ဝေယျာဝစ္စလုပ်သူ ဖြစ်ပေမယ့် တလေးတစား လှူခဲ့တဲ့အတွက် အထက်နတ်ဘုံမှာ ဖြစ်ရတယ်ဆိုတဲ့ အကြောင်းတွေကို ပြန်ဟောပေးပါ ဘုရား"လို့ တောင်းပန် လျှောက်ထားခဲ့ပါတယ်။



အရှင်ဂဝမ္ပတိ မထေရ်လည်း လူ့ပြည် ပြန်ရောက်တဲ့အခါ ပါယာသိ နတ်သား တောင်းပန်တဲ့အတိုင်း တရားဟောခဲ့ပါတယ်။

အရှင်ကုမာရ ကဿပ အရှင်မြတ်က ဥပမာ၊ ဥပမေယျ ၁၅-ချက်နဲ့ တန်ဆာဆင်ပြီး ဒီ ပါယာသိသုတ္တန်ကို ပါယာသိ မြို့စားမင်းအား ဟောကြားပြီးတဲ့အခါ မြတ်စွာဘုရားက အရှင်ကုမာရ ကဿပမထေရ်ကို ဒီ ပါယာသိ သုတ္တန် ဟောကြားခဲ့တာကို အကြောင်းပြုပြီး ဆန်းကြယ်စွာ တရားဟောတဲ့ ရဟန်းတော်တွေထဲမှာ အသာဆုံး စိတ္တကထိက ဧတဒဂ်အရာထားကာ ချီးမြှောက်တော်မူခဲ့ပါတယ်။

သံသရာခရီးသည်တိုင်းမှာ ဖြစ်တတ်တဲ့ အမြင်မှားတွေကို မစင်ထုပ်ပမာ စက်ဆုပ်ရွံရှာဖို့နဲ့ အနှစ်မရှိတဲ့ လျှော်ထုပ်ပမာ ဖက်တွယ် မထားဖို့ အသိဉာဏ်အမြင်ကို ပေးတော်မူတဲ့ အရှင်မြတ်ရဲ့ ကျေးဇူးကတော့ အနှိုင်းမဲ့ကျေးဇူးလို့ပဲ စိတ်ဝယ် မှတ်ထင်နေမိပါတော့တယ်။

**ကျမ်းကိုး**

၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပတွဲ၊ ၂၂၀။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၄၁၇။
၃။ အပဒါန်ပါဠိ၊ ဒုတွဲ၊ ၁၂၅။
၄။ အပဒါန်အဋ္ဌကထာ၊ ဒုတွဲ၊ ၂၃၀။
၅။ ထေရဂါထာပါဠိ၊ ၂၅၉။
၆။ ထေရဂါထာအဋ္ဌကထာ၊ ပတွဲ၊ ၄၁၂။
၇။ မူလပဏ္ဏာသပါဠိ၊ ၁၉၅။
၈။ မူလပဏ္ဏာသအဋ္ဌကထာ၊ ဒုတွဲ၊ ၂၆။
၉။ ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိ၊ ၂၅၃။
၁၀။ သုတ်မဟာဝါ အဋ္ဌကထာ၊
၁၁။ သုတ်မဟာဝါ ဘာသာဋီကာ၊



ပဋိသမ္ဘိဒါဉာဏ်လေးပါးရ ပုဂ္ဂိုလ်တွေထဲမှာ အသာဆုံး

ပဋိသမ္ဘိဒါပတ္တ ဧတဒဂ်ရ

# အရှင်မဟာကောဋ္ဌိကမထေရ်

သမ္မာဒိဋ္ဌိ ဆိုတဲ့ ဝိပဿနာဉာဏ်အမြင်ကို ရဖို့အတွက် ဘယ်အကြောင်းအချက်အလက်တွေနဲ့ ပြည့်စုံရမလဲ၊ ဝိပဿနာဉာဏ်ကို ဘယ်လိုတရားတွေနဲ့ ထောက်ပံ့ပေးမှ တရားထူး ရနိုင်တာလဲ ဆိုတဲ့ မေးခွန်းတွေရဲ့ တန်ဖိုးရှိတဲ့အဖြေကို သိချင်တယ်ဆိုရင်တော့ အရှင်မဟာကောဋ္ဌိက မထေရ်မြတ်ရဲ့ အကြောင်းအတ္ထုပ္ပတ္တိကို လေ့လာသင့်ပါတယ်။ နောက်ပြီး ဝိပဿနာတရား အားထုတ်တဲ့အခါ ပညာဆိုတာဘာလဲ၊ စိတ်ဝိညာဏ်ဆိုတာကရော ဘယ်လိုအရာကို ဆိုလိုတာလဲ၊ ဘယ်လိုအကြောင်းအခြင်းအရာကို ဝေဒနာ၊ သညာ ခေါ်တာပါလဲ၊ ဒီတရားတွေကကော တစ်ခုနဲ့တစ်ခု တသီးတခြားစီ ဖြစ်နေတာလား၊ ဒါမှမဟုတ် အတူတကွ ဖြစ်နေတာလားဆိုတာတွေကိုလည်း သိချင်ကြမှာပါ။

ဒါ့အပြင် သေတယ်ဆိုတာ ဘယ်လိုဖြစ်သွားတာလဲ၊ သေတဲ့သူနဲ့ နိရောဓသမာပတ်ဝင်စားတဲ့သူ ဒီနှစ်ယောက်ကကော ဘယ်လို ထူးခြား ကွဲပြားခြားနားကြသလဲ။ ဒီမေးခွန်းတွေရဲ့ အဖြေကိုလည်း အရှင်မဟာကောဋ္ဌိကမထေရ်ရဲ့ အကြောင်းအရာကို ဖတ်ရှုကြည့်ညို လိုက်တာနဲ့ အလွယ်တကူ ရှင်းရှင်းလင်းလင်း နားလည်သိရှိသွားနိုင်မှာ ဖြစ်ပါတယ်။ ဒါကြောင့် အရှင်မြတ်အကြောင်းကို ကြည်ညိုကြည့်ကြ ပါစို့။

## အရှင်မြတ်ရတဲ့ ဧတဒဂ်

မြတ်စွာဘုရား သာသနာတော်မှာ ပဋိသမ္ဘိဒါဉာဏ်လေးပါး ရပြီး ရဟန္တာဖြစ်တဲ့ ပုဂ္ဂိုလ်တွေ အများအပြားရှိပါတယ်။ အဲဒီပုဂ္ဂိုလ် တွေထဲမှာ အရှင်မဟာကောဋ္ဌိက မထေရ်ဟာ အသာဆုံး ဧတဒဂ်ရ ပုဂ္ဂိုလ်ပါ။ အရှင်မြတ်ဟာ ပဋိသမ္ဘိဒါဉာဏ်အရာမှာ ကျွမ်းကျင်လိမ္မာ သူ၊ အလေ့အကျင့်များသူ ဖြစ်တာနဲ့အညီ ထင်ရှားတဲ့ မဟာသာဝက အရှင်မြတ်တွေထံ ချဉ်းကပ်ပြီး ပြဿနာမေးတဲ့အခါဖြစ်ဖြစ်၊ မြတ်စွာ ဘုရားထံ ချဉ်းကပ်ပြီး မေးခွန်းပြဿနာ မေးမြန်းလျှောက်ထားတဲ့အခါ ဖြစ်ဖြစ် ပဋိသမ္ဘိဒါဉာဏ်တွေနဲ့ ဆက်စပ်တာကိုပဲ မေးမြန်းလေ့ ရှိပါ တယ်။ အခုလို ပဋိသမ္ဘိဒါဉာဏ်အရာမှာ အလေ့အကျက်များသူ ဖြစ်တာမို့ ပဋိသမ္ဘိဒါဉာဏ်ရရှိသူတွေထဲမှာ အသာဆုံး ဖြစ်ခဲ့တာပါ။

## (က) အရှင်မြတ်ရဲ့ အတိတ်ဘဝ ပါရမီ ဖြည့်ပုံ

အရှင်မြတ်အလောင်းတော်လည်း ပဒုမုတ္တရမြတ်စွာဘုရားရှင် လက်ထက်တော်မှာ ဟံသာဝတီမင်းနေပြည်က ပစ္စည်းဥစ္စာ ပြည့်စုံ ကြွယ်ဝချမ်းသာတဲ့အမျိုးမှာ ဖြစ်ခဲ့ပါတယ်။ နောက်ပိုင်းကာလ တစ်ချိန် မှာတော့ ပဒုမုတ္တရ မြတ်စွာဘုရားရဲ့ တရားတော်ကို နာယူနေစဉ်မှာပဲ မြတ်စွာဘုရားက ရဟန်းတော်တစ်ပါးကို ပဋိသမ္ဘိဒါဉာဏ်ရတဲ့အရာ



အသာဆုံး ဧတဒဂ်အရာထား ချီးမြှောက်တာကို ဖူးမြင်လိုက်ရပြီး အားကျတာနဲ့ ကုသိုလ်ကောင်းမှု ပြုလုပ်ကာ ပဋိသမ္ဘိဒါအရာ ဧတဒဂ် ရ ပုဂ္ဂိုလ်ဖြစ်ဖို့ ဆုတောင်း ဆုပန်ခဲ့ပါတယ်။

## (ခ) အရှင်မြတ်ရဲ့ နောက်ဆုံးဘဝ ပစ္စုပ္ပန်ဇာတ်ကြောင်း

အရှင်မြတ် အလောင်းဟာ အသက်ထက်ဆုံး ကောင်းမှု ကုသိုလ်တွေ ပြုလုပ်ခဲ့ပြီး နတ်ပြည်၊ လူ့ပြည်တွေမှာ ကျင်လည်ရင်းက ဒီ ဂေါတမဘုရားသာသနာ လက်ထက်တော် ရောက်တဲ့အခါမှာတော့ သာဝတ္ထိပြည်က ဗြာဟ္မဏပုဏ္ဏားမျိုးမှာ ဖြစ်ခဲ့ပါတယ်။ မိဘတွေက သူ့ရဲ့ နာမည်ကို 'ကောဋ္ဌိကလုလင်' လို့ မှည့်ခေါ်ခဲ့ကြတယ်။ ဒီလုလင်လေး အရွယ်ရောက်တဲ့အခါ ဗေဒင်သုံးပုံ သင်ကြား တတ် မြောက်ခဲ့ပြီး တစ်နေ့မှာတော့ မြတ်စွာဘုရားထံ တရားနာယူရင်းက သဒ္ဓါတရား ဖြစ်လာတာနဲ့ ရဟန်းပြုခဲ့ပါတယ်။

သူဟာ ရဟန်းဖြစ်တဲ့အချိန်ကစပြီး ဝိပဿနာတရား ကြိုးစား ပွားများ အားထုတ်ခဲ့တဲ့အတွက် ပဋိသမ္ဘိဒါဉာဏ်လေးပါးနဲ့တကွ အရဟတ္တဖိုလ် ရရှိကာ ရဟန္တာဖြစ်ခဲ့ပါတယ်။ ရဟန္တာဖြစ်ပြီးတဲ့နောက် အရှင်မြတ်ဟာ ပဋိသမ္ဘိဒါဉာဏ်တွေမှာ အမြဲတစေ ကြိမ်ဖန်များစွာ လေ့ကျက်ခဲ့ပြီး မေးခွန်းပြဿနာ မေးတဲ့အခါတိုင်းမှာလည်း ပဋိသမ္ဘိဒါ ဉာဏ်နဲ့ ပတ်သက်တာတွေကိုပဲ မေးလေ့ရှိပါတယ်။ နောက်ပိုင်းကာလ ရောက်တဲ့အခါ မြတ်စွာဘုရားရှင်က အရှင်မဟာကောဋ္ဌိကကို မဟာ ဝေဒလ္လသုတ္တန်ကို အကြောင်းခံပြီး ပဋိသမ္ဘိဒါဉာဏ်အရာ အသာဆုံး ဧတဒဂ်အရာထား ချီးမြှောက်တော်မူခဲ့ပါတယ်။

## (ဂ) အရှင်မြတ်နှင့် ဆက်စပ်သည့် မဟာဝေဒလ္လသုတ္တန် တရားတော်

တစ်ချိန်မှာတော့ မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်မှာ သီတင်းသုံး နေတော်မူပါတယ်။ အဲဒီအခါမှာ အရှင်

မဟာကောဋ္ဌိကဟာ ညနေပိုင်းကာလ ဖလသမာပတ်ဝင်စားရာမှ ထတော်မူပြီး အရှင်သာရိပုတ္တရာထံ ချဉ်းကပ်ခဲ့ပါတယ်။

## ပညာမရှိသူ နှင့် ပညာရှိသူ

နှုတ်ဆက်စကား ပြောဆိုပြီးတဲ့အခါ အရှင်မဟာကောဋ္ဌိက အရှင်မြတ်က အရှင်သာရိပုတ္တရာ မထေရ်မြတ်ကို "ငါ့ရှင်… ပညာမရှိသူ၊ ပညာမရှိသူလို့ လောက ပြောကြတယ်၊ ဘယ်လို အကြောင်းကြောင့် ပညာမရှိသူလို့ ခေါ်ကြ ပြောကြတာလဲ" လို့ မေးပါတယ်။ "အကြောင်းနဲ့အကျိုး သေချာကျနစွာ ဝေခွဲပြီး မသိတတ်တဲ့အတွက်ကြောင့် ပညာမရှိသူ" လို့ ခေါ်ကြတာပါလို့ အရှင်သာရိပုတ္တရာက ဖြေပါတယ်။ ဆက်ပြီး အရှင်မဟာကောဋ္ဌိက အရှင်မြတ်က "အဘယ် အရာတွေကို သေချာကျန မသိလို့ပါလဲ" လို့မေးပါတယ်။ ဒီအခါ အရှင်သာရိပုတ္တရာက "ဒီတရားဟာ ဆင်းရဲအမှန် ဒုက္ခသစ္စာပဲ၊ ဒီတရားဟာ ဆင်းရဲကြောင်းအမှန် သမုဒယသစ္စာပဲ၊ ဒီတရားဟာ ဆင်းရဲငြိမ်းရာအမှန် နိရောဓသစ္စာပဲ၊ ဒီတရားဟာ ဆင်းရဲငြိမ်းရာ နိဗ္ဗာန်သို့ ရောက်ကြောင်း မှန်ကန်တဲ့အကျင့် မဂ္ဂသစ္စာပဲ လို့ သေချာကျန ဝေခွဲပြီး မသိတတ်တာပါ၊ အဲဒီလို သစ္စာလေးပါးကို သေချာကျန ဝေခွဲပြီး မသိတတ်လို့ ပညာမရှိသူလို့ ခေါ်ကြတာ ဖြစ်ပါတယ် ငါ့ရှင်" လို့ ရှင်းပြပါတယ်။

"ငါ့ရှင် သာဓု၊ သာဓု" လို့ အရှင်မဟာကောဋ္ဌိကဟာ အရှင်သာရိပုတ္တရာ ဖြေကြားတာကို ဝမ်းမြောက်ဝမ်းသာ အနုမောဒနာပြုပြီး "ငါ့ရှင်… ပညာရှိ၊ ပညာရှိလို့ လောက ပြောကြတယ်၊ ဘာကြောင့် ပညာရှိလို့ ခေါ်ကြတာပါလဲ" လို့ မေးခွန်းဆက်မေးခဲ့ပါတယ်။ "အကြောင်းနဲ့အကျိုး ဝေခွဲပြီး ကျကျနန သိတတ်တဲ့အတွက်ကြောင့် ပညာရှိလို့ ခေါ်တာ ဖြစ်ပါတယ်" လို့ အရှင်သာရိပုတ္တရာက ဖြေပါတယ်။ ဒီအခါ အရှင်မဟာကောဋ္ဌိကက "ငါ့ရှင် အဘယ်အရာတွေကို ကျကျနန သိတတ်တာပါလဲ" လို့ မေးတဲ့အတွက် အရှင်သာရိပုတ္တရာက "ငါ့ရှင်၊ သစ္စာလေးပါးကို ကျကျနန သိတတ်တာကို ဆိုလိုတာပါ၊ သစ္စာလေးပါးကို ဉာဏ်နဲ့ရှင်းလင်းစွာ ဝေခွဲပြီး သိတတ်သူကို ပညာရှိလို့ ခေါ်ကြတာ ဖြစ်ပါတယ်" လို့ ရှင်းလင်းဖြေကြားပါတယ်။



## ဝိညာဏ် - စိတ်

ဆက်ပြီး အရှင်မဟာကောဋ္ဌိက အရှင်မြတ်က မေးခွန်းတွေ မေးခဲ့ပြီး အရှင်သာရိပုတ္တရာက အရှင်မြတ်က ဖြေကြားခဲ့ပါတယ်-

**မေး။** ဝိညာဏ် ဝိညာဏ် လို့ ဆိုကြတယ်၊ ဘာကြောင့် ဝိညာဏ်လို့ ခေါ်တာပါလဲ။

**ဖြေ။** သိတတ်တဲ့အတွက်ကြောင့် ဝိညာဏ် လို့ ခေါ်တာပါ။

**မေး။** ဘာကို သိတတ်လို့ပါလဲ။

**ဖြေ။** ချမ်းသာလို့လည်း သိတတ်တယ်၊ ဆင်းရဲလို့လည်း သိတတ်တယ်၊ ချမ်းသာမဟုတ်၊ ဆင်းရဲ မဟုတ်လို့လည်း သိတတ်တယ်၊ အဲဒီလို သိတတ်တဲ့ သဘောကို ဝိညာဏ် လို့ ခေါ်တာပါ

## ပညာ နဲ့ ဝိညာဏ် တစ်ခုနဲ့တစ်ခု ရောနှော၊ သို့မဟုတ် မရောနှော

**မေး။** ငါ့ရှင်… ပညာ နဲ့ ဝိညာဏ်တို့ဟာ တစ်ခုနဲ့တစ်ခု ရောနှောကြသလား၊ မရောနှောကြပဲ သီးခြားစီလား။

**ဖြေ။** ငါ့ရှင်… ပညာ နဲ့ ဝိညာဏ်တို့ဟာ တစ်ခုနဲ့တစ်ခု မရောနှောပဲ သီးခြားစီ ဖြစ်ကြတာ မဟုတ်ပါ၊ တစ်ခုနဲ့ တစ်ခု ရောနှောပြီး ဖြစ်နေကြတာပါ၊ ပညာသိတဲ့အရာကို ဝိညာဏ်ကလည်း သိပါတယ်၊ ဝိညာဏ်သိတဲ့အရာကို ပညာကလည်း သိတာပါပဲ၊

ဒါကြောင့် သူတို့နှစ်ခုဟာ အမြဲတမ်း ရောနှောပြီး ဖြစ်နေကြတာပါ၊ တစ်ခုနဲ့ တစ်ခု တသီးတခြား ခွဲထားလို့ မရပါဘူး။

**မေး။** ဒါဆိုရင် ပညာနဲ့ ဝိညာဏ် နှစ်ခုတို့ရဲ့ ထူးခြားချက်က ဘာလဲ။

**ဖြေ။** ပညာက ပွားများအောင် ကျင့်ရမည့် တရားဖြစ်တယ်၊ ဝိညာဏ်ကတော့ ပိုင်းခြားပြီး သိရမည့်တရား ဖြစ်တယ်။ သူတို့နှစ်ခု အဲဒီလို ထူးခြား ကွဲပြားကြတယ်။

## ဝေဒနာဆိုတာ ဘာလဲ

**မေး။** ဝေဒနာ၊ ဝေဒနာ လို့ ပြောကြတယ်၊ ဘာကြောင့် ဝေဒနာလို့ ခေါ်ပါသလဲ။

**ဖြေ။** ခံစားတတ်လို့ ဝေဒနာ ခေါ်တယ်။

**မေး။** ဘာတွေကို ခံစားတတ်လို့လဲ။

**ဖြေ။** ချမ်းသာကိုလည်း ခံစားတတ်တယ်၊ ဆင်းရဲကိုလည်း ခံစားတတ်တယ်၊ ချမ်းသာမဟုတ်၊ ဆင်းရဲ မဟုတ်တာကိုလည်း ခံစားတတ်တယ်။ အဲဒီလို ခံစားတတ်လို့ ဝေဒနာလို့ ခေါ်တာ ဖြစ်ပါတယ်။

## သညာဆိုတာ ဘာလဲ

**မေး။** သညာ၊ သညာ လို့ ပြောကြတယ်၊ ဘာကြောင့် သညာလို့ ခေါ်တာပါလဲ။

**ဖြေ။** မှတ်သားတတ်လို့ သညာ ခေါ်တယ်။

**မေး။** ဘာတွေကို မှတ်သားတတ်လို့လဲ။

**ဖြေ။** ညိုတာကိုလည်း မှတ်သားတတ်တယ်၊ ဝါတာကိုလည်း မှတ်သားတတ်တယ်၊ နီတာကိုလည်း မှတ်သားတတ်တယ်၊ ဖြူတာကိုလည်း မှတ်သားတတ်တယ်။ အဲဒီလို မှတ်သားတတ်လို့ သညာလို့ ခေါ်တာ ဖြစ်ပါတယ်။



## ဝေဒနာ၊ သညာ၊ ဝိညာဏ် သုံးခု ရော၊ (သို့မဟုတ်) မရော

**မေး။** ငါ့ရှင်… ဝေဒနာရယ်၊ သညာရယ်၊ ဝိညာဏ်ရယ် ဒီသုံးခုဟာ တစ်ခုနဲ့တစ်ခု ရောနှောနေကြသလား၊ ဒါမှမဟုတ် မရောနှောဘဲ တသီးတခြားစီတွေလား။

**ဖြေ။** ငါ့ရှင်… ဒီသုံးခုဟာ တစ်ခုနဲ့ တစ်ခု ရောနေကြတာပါ။ တကွဲတပြားစီ မဟုတ်ပါဘူး၊ ဝေဒနာ ခံစားတဲ့အရာကိုပဲ သညာကလည်း မှတ်သားပါတယ်၊ သညာ မှတ်သားတာကိုလည်း ဝိညာဏ်က သိနေပါတယ်၊ ဒါကြောင့် ဒီသုံးခုဟာ အမြဲတမ်း တွဲဖြစ်နေကြတာပါ၊ တခြားစီ ဖြစ်နေကြတာ မဟုတ်ပါဘူး။

## စတုတ္ထဈာန်စိတ်ဖြင့် သိရမည့် အရာများ

**မေး။** ငါ့ရှင်… မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်ဆိုတဲ့ ဣန္ဒြေငါးမျိုးမှ အလွတ်ဖြစ်ပြီး စင်ကြယ်တဲ့ စတုတ္ထဈာန်စိတ်နဲ့ အဘယ်အရာတွေကို သိသင့်ပါသလဲ။

**ဖြေ။** ငါ့ရှင်… စတုတ္ထဈာန်စိတ်နဲ့ "ကောင်းကင်ဆိုတာ အဆုံးမရှိတဲ့ အရာပဲ" လို့ အာကာသာနဉ္စာယတနဈာန်သမာပတ်ကို သိသင့်တယ်၊ "ဝိညာဏ်ဆိုတာ အဆုံးမရှိ" လို့ ဝိညာဏဉ္စာယတန ဈာန်သမာပတ်ကို သိသင့်တယ်၊ "တစ်စုံတစ်ရာ ဘာမျှမရှိ" လို့ အာကိဉ္စညာယတနဈာန် သမာပတ်ကို သိသင့်တယ်။

**မေး။** ငါ့ရှင်… စတုတ္ထဈာန်စိတ်နဲ့ အဲဒီအရာတွေကို သိတဲ့နေရာမှာ ဘယ်လိုတရားမျိုးနဲ့ သေချာကျန ဝေခွဲပြီး သိနိုင်ပါသလဲ။

**ဖြေ။** ငါ့ရှင်…ပညာမျက်စိနဲ့ သိရမှာ ဖြစ်ပါတယ်။

**မေး။** ပညာဆိုတာ ဘယ်လိုအကျိုးရှိပါသလဲ။

**ဖြေ။** ပညာဆိုတာ အရာရာကို အထူးသိနိုင်တဲ့အကျိုး၊ ဝေခွဲပိုင်းခြား

နိုင်တဲ့ အကျိုး၊ ကိလေသာ အတားအဆီးတွေကို ပယ်နိုင်တဲ့ အကျိုးရှိပါတယ်။

**မှန်ကန်တဲ့အယူ - သမ္မာဒိဋ္ဌိဖြစ်ကြောင်း တရား နှစ်ပါး**

**မေး။** ငါ့ရှင်… သမ္မာဒိဋ္ဌိဖြစ်ကြောင်းတွေက ဘယ်လောက်ရှိပါသလဲ။

**ဖြေ။** ငါ့ရှင်… သမ္မာဒိဋ္ဌိဖြစ်ကြောင်းတွေကတော့ ၁။ ပရတော ဃောသ - သူတစ်ပါးထံကနေ သင့်လျော် လျောက်ပတ်တဲ့ တရားတော်ကို နာယူတာနဲ့ ၂။ ယောနိသော မနသိကာရ - နာယူထားတဲ့ အတိုင်း နည်းမှန်လမ်းမှန် နှလုံးသွင်း ကျင့်ကြံ အားထုတ်တာ၊ ဒီနှစ်မျိုးပဲ ဖြစ်ပါတယ်။

ဒီနေရာမှာ အရှင်မြတ်နှစ်ပါးရဲ့ အမေး၊ အဖြေကို ပိုပြီး ရှင်းရှင်းလင်းလင်း သိနိုင်ဖို့အတွက် အဋ္ဌကထာရှင်းပြချက်ကို ဖော်ပြပါဦးမယ်။

သမ္မာဒိဋ္ဌိ ဆိုတာ ဝိပဿနာဉာဏ်နဲ့ မဂ်ဉာဏ်ကို ဆိုလိုတာ ဖြစ်ပါတယ်။ ဒီ သမ္မာဒိဋ္ဌိ ဉာဏ်အမြင်ရဖို့ ဆိုရင် သာဝကတွေ အတွက်တော့ ဆိုခဲ့တဲ့ အကြောင်းနှစ်ပါး ပြည့်စုံမှ ဖြစ်နိုင်မှာပါ။ တစ်သင်္ချေနဲ့ ကမ္ဘာတစ်သိန်း ပါရမီဖြည့်ခဲ့တဲ့ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးသော်မှ မိမိအစွမ်းအစနဲ့ အဏုမြူလောက် သေးငယ်တဲ့ ကိလေသာကိုတောင် ပယ်ဖို့ရန် မစွမ်းနိုင်ပါဘူး။ အရှင် အဿဇိ မထေရ်မြတ်ထံမှ "ယေ ဓမ္မာ ဟေတုပ္ပဘဝါ" ဆိုတဲ့ တရားတော်ကို နာယူပြီး နှလုံးသွင်းလိုက်မှ ဒိဋ္ဌိနဲ့ဝိစိကိစ္ဆာ ကိလေသာနှစ်ပါးကို ပယ်နိုင်ပြီး သောတာပတ္တိမဂ်ဉာဏ်ဆိုတဲ့ သမ္မာဒိဋ္ဌိဉာဏ်အမြင်ကို ရခဲ့တာ ဖြစ်ပါတယ်။ ပစ္စေကဗုဒ္ဓါအရှင်မြတ်တွေနဲ့ သဗ္ဗညုမြတ်စွာ ဘုရားတွေမှာတော့ သူတစ်ပါးထံကနေ ဝိပဿနာတရား၊ သစ္စာတရား တွေ နာယူစရာ မလိုပါဘူး။ ယောနိသော မနသိကာရ အကြောင်း



တစ်ပါးနဲ့ပဲ နှလုံးသွင်းကျင့်ကြံလိုက်ရင် ပစ္စေကဗောဓိဉာဏ်၊ သဗ္ဗညုတဉာဏ် လို့ခေါ်တဲ့ သမ္မာဒိဋ္ဌိ ဉာဏ်အမြင်တွေ ရနိုင်ပါတယ်။

**ဘယ်လို သမ္မာဒိဋ္ဌိက အရဟတ္တမဂ်၊ အရဟတ္တဖိုလ် တရားထူးတွေကို ရစေနိုင်ပါသလဲ**

**မေး။** ငါ့ရှင်… ဘယ်လိုအကြောင်းအင်္ဂါရပ်တွေနဲ့ ထောက်ပံ့ထားတဲ့ သမ္မာဒိဋ္ဌိက အရဟတ္တမဂ်၊ အရဟတ္တဖိုလ်တရားထူးတွေကို ရစေနိုင်ပါသလဲ။

**ဖြေ။** ငါ့ရှင်… သီလ၊ သုတ၊ သာကစ္ဆာ၊ သမထ၊ ဝိပဿနာ ဆိုတဲ့ ဒီအကြောင်းအင်္ဂါ ငါးမျိုးနဲ့ ထောက်ပံ့ထားတဲ့ သမ္မာဒိဋ္ဌိ ဉာဏ်အမြင်က အရဟတ္တမဂ်၊ အရဟတ္တဖိုလ်တရားထူးတွေကို ရစေနိုင်ပါတယ်။

ဒီနေရာမှာလည်း အဋ္ဌကထာက ခုလို ရှင်းပြထားပေးပါတယ်။

သီလဆိုတာ (လူများအတွက် ငါးပါးသီလ)၊ ရဟန်းတော်များ အတွက် စတုပါရိသုဒ္ဓိသီလ ဖြစ်ပါတယ်။ သုတဆိုတာက သင့်လျော် လျောက်ပတ်တဲ့ တရားတော်ကို နာယူခြင်းပါ။ သာကစ္ဆာဆိုတာ တရားအားထုတ်တာ နည်းလမ်း မှန်၊ မမှန် ဆုံးဖြတ်ပြီး တည့်မတ်ပေးမယ့် အကြံပြုစကားကို ဆိုလိုတာပါ။ သမထဆိုတာက ဝိပဿနာရဲ့ အခြေခံ သမာဓိ ဖြစ်ပြီး၊ ဝိပဿနာဆိုတာကတော့ ဝိပဿနာရှုနည်း ခုနစ်မျိုးထဲက သင့်လျော်ရာနည်းနဲ့ ရှုမှတ်ခြင်းပဲ ဖြစ်ပါတယ်။ မှန်ပါတယ်- သီလ လုံအောင် စောင့်ထိန်း၊ သင့်လျော် လျောက်ပတ်တဲ့ တရားတော်ကို နာ၊ မမှန်တဲ့ တရားအားထုတ်နည်းကို ဖြတ်တောက်, သမာဓိကို လုံလောက်အောင် ထူထောင်ပြီး၊ ဝိပဿနာတရား ရှုမှတ် ပွားများ အားထုတ်နေရင် အရဟတ္တမဂ်၊ အရဟတ္တဖိုလ်ဆိုတဲ့ တရား ထူးကို ဧကန်မုချ ရနိုင်ပါတယ်။

ဥပမာ ချိုမြိန်တဲ့ သရက်သီးမှည့်ကို စားချင်တယ်ဆိုရင်

၁။ သရက်ပျိုးပင်လေးရဲ့ ဘေးပတ်ပတ်လည်မှာ ရေမြောင်းကလေး တူးပေးရမယ်၊

၂။ ရေ မကြာ မကြာ လောင်းပေးရမယ်၊

၃။ လောင်းလိုက်တဲ့ရေ ဘေးထွက်မသွားအောင် ဘောင်လေးသေချာခတ်ပေးရမယ်၊

၄။ သရက်ပင်လေး ဝန်းကျင်မှာ ရှိတတ်တဲ့ နွယ်တွေ၊ ထင်းခြောက်လေးတွေ၊ ခါချဉ်အုံတွေ၊ ပင့်ကူပိုးမျှင်တွေကို ဖယ်ရှားပေးရမယ်၊

၅။ ပေါက်တူးနဲ့ မကြာမကြာ အပင်ရင်းကို မြေဆွပေးရမယ်။ ဒီအကြောင်း ငါးချက်နဲ့ ပြုစုပျိုးထောင်ပေးရင် သရက်ပင်ဟာ ကြီးပြင်းလာပြီး မိမိစားလိုတဲ့ အသီးတွေ သီးလာနိုင်ပါတယ်။

ဒီဥပမာလိုပဲ သရက်ပင်ငယ်ဘေးမှာ ရေမြောင်းတူးသလိုမျိုး သီလကို စောင့်ထိန်း၊ မကြာခဏ ရေလောင်းပေးသလိုမျိုး မကြာမကြာ တရားနာပေး၊ လောင်းထားတဲ့ ရေတွေအပြင် ထွက်မသွားစေဖို့ ဘောင်ကလေး ခတ်ပေးသလို သမာဓိရအောင် အားထုတ်၊ အပင်ရဲ့ ပတ်ဝန်းကျင်မှာ ရှိတတ်တဲ့ နွယ်စတာတွေကို ဖယ်ရှားပေးသလို ကမ္မဋ္ဌာန်းအားထုတ်နည်း မှန်၊ မမှန်ကိုလည်း ကမ္မဋ္ဌာန်းဆရာနဲ့ ဆွေးနွေးပြီး မှားယွင်းတဲ့ အားထုတ်နည်းကို ဖယ်ရှား၊ သရက်ပင်ရင်းကို မကြာမကြာ ပေါက်တူးနဲ့ မြေဆွပေးသလို ဝိပဿနာဉာဏ်ပေါက်တူးနဲ့ ရုပ် နာမ်တရားတွေကို မကြာခဏ အနိစ္စ၊ ဒုက္ခ၊ အနတ္တလို့ တူးဆွရှုမှတ် နှလုံးသွင်းပေးရပါမယ်။ ဒါဆိုရင် ယောဂီပုဂ္ဂိုလ်ရဲ့ သန္တာန်မှာ အရဟတ္တမဂ်၊ အရဟတ္တဖိုလ် တရားထူး သရက်သီးမှည့်တွေ ရလာမှာ ဖြစ်ပါတယ်။

ခုလိုမျိုး သီလ၊ သုတ၊ သာကစ္ဆာ၊ သမထ၊ ဝိပဿနာဆိုတဲ့ ငါးမျိုးနဲ့ ထောက်ပံ့ပေးထားတဲ့ သမ္မာဒိဋ္ဌိ ဉာဏ်အမြင်ဟာ အရဟတ္တဖိုလ်ဆိုတဲ့ အမြင့်ဆုံး တရားကို ပေးနိုင်ပါတယ်။



**ဘဝ နဲ့ ဘဝဖြစ်ကြောင်းတရား**

**မေး။** ငါ့ရှင်… ဘဝ ဘယ်နှမျိုး ရှိပါသလဲ။

**ဖြေ။** ငါ့ရှင်… ကာမဘဝ၊ ရူပဘဝ၊ အရူပဘဝ လို့ အကျဉ်းချုပ် သုံးမျိုးရှိပါတယ်။

**မေး။** ငါ့ရှင်… ဘာကြောင့် နောက်ထပ် ဘဝသစ် ဖြစ်ရပါသလဲ။

**ဖြေ။** ငါ့ရှင်… အမှန်မသိမှု အဝိဇ္ဇာနဲ့ တပ်မက်မှု တဏှာ ရှိတဲ့ ပုဂ္ဂိုလ်သတ္တဝါတွေဟာ တွေ့ကရာ အာရုံတွေအပေါ်မှာ အလွန်နှစ်သက်မှုတွေကြောင့်ပဲ နောက်ထပ် ဘဝသစ် ဆိုတာ ဖြစ်ရတာပါ။

**မေး။** ငါ့ရှင်… ဘာကြောင့် နောက်ထပ် ဘဝသစ် မဖြစ်နိုင်သလဲ။

**ဖြေ။** ငါ့ရှင်… မသိမှု အဝိဇ္ဇာတွေ ကင်းပျောက်ပြီး သိမှု ဝိဇ္ဇာဉာဏ် အလင်းတွေ ဖြစ်လာမယ်၊ တပ်မက်မှု တဏှာတွေ ချုပ်ငြိမ်းသွားမယ်ဆိုရင်တော့ နောက်ထပ် ဘဝသစ်ဆိုတာ မဖြစ်တော့ပါဘူး။

**ပထမစျာန်**

**မေး။** ငါ့ရှင်… ပထမစျာန်ဆိုတာ ဘာလဲ။

**ဖြေ။** ငါ့ရှင်… ပထမစျာန်ကို ရလိုတဲ့ ရဟန်းဟာ ကာမဂုဏ်အာရုံတွေနဲ့လည်း ကင်းကွာပြီး နေရတယ်၊ ကိလေသာ နီဝရဏ အတားအဆီးတွေလည်း စိတ်ထဲမှာ ရှိမနေရဘူး။ စိတ်အစဉ်မှာ ကိလေသာ နီဝရဏတွေ ကင်းကွာအောင် ကြိုးစားရတယ်။ ပထမစျာန်ကို ရစေနိုင်တဲ့ ကမ္မဋ္ဌာန်းအာရုံကိုလည်း ဝိတက်နဲ့ ထပ်ကာထပ်ကာ ကြံစည်နှလုံးသွင်းပြီး ဝိစာရနဲ့ သုံးသပ်နေရတယ်၊ ဘယ်လောက် ထိအောင် ကြံစည် သုံးသပ်ရသလဲ ဆိုရင် ကိလေသာ နီဝရဏတွေကင်းပြီး ပီတိ သုခတွေ ဖြစ်လာတဲ့အထိပါပဲ။ အဲဒီလို ကြိုးစားအားထုတ်ရင် ဝိတက်၊ ဝိစာရ၊

ပီတိ သုခ အပြည့်ရှိတဲ့ ပထမဈာန်ကို ရတယ်။ ငါ့ရှင် ဒါကို ပထမဈာန်ခေါ်ပါတယ်။

**မေး။** ငါ့ရှင်… ပထမဈာန်မှာ ဈာန်အင်္ဂါ ဘယ်နှပါး ရှိသလဲ။

**ဖြေ။** ငါ့ရှင်… ပထမဈာန် ဝင်စားနေတဲ့ပုဂ္ဂိုလ်ရဲ့ သန္တာန်မှာ အာရုံကို ကြံစည်တဲ့ ဝိတက်လည်း ဖြစ်နေတယ်၊ အာရုံကို ထပ်ကာ ထပ်ကာ သုံးသပ်တဲ့ ဝိစာရလည်း ရှိနေသည်၊ ကိလေသာ နီဝရဏတွေ ကင်းနေတဲ့အတွက်ကြောင့် ဖြစ်ပေါ်လာတဲ့ နှစ်သိမ့်မှု ပီတိ၊ ချမ်းသာမှု သုခတွေလည်း ရှိနေတယ်။ ကမ္မဋ္ဌာန်းအာရုံ အပေါ်မှာ စူးစိုက်တည်နေတဲ့ စိတ်တည်ကြည်မှု ဧကဂ္ဂတာလည်း ရှိနေတယ်။ ဒါကြောင့် ပထမဈာန်မှာ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ ဆိုတဲ့ ဈာန်အင်္ဂါ ငါးမျိုး ရှိနေပါတယ်။

**မေး။** ငါ့ရှင်… ပထမဈာန်ဟာ အဘယ်မျှသော အင်္ဂါတွေကို ပယ်ပြီး အဘယ်မျှသော အင်္ဂါတွေနဲ့ ပြည့်စုံပါသလဲ။

**ဖြေ။** ငါ့ရှင်… ပထမဈာန် ဝင်စားနေတဲ့ပုဂ္ဂိုလ်ဟာ လိုချင်မှု ကာမစ္ဆန္ဒ၊ စိတ်ဆိုးမှု ဖျက်ဆီးလိုမှု ဗျာပါဒ၊ ထိုင်းမှိုင်းမှု ထိနမိဒ္ဓ၊ ပျံ့လွင့်မှု ဥဒ္ဓစ္စ နဲ့ နောင်တပူပန်မှု ကုက္ကုစ္စ၊ တွေးတော ယုံမှားမှု ဝိစိကိစ္ဆာတွေကို ပယ်ထားတာမို့ ပထမဈာန်ဟာ အင်္ဂါ ငါးမျိုးကို ပယ်ထားပြီး ဖြစ်တယ်။

နောက်ပြီး ပထမဈာန် ဝင်စားနေတဲ့ ပုဂ္ဂိုလ်မှာ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာတွေ ဖြစ်နေတာမို့ ပထမဈာန်ဟာ အင်္ဂါ ငါးမျိုးနဲ့ ပြည့်စုံနေပါတယ်။

**မေး။** ငါ့ရှင်… ကျက်စားရာ အာရုံမတူ ကွဲပြားနေကြတဲ့ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်ဆိုတဲ့ ဣန္ဒြေ ငါးမျိုးရဲ့ အားထားရာဟာ ဘာလဲ၊ အဲဒီ ဣန္ဒြေ ငါးမျိုးရဲ့ အာရုံကို ဘယ်တရားက ခံစားပါသလဲ။



**ဖြေ။** ငါ့ရှင်… သင်ပြောတဲ့ ဣန္ဒြေ ငါးမျိုးရဲ့ အားထားရာဟာ ဇောစိတ်ပဲ ဖြစ်တယ်။ အဲဒီ ဣန္ဒြေ ငါးမျိုးရဲ့ အာရုံဖြစ်တဲ့ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံတွေကို ဇောစိတ်ကပဲ ခံစားပါတယ်။

## ဣန္ဒြေ နဲ့ အသက်

**မေး။** ငါ့ရှင်… မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်ဆိုတဲ့ ဣန္ဒြေ ငါးမျိုးဟာ အဘယ်အရာကို အကြောင်းပြုပြီး တည်နေနိုင်တာပါလဲ။

**ဖြေ။** ငါ့ရှင်… ဒီ ဣန္ဒြေတွေဟာ ဇီဝိတိန္ဒြေဆိုတဲ့ အသက်ကို အကြောင်းပြုပြီး တည်နေနိုင်တာ ဖြစ်တယ်။

**မေး။** အသက်ကကော ဘာကို အကြောင်းပြုပြီး တည်နေတာလဲ။

**ဖြေ။** အသက်က ကမ္မဇတေဇော ဆိုတဲ့ ကိုယ်ငွေ့ကို အကြောင်းပြုပြီး တည်နေရတာပါ။

**မေး။** ဒါဆိုရင် အဲဒီ ကမ္မဇတေဇော ဆိုတဲ့ ကိုယ်ငွေ့ကကော ဘာကို အကြောင်းပြုပြီး ဖြစ်နေတာပါလဲ။

**ဖြေ။** ကမ္မဇတေဇော ဆိုတဲ့ ကိုယ်ငွေ့ကလည်း အသက်ကို အကြောင်းပြုပြီး တည်နေတာပါ။

**မေး။** ငါ့ရှင်… ဘယ်လိုလဲ၊ အသက်ကလည်း ကိုယ်ငွေ့ကို အကြောင်းပြုပြီး ဖြစ်နေတယ်၊ ကိုယ်ငွေ့ကလည်း အသက်ကို အကြောင်းပြုပြီး ဖြစ်နေတယ်ဆိုတော့ သင့်စကားကို ဘယ်လို နားလည်ရမလဲ။

**ဖြေ။** ငါ့ရှင်… လောက လူတွေဟာ ဥပမာနဲ့ ပြောလိုက်မှ နားလည်လွယ်ကြတာမို့ ဒီနေရာမှာ ဥပမာနဲ့ ရှင်းပြပါ့မယ်၊ ဥပမာ… ဆီမီးတိုင် ထွန်းညှိလိုက်တဲ့အခါ မီးတောက်မီးလျှံကို အကြောင်းပြုပြီး မီးရောင်ဆိုတာ ထင်ရှားရတယ်၊ မီးရောင်ကို အကြောင်း

ပြုပြီးတော့လည်း မီးတောက် မီးလျှံဟာ ထင်ရှားရတယ်။ ဒီ ဥပမာလိုပဲ အသက်ဆိုတာ ကိုယ်ငွေ့ကို အကြောင်းပြုပြီး ဖြစ်နေရတယ်။ ကိုယ်ငွေ့ဆိုတာလည်း အသက်အပေါ်မှာပဲ တည်မှီ အကြောင်းပြုပြီး ဖြစ်နေရပါတယ်။

### အသက် နဲ့ ခံစားချက်တို့ တစ်ခုထဲလား၊ တခြားစီလား

**မေး။** ငါ့ရှင်··· အသက်သည်ပင် ခံစားတတ်တဲ့ သဘောတရားလား။ ဒါမှမဟုတ် အသက်က တခြား၊ ခံစားတတ်တဲ့သဘောက တခြားလား။

**ဖြေ။** ငါ့ရှင်··· အသက်သည်ပင် ခံစားတတ်တဲ့သဘော မဟုတ်ပါ။ တကယ်လို့ အသက်သည်ပင် ခံစားတတ်တဲ့သဘော(ဝေဒနာ) ဖြစ်ခဲ့မယ်ဆိုရင် နိရောဓသမာပတ် ဝင်စားတဲ့ပုဂ္ဂိုလ်ဟာ ပြန်ထလာစရာကို အကြောင်းမရှိတော့ဘူး။ (ဘာလို့လဲဆိုတော့ နိရောဓသမာပတ် ဝင်စားတဲ့ ပုဂ္ဂိုလ်ရဲ့ သန္တာန်မှာ စိတ်၊ စေတသိက်၊ စိတ္တဇရုပ်တွေ ချုပ်ကုန်တာမို့ အသက်နဲ့ ခံစားမှု ဝေဒနာဆိုတဲ့ နာမ်တရား အတူတူ ဆိုရင် အသက်-ဝေဒနာ ချုပ်သွားပြီဖြစ်တယ်။ ဒီလိုဆိုရင် သမာပတ်က ပြန်ထလို့ မရတော့ဘူး။ သေသွားဖို့ပဲ ရှိတော့တယ်။)

ခုတော့ အသက်က တခြား၊ ခံစားတတ်တဲ့သဘော (ဝေဒနာ) က တခြားမို့ နိရောဓသမာပတ် ဝင်စားတဲ့ပုဂ္ဂိုလ် သမာပတ်ကနေ ပြန်ထလို့ ရတာ ဖြစ်ပါတယ်။

### ဘယ်တရားတွေ စွန့်သွားရင် သေတယ် ခေါ်သလဲ

**မေး။** ငါ့ရှင်··· ဒီ ခန္ဓာကိုယ်ကနေ ဘယ်တရားတွေ စွန့်သွားတဲ့အခါ စိတ်စေတနာမရှိတဲ့ ထင်းတုံးလို အသုံးမကျဘဲ လဲလျောင်းနေရတဲ့ အသေကောင် ဖြစ်သွားပါသလဲ။



**ဖြေ။** ငါ့ရှင်··· ဒီ ခန္ဓာကိုယ်ကနေ အာယု ခေါ်တဲ့ အသက်ရယ်၊ ဥသ္မာ လို့ ခေါ်တဲ့ ကိုယ်ငွေ့ရယ်၊ စိတ် ဝိညာဏ်ရယ် ဒီသုံးမျိုး ခန္ဓာကိုယ်ကနေ စွန့်ခွာသွားတဲ့အခါ ဒီ ခန္ဓာကိုယ်ကြီးဟာ စိတ်စေတနာ မရှိတဲ့ ထင်းတုံးလို အသုံးမကျတဲ့ အလောင်းကောင် ဖြစ်ပြီး လဲလျောင်းနေရတော့တာ ဖြစ်ပါတယ်။

### သေသူ နဲ့ နိရောဓသမာပတ်ဝင်စားတဲ့သူ ဘယ်လိုထူးသလဲ

**မေး။** ငါ့ရှင်··· သေသွားတဲ့ပုဂ္ဂိုလ်နဲ့ နိရောဓသမာပတ်ဝင်စားနေတဲ့သူ ဘယ်လို ထူးပါသလဲ။

**ဖြေ။** ငါ့ရှင်··· သေတဲ့ပုဂ္ဂိုလ်မှာ ထွက်လေ ဝင်လေ ချုပ်ငြိမ်းသွားပြီ၊ ဝိတက်၊ ဝိစာရတွေ၊ သညာ၊ ဝေဒနာတွေလည်း ချုပ်ငြိမ်းသွားပြီ။ ဒါအပြင် အသက်လည်း ကုန်၊ ကိုယ်ငွေ့လည်း ငြိမ်းပြီး မျက်စိ စတဲ့ ဣန္ဒြေတွေလည်း ပျက်စီးကုန်ကြပါတယ်။

နိရောဓသမာပတ်ဝင်စားနေတဲ့ပုဂ္ဂိုလ်မှာတော့ ထွက်လေ ဝင်လေတွေ၊ ဝိတက် ဝိစာရ၊ သညာ ဝေဒနာတွေ ချုပ်ငြိမ်းနေပေမယ့် အသက်လည်း မကုန်၊ ကိုယ်ငွေ့လည်း မငြိမ်းဘဲ မျက်စိစတဲ့ ဣန္ဒြေတွေကလည်း ပိုပြီး ကြည်လင်နေပါတယ်။ ဒါဟာ သေသူနဲ့ နိရောဓသမာပတ် ဝင်စားနေသူတွေရဲ့ ထူးခြားချက်ပဲ ဖြစ်ပါတယ်။

### စတုတ္ထဈာန် ဖြစ်ကြောင်း ၃ မျိုး

**မေး။** ငါ့ရှင်··· စတုတ္ထဈာန်သမာပတ်ရဲ့ အကြောင်းတရားတွေက ဘယ်လောက်ရှိပါသလဲ။

**ဖြေ။** ငါ့ရှင် စတုတ္ထဈာန်သမာပတ်ရဲ့ အကြောင်းတရားတွေက ၄ မျိုးရှိပါတယ်။ ကိုယ်ဆင်းရဲမှု၊ ကိုယ်ချမ်းသာမှု၊ စိတ်ဆင်းရဲမှုနှင့် စိတ်ချမ်းသာမှု လေးမျိုးကို ပယ်နိုင်၊ ချုပ်ငြိမ်းအောင် လုပ်နိုင်မှ ဆင်းရဲလည်းမရှိ ချမ်းသာလည်းမရှိတဲ့ သတိ စင်ကြယ်မှု

ရှိတဲ့ စတုတ္ထဈာန်ကို ရနိုင်တာမို့ စတုတ္ထ ဈာန်သမာပတ်ရဲ့ အကြောင်းတရားဟာ လေးမျိုးရှိပါတယ်။

**ဖလသမာပတ် ဖြစ်ကြောင်းနဲ့ ဖလသမာပတ်မှ ထမြောက်ကြောင်း**

**မေး။** ငါ့ရှင်… နိရောဓသမာပတ်ဝင်စားရာမှ ထမြောက်ခါစ ပုဂ္ဂိုလ် သန္တာန်မှာ ဖြစ်တဲ့ ဖလသမာပတ်ရဲ့ အကြောင်းတရားကကော ဘယ်လောက် ရှိပါသလဲ။

**ဖြေ။** ငါ့ရှင်… သင်္ခါရ နိမိတ်အာရုံတွေကို နှလုံးမသွင်းခြင်း၊ နိဗ္ဗာန် အာရုံကိုသာ အာရုံပြုခြင်း၊ ဒီ နှစ်မျိုးဟာ နိရောဓသမာပတ် ဝင်စားရာမှ ထမြောက်ခါစ ဖိုလ်စိတ်ဖြစ်တဲ့ ပုဂ္ဂိုလ်သန္တာန်မှာ ဖြစ်တဲ့ ဖလသမာပတ်ရဲ့ အကြောင်းတရားတွေပဲ ဖြစ်ပါတယ်။

**မေး။** ငါ့ရှင်… ဝဋ္ဋဒုက္ခဖလသမာပတ် တည်တံ့ခြင်းရဲ့ အကြောင်း ကကော ဘယ်လောက်ရှိပါသလဲ။

**ဖြေ။** ငါ့ရှင်… ဝဋ္ဋဒုက္ခ ဖလသမာပတ် တည်တံ့ရန်အတွက် သင်္ခါရ နိမိတ်အာရုံတွေကို နှလုံးမသွင်းခြင်းရယ်၊ နိဗ္ဗာန်အာရုံကိုသာ အာရုံပြုခြင်းရယ်၊ ဖလသမာပတ် မဝင်စားမီကပဲ အသက် အပိုင်းအခြားကို ပြုစီမံထားခြင်းရယ် ဆိုပြီး အကြောင်း သုံးမျိုး ရှိပါတယ်။

**မေး။** ငါ့ရှင်… ဖလသမာပတ်ဝင်စားရာမှ ထဖို့ရန် အကြောင်းတရား ကကော ဘယ်လောက် ရှိပါသလဲ။

**ဖြေ။** ငါ့ရှင်… ဖလသမာပတ် ဝင်စားရမှ ထဖို့ဆိုရင် သင်္ခါရ နိမိတ် အာရုံကို နှလုံးသွင်းရခြင်း၊ နိဗ္ဗာန် အာရုံကို ဆက်ပြီး နှလုံး မသွင်းရခြင်း လို့ နှစ်မျိုး ရှိပါတယ်။

**သမာပတ်လေးမျိုး တူသလား၊ ထူးသလား**

**မေး။** ငါ့ရှင်… သမာပတ်ဟာ အပ္ပမာဏ စေတောဝိမုတ္တိ၊ အာကိဉ္စညာ



စေတောဝိမုတ္တိ၊ သုညတာ စေတောဝိမုတ္တိ၊ အနိမိတ္တာ စေတော ဝိမုတ္တိ လို့ လေးမျိုး ရှိပါတယ်။ ဒီသမာပတ်လေးမျိုးဟာ အနက်လည်း ထူး၊ သဒ္ဒါလည်း ထူးသလား၊ ဒါမှမဟုတ် အနက်တော့ တူတယ်၊ သဒ္ဒါလောက်ပဲ ထူးပါသလား။

**ဖြေ။** ငါ့ရှင်… ဒီ သမာပတ်လေးမျိုးဟာ အနက်လည်းထူး, သဒ္ဒါလည်း ထူးတယ်လို့ ဆိုရင်လည်း ဆိုလို့ရတယ်။ ဒါမှ မဟုတ် အနက်တော့ တူတယ်၊ သဒ္ဒါလောက်ပဲ ထူးတယ်လို့ ဆိုရင်လည်း ရတယ်။

**မေး။** ငါ့ရှင်… ဘယ်လို အကြောင်းပရိယာယ်ကြောင့် ဒီလေးမျိုးကို အနက်လည်း ထူးတယ်၊ သဒ္ဒါလည်း ထူးတယ်လို့ ဆိုနိုင်တာ လဲ။

**ဖြေ။** ငါ့ရှင်… အရပ်ဆယ်မျက်နှာမှာ ရှိတဲ့ မရေမတွက်နိုင်တဲ့ သတ္တဝါတွေအပေါ်မှာ မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဆိုတဲ့ ဗြဟ္မဝိဟာရတရားလေးမျိုးကို ပွားများပြီး နေတယ်ဆိုရင် အဲဒီ ဗြဟ္မဝိဟာရ တရားလေးပါးကို အပ္ပမာဏ စေတော ဝိမုတ္တိလို့ ခေါ်တယ်။

ဝိညာဏဉ္စာယတနဈာန်ကို လွန်မြောက်ပြီး အာကိဉ္စညာ ယတနဈာန်သမာပတ်ကို ဝင်စားနေတယ်ဆိုရင် အာကိဉ္စညာယတန ဈာန်သမာပတ်ကို အာကိဉ္စညာ စေတောဝိမုတ္တိလို့ ခေါ်တယ်။

တိတ်ဆိတ်တဲ့နေရာမှာ သွားပြီး ဝိပဿနာတရား အားထုတ် တဲ့အခါ

"ဒီ ဝိပဿနာဉာဏ်ဟာ အတ္တမှလည်း ဆိတ်သုဉ်းတဲ့ တရား၊ အတ္တရဲ့ ဥစ္စာမှလည်း ဆိတ်သုဉ်းတဲ့တရားပဲ" လို့ ဆင်ခြင် တယ်။ ဒီ အတ္တ၊ အတ္တနိယမှ ဆိတ်သုဉ်းတဲ့ ဝိပဿနာဉာဏ်ကို သုညတာ စေတောဝိမုတ္တိလို့ ခေါ်တယ်။

သင်္ခါရနိမိတ်အာရုံကို နှလုံးမသွင်းဘဲ နိဗ္ဗာန်ကိုသာ အာရုံပြု ပြီး ဖလသမာပတ် ဝင်စားနေတဲ့ အခါမှာ ဖြစ်တဲ့ ဖလသမာပတ်ကို အနိမိတ္တာ စေတောဝိမုတ္တိလို့ ခေါ်တယ်။

ဒီအတိုင်းဆိုရင် သမာပတ်လေးပါးဟာ အရဟတ္တဖလလည်း မတူ၊ အဓိပ္ပာယ်လည်း မတူတဲ့အတွက် အနက်လည်းထူး၊ သဒ္ဒါလည်း ထူးတယ်လို့ ဆိုရတာ ဖြစ်ပါတယ်။

**မေး။** ငါ့ရှင်… ဘယ်လို အကြောင်းကြောင့် ဒီ သမာပတ်လေးပါးကို အနက်တော့ တူတယ်၊ သဒ္ဒါလောက်ပဲ ကွဲတယ်လို့ ဆိုနိုင် တာလဲ။

**ဖြေ။** ငါ့ရှင်… ရာဂ၊ ဒေါသ၊ မောဟတွေဆိုတာ တိုင်းတာ ပိုင်းခြား တတ်တဲ့အတွက်ကြောင့် ပမာဏတရားတွေ ဖြစ်တယ်။ နှိပ်နယ် ဖျက်ဆီးတတ်တဲ့အတွက်ကြောင့် ကိဉ္စနတရားတွေ ဖြစ်တယ်။ ပုထုဇဉ်ရဲ့ အမှတ်အသားဖြစ်တဲ့အတွက် နိမိတ္တတရားတွေလည်း ဖြစ်တယ်။ ရဟန္တာပုဂ္ဂိုလ်ဟာ ဒီလို ပမာဏအမည်ရတဲ့၊ ကိဉ္စန အမည်ရတဲ့၊ နိမိတ္တအမည်ရတဲ့ လောဘ၊ ဒေါသ၊ မောဟတွေကို အမြစ်ပြတ် ပယ်ပြီးဖြစ်တယ်။

ဒါကြောင့် ရဟန္တာပုဂ္ဂိုလ်ရဲ့ ဖလသမာပတ်ဟာ ပမာဏဖြစ် တဲ့ လောဘ၊ ဒေါသ၊ မောဟတွေ မရှိလို့ အပ္ပမာဏစေတောဝိမုတ္တိ မည်တယ်။ ကိဉ္စနအမည်ရတဲ့ လောဘ၊ ဒေါသ၊ မောဟတွေ မရှိလို့ အာကိဉ္စညာ စေတောဝိမုတ္တိလည်း မည်တယ်။ ရာဂ၊ ဒေါသ၊ မောဟ တွေ ကင်းဆိတ်နေလို့ သုညတာ စေတောဝိမုတ္တိလည်း မည်တယ်။ နိမိတ္တ အမှတ်အသားဖြစ်တဲ့ လောဘ၊ ဒေါသ၊ မောဟတွေ မရှိလို့ အနိမိတ္တာ စေတောဝိမုတ္တိလည်း မည်တယ်။ ဒီနည်းအရ သမာပတ် လေးပါးလုံးရဲ့ အရဟတ္တဖလဟာ ဖလသမာပတ်ချည်းပဲ ဖြစ်တာမို့ အနက် အရကောက် တူတယ်၊ ဒါပေမယ့် သဒ္ဒါအနေထားကတော့ ထူးတယ်လို့ ဆိုရတာ ဖြစ်ပါတယ်။



ယခုလို အရှင်မဟာကောဋ္ဌိက အရှင်မြတ်က တရားပိုင်း ဆိုင်ရာ အလွန်ခက်ခဲ နက်နဲ သိမ်မွေ့လှတဲ့ ပြဿနာတွေကို မေးခဲ့ပါ တယ်။ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကလည်း မေးလာသမျှ မေးခွန်းတွေကို ဖြေဆိုပေးတော်မူခဲ့ပါတယ်။ အရှင်မဟာကောဋ္ဌိက အရှင်မြတ်ဟာ အရှင်သာရိပုတ္တရာ ဖြေသမျှကို နှစ်သက်သဘောကျ ဝမ်းမြောက်ခဲ့ပါတယ်။

ဒီ မဟာဝေဒလ္လသုတ်ကို အကြောင်းပြုပြီး အရှင်မဟာ ကောဋ္ဌိက မထေရ်ဟာ ပဋိသမ္ဘိဒါဉာဏ်အရာ အသာဆုံး ဧတဒဂ်ကို ရတော်မူခဲ့တာ ဖြစ်ပါတယ်။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ၊ ၂၂၂။

၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း၊ ၄၃၃။

၃။ မူလပဏ္ဏာသပါဠိတော်၊ ၃၇၃။

၄။ မူလပဏ္ဏာသအဋ္ဌကထာ၊ ဒုတိယတွဲ၊ ၂၃၄။

၅။ အပဒါန်ပါဠိတော်၊ ၂၊ ၁၃၁။

၆။ အပဒါန်အဋ္ဌကထာ၊ ၂၊ ၂၃၉။

၇။ ထေရဂါထာပါဠိ၊ ၂၂၀။

၈။ ထေရဂါထာအဋ္ဌကထာ၊ ၁၊ ၃၄။



ဗဟုသုတ – အကြားအမြင် များသည့်အရာ အသာဆုံး၊
သတိမန္တ – စုဋ္ဌတရားတော် ကြာကြာဆောင်နိုင်သည့် သတိအရာ အသာဆုံး၊
ဂတိမန္တ – ဓမ္မတရားတော် သိမှတ်နိုင်သည့် အသိဉာဏ်ရှိသည့်အရာ အသာဆုံး၊
ဓိတိမန္တ – ဖွဲ့လဝီရိယအားကောင်းသည့်အရာ အသာဆုံး၊
ဥပဋ္ဌာက – မြတ်စွာဘုရားကို လုပ်ကျွေးပြုစုသည့်အရာ အသာဆုံး၊

## ဧတဒဂ်ငါးတန်ရ

# အရှင်အာနန္ဒာမထေရ်

အရှင်အာနန္ဒာ မထေရ်ဟာ မြတ်စွာဘုရား သာသနာတော်မှာ ဧတဒဂ် ငါးမျိုး ရရှိခဲ့တဲ့ တစ်ပါးတည်းသော မထေရ်ဖြစ်ပါတယ်။ အရှင်မြတ်ရတဲ့ ဧတဒဂ်တွေကတော့ ဗဟုသုတ ဧတဒဂ်၊ သတိမန္တ ဧတဒဂ်၊ ဂတိမန္တ ဧတဒဂ်၊ ဓိတိမန္တ ဧတဒဂ်နဲ့ ဥပဋ္ဌာက ဧတဒဂ်တွေပဲ ဖြစ်ပါတယ်။

တခြား ဗဟုသုတ၊ သတိမန္တ၊ ဂတိမန္တ၊ ဓိတိမန္တ၊ ဥပဋ္ဌာက မထေရ်တွေလည်း များစွာရှိပါတယ်။ ဒါပေမယ့် အရှင်အာနန္ဒာမထေရ်ဟာ (၁) မြတ်စွာဘုရား တရားတော်တွေကို သင်ယူတဲ့အခါ တရားဘဏ္ဍာစိုးအနေနဲ့ သင်ယူခဲ့တာမို့ ဗဟုသုတရှိတဲ့ မထေရ်တွေထဲမှာ အသာဆုံး၊ (၂) အရှင်မြတ်ရဲ့ မြတ်စွာဘုရားတရားတော်တွေကို သင်ယူပြီး ဆောင်ထားနိုင်တဲ့ သတိက အခြားမထေရ်တွေထက် ပိုပြီး အားကြီးတာမို့ သတိမန္တ - သတိရှိတဲ့အရာ အသာဆုံး၊ (၃) အရှင်မြတ်ဟာ ပုဒ်တစ်ပုဒ်မှာတည်ပြီး ပုဒ်ပေါင်းခြောက်သောင်း ချဲ့ယူကာ မြတ်စွာဘုရား ဟောတဲ့နည်းအတိုင်း ပုဒ်အားလုံးကို သိနိုင်တဲ့ အသိပညာရှိတဲ့အတွက် ဂတိမန္တ - အသိပညာရှိတဲ့အရာ အသာဆုံး၊ (၄) အရှင်မြတ်ရဲ့ ဘုရားတရားတော်ကို သင်ယူတဲ့အခါ အားထုတ်တဲ့ ဝီရိယ၊ ရွတ်အံသရဇ္ဈာယ်တဲ့ ဝီရိယ၊ ဆောင်ယူတဲ့ဝီရိယ၊ မြတ်စွာဘုရားကို လုပ်ကျွေးပြုစုတဲ့ ဝီရိယတွေဟာ အခြားမထေရ်တွေနဲ့ မတူဘဲ ပိုပြီးကောင်းတဲ့အတွက် ဓိတိမန္တ - ဝီရိယရှိတဲ့အရာ အသာဆုံး၊ (၅) အရှင်မြတ်ဟာ မြတ်စွာဘုရားကို ပြုစုလုပ်ကျွေးတဲ့နေရာမှာ အခြားမထေရ်တွေလို မဟုတ်ဘဲ အမြဲမပြတ် ဆည်းကပ်လုပ်ကျွေး ပြုစုခဲ့တယ်။ အခြားမထေရ်တွေက မြတ်စွာဘုရားကို ကာလတာရှည် မပြုစုနိုင်ကြဘူး၊ နောက်ပြီး ဘုရားအလိုတော်ကျအောင်လည်း မပြုစုနိုင်ကြဘူး။ အရှင်အာနန္ဒာ မထေရ်ကတော့ အလုပ်အကျွေး ဥပဋ္ဌာကရာထူး ရတဲ့နေ့ကစပြီး ကြိုးစားပမ်းစား ပြုစုလုပ်ကျွေးတယ်၊ မြတ်စွာဘုရားရဲ့ အလိုတော်ကျအောင်လည်း ပြုစုတတ်တယ်။ ဒါကြောင့် ဥပဋ္ဌာက - မြတ်စွာဘုရားကို ပြုစုလုပ်ကျွေးတဲ့အရာမှာလည်း အသာဆုံး ဧတဒဂ်တွေ ရခဲ့တာ ဖြစ်ပါတယ်။



**(က) အရှင်အာနန္ဒာမထေရ်၏ ရှေးပါရမီ ကောင်းမှု**

လက်ရှိကမ္ဘာကနေ နောက်ပြန်ရေတွက်လိုက်ရင် ကမ္ဘာတစ်သိန်းကာလအထက်မှာ ပဒုမုတ္တရ မြတ်စွာဘုရားရှင် ပွင့်တော်မူခဲ့ပါတယ်။ ပဒုမုတ္တရ ဘုရားရှင်ရဲ့ ပွင့်တော်မူရာ မြို့တော်က ဟံသာဝတီ မင်းနေပြည်တော် ဖြစ်ပြီး ခမည်းတော်နဲ့ မယ်တော်တို့ကတော့ နန္ဒ ရှင်ဘုရင်နဲ့ သုမေဓာ မိဖုရားတို့ ဖြစ်ပါတယ်။ အရှင်ဒေဝလနဲ့ အရှင်သုဇာတတို့က လက်ယာတော်ရံနဲ့ လက်ဝဲတော်ရံ အဂ္ဂသာဝကများ ဖြစ်ကြပြီး အရှင်သုမနကတော့ မြတ်စွာဘုရားရဲ့ အလုပ်အကျွေး ဖြစ်ပါတယ်။ ပဒုမုတ္တရ မြတ်စွာဘုရားရှင်ဟာ ဖခမည်းတော် နန္ဒမင်းကြီးကို ချီးမြှောက်တဲ့အနေနဲ့ နောက်ပါရဟန္တာတစ်သိန်း ခြံရံပြီး ဟံသာဝတီမင်းနေပြည်တော်မှာပဲ သီတင်းသုံးတော်မူပါတယ်။

ပဒုမုတ္တရ မြတ်စွာဘုရားရဲ့ လူ့ဘဝတုန်းက ဖတူမိကွဲ ညီတော်က အရှင်အာနန္ဒာအလောင်း သုမနမင်းသား ဖြစ်ပါတယ်။ ခမည်းတော် နန္ဒရှင်ဘုရင်က သုမနမင်းသားလေးကို ဟံသာဝတီမင်းနေပြည်တော်နဲ့ ယူဇနာ ၁၂၀-ဝေးကွာတဲ့ ဘောဂရွာကို အပိုင်စား ပေးခဲ့ပါတယ်။ သုမနမင်းသားဟာ တစ်ခါတစ်ခါမှ နေပြည်တော်ကို ပြန်လာပြီး နောင်တော် ပဒုမုတ္တရ မြတ်စွာဘုရားနဲ့ ခမည်းတော် နန္ဒ ရှင်ဘုရင်တို့ကို ဖူးတွေ့ ဖူးမြော်ရပါတယ်။

တစ်ခါမှာတော့ တိုင်းပြည်အစွန်အဖျား ပစ္စန္တရစ်နယ်ပယ် ဒေသတွေမှာ ခိုးသားဓားပြတွေ ထကြွ သောင်းကျန်းနေတာနဲ့ အဲဒီ ခိုးသားဓားပြတွေကို နှိမ်နင်းဖို့အတွက် နန္ဒဘုရင်ကြီးက သုမနမင်းသားကို တာဝန်ပေးခဲ့ပါတယ်။ သုမနမင်းသားဟာ ခိုးသားဓားပြတွေကို နှိမ်နင်းပြီးတဲ့နောက် ပစ္စန္တရစ်ဒေသ အေးချမ်းသာယာသွားပြီဖြစ်တဲ့ အကြောင်း ဘုရင်ကြီးထံ တမန်နဲ့ သတင်းစကား လျှောက်တင်လိုက်ပါတယ်။ နန္ဒဘုရင်ကြီးလည်း နှစ်သက်အားရ ဝမ်းမြောက်တော်မူပြီး

ဆုတော်လာဘ်တော် ချီးမြှင့်ဖို့ရန်အတွက် သားတော် သုမနမင်းသားကို နေပြည်တော်ကို အမြန်လာခဲ့ဖို့ မိန့်ကြားခဲ့ပါတယ်။

သုမနမင်းသားမှာ အခြွေအရံ အမတ်ပေါင်း တစ်ထောင်ရှိပါတယ်။ သုမနမင်းသားဟာ အခြွေအရံ အမတ်တွေနဲ့အတူ နေပြည်တော်ကို လာတဲ့ လမ်းခရီးအကြားမှာပဲ ဘုရင်ကြီးက ဆုတော်လာဘ်တော် ဆုချမယ်ဆိုရင် ဘယ်လိုဆုမျိုးကို တောင်းသင့်သလဲလို့ တိုင်ပင်ပါတယ်။ တချို့ အမတ်တွေက ဆင်တွေ၊ မြင်းတွေ တောင်းဖို့၊ တချို့ အမတ်တွေက ရတနာခုနစ်ပါးတောင်းဖို့ စသဖြင့် အကြံပေးကြတယ်။ တချို့အမတ်တွေကတော့ "မင်းသား… သင်ဟာ ဘုရင့်သားတော်ဖြစ်တဲ့အတွက် သင့်အဖို့ရာ ပစ္စည်းဥစ္စာတွေဆိုတာ ရဖို့ မခဲယဉ်းပါဘူး။ ဒီ ပစ္စည်းဥစ္စာတွေဆိုတာ သေရင် အကုန်ထားခဲ့ရမှာဖြစ်ပြီး ကုသိုလ်ကိုသာ ယူသွားနိုင်မှာ ဖြစ်ပါတယ်။ ဒါကြောင့် သင့်ကို ဘုရင်ကြီးက ဆုပေးခဲ့မယ် ဆိုရင် ပဒုမုတ္တရဘုရားရှင်ကို ဝါတွင်းသုံးလလုံးလုံး ပြုစုလုပ်ကျွေး လှူဒါန်းခွင့်ဆိုတဲ့ ဆုကိုပဲ တောင်းဆိုပါ" လို့ အကြံပေးကြတယ်။

ဒီအခါ သုမနမင်းသားက "သင်တို့ဟာ ငါ့ရဲ့ မိတ်ကောင်းဆွေကောင်းတွေပဲ ဖြစ်တယ်၊ သင်တို့ တွေးသလိုမျိုး ငါတောင် မတွေးမိဘူး၊ ခုတော့ သင်တို့က အကြံကောင်း ပေးခဲ့တယ်၊ ငါ သင်တို့ ပြောတဲ့အတိုင်း တောင်းဆိုပါမယ်" လို့ ပြန်ပြောခဲ့တယ်။ သုမနမင်းသား နေပြည်တော်ကို ရောက်လို့ ခမည်းတော် နန္ဒဘုရင်ကြီးကို ရှိခိုးကန်တော့ပြီးတယ်ဆိုရင်ပဲ ဘုရင်ကြီးက အားရဝမ်းသာစွာနဲ့ သားတော်ကို ပွေ့ဖက်၊ နဖူးကို နမ်းရှုပ်လိုက်ပြီး "သားတော်… သင့်ကို လိုရာဆု ပေးသနားတော်မူမယ်" လို့ မိန့်တော်မူလိုက်ပါတယ်။ သုမနမင်းသားက "မြတ်သောမင်းကြီး… အကျွန်ုပ်ဟာ နောင်တော် ပဒုမုတ္တရ မြတ်စွာဘုရားကို ဝါတွင်းသုံးလလုံးလုံး ပစ္စည်းလေးပါး



လှူဒါန်းပြီး ပြုစုလုပ်ကျွေးချင်ပါတယ်၊ ဒီဆုကို ပေးသနားတော်မူပါ"လို့ လျှောက်တင်လိုက်တယ်။

နန္ဒ ရှင်ဘုရင်ကြီးက "သားတော်… ဒီဆုတော့ မပေးနိုင်ပါ၊ အခြား လိုရာဆုတောင်းပါ" လို့ မိန့်ပါတယ်။ သုမနမင်းသားက "အရှင်မင်းကြီး… ရှင်ဘုရင်တွေ ဆိုတာ စကားနှစ်မျိုး မပြောသင့်ပါဘူး၊ မင်းမှာ သစ္စာ၊ လူမှာ ကတိလို့ ဆိုရိုးရှိပါတယ်၊ ဒါကြောင့် သားတော်တောင်းတဲ့ဆုကိုပဲ လိုချင်ပါတယ်၊ အခြားဆုကို မလိုချင်ပါ" လို့ ပြန်လည်လျှောက်တင်ခဲ့ပါတယ်။ ဒီအခါ နန္ဒဘုရင်ကြီးက "သားတော်… ဘုရားရှင်တွေရဲ့ စိတ်တော်ဟာ အသိရခက်လှပါတယ်၊ တကယ်လို့ ငါက ဘုရားပင့်ဖို့ သင့်ကို ခွင့်ပေးပေမယ့် ဘုရားရှင်က ဆန္ဒမရှိခဲ့ရင် ဘာတတ်နိုင်မှာလဲ" လို့ မိန့်ကြားပါတယ်။ ဒီအခါ သုမနမင်းသားက "ဖခမည်းတော်မင်းကြီး… ကောင်းပါပြီ၊ မြတ်စွာဘုရားရှင်ရဲ့ စိတ်တော်ကို အကျွန်ုပ်ကိုယ်တိုင် သိအောင် လုပ်ပါ့မယ်" လို့ သံတော်ဦးတင်ပြီး ဘုရားသီတင်းသုံးရာ ကျောင်းတော်ကို ထွက်သွားခဲ့ပါတယ်။

အဲဒီအချိန်မှာ ပဒုမုတ္တရ မြတ်စွာဘုရားရှင်ဟာ နေ့ဆွမ်းစားပြီးချိန် ဖြစ်တာမို့ ဂန္ဓကုဋီ ကျောင်းတော်အတွင်းမှာ သီတင်းသုံးနေတော်မူပါတယ်။ သုမနမင်းသားဟာ ကျောင်းဝင်းအတွင်းမှာရှိတဲ့ ညီမူရာခန်းမဆောင်ကြီးမှာ စုဝေးနေကြတဲ့ ရဟန်းတော်တွေထံ ချဉ်းကပ်ခဲ့ပါတယ်။ ရဟန်းတော်တွေက ဘာလုပ်ဖို့ လာတာလဲလို့ မေးတဲ့အတွက် သုမနမင်းသားက ဘုရားရှင်ကို ဖူးမြော်ဖို့ လာတာဖြစ်ကြောင်း၊ ဒါကြောင့် ဘုရားရှင်ဖူးခွင့် ရလိုပါကြောင်း လျှောက်ထားခဲ့ပါတယ်။ ဒီအခါ ရဟန်းတွေက "မင်းသား…ငါတို့ဟာ အလိုရှိတဲ့အခါတိုင်း ဘုရားကို ဖူးမြော်ခွင့်မရကြဘူး"လို့ မိန့်လိုက်တဲ့အတွက် သုမနမင်းသားက ဆက်ပြီး "ဒါဆိုရင် အရှင်ဘုရားတို့… ဘယ်

မထေရ်ကတော့ အလိုရှိတိုင်း ဖူးတွေ့ခွင့် ရပါသလဲဘုရား''လို့ မေးလျှောက်ပါတယ်။

ရဟန်းတွေက ''မင်းသား... သုမနမထေရ်ကတော့ ဘုရားကို အလိုရှိတဲ့အချိန်တိုင်းမှာ ဖူးတွေ့ခွင့် ရထားသူဖြစ်တယ်'' လို့ မိန့်လိုက်တော့ သုမနမင်းသားက သုမနမထေရ်ရှိရာကို မေးမြန်းပြီး သွားရောက်ကာ ''အရှင်ဘုရား... တပည့်တော် မြတ်စွာဘုရားကို ဖူးမြော်ချင်ပါတယ်၊ တပည့်တော်ကို ဘုရားရှင်နဲ့ တွေ့ခွင့်ပေးပါဘုရား'' လို့ လျှောက်ထားခဲ့ပါတယ်။ ဒီအခါ သုမနမထေရ်ဟာ မင်းသား ကြည့်နေစဉ်မှာပဲ အာပေါကသိုဏ်း ဝင်စားလိုက်ပြီး မြေပြင်ကို ရေပြင်ဖြစ်အောင် ဖန်ဆင်းလိုက်ပါတယ်။ နောက်ပြီး ရေထဲငုပ်သွားပြီး ဘုရားသီတင်းသုံးရာ ဂန္ဓကုဋီကျောင်းတော်မှာ ဘွားခနဲ ကိုယ်ထင်ရှား ဖြစ်ပေါ်ခဲ့တယ်။ နောက်ပြီး မြတ်စွာဘုရားကို သုမနမင်းသားက ဖူးတွေ့ခွင့် ရလိုပါကြောင်း လျှောက်ထားလိုက်ပါတယ်။ ဒီအခါ မြတ်စွာဘုရားက ဂန္ဓကုဋီ ကျောင်းတော်ဘေးနားက ကျောင်းပရိဝုဏ်အတွင်းမှာ နေရာခင်းဖို့ မိန့်ကြားလိုက်တာနဲ့ သုမနမထေရ်ဟာ သုမနမင်းသား ကြည့်နေတုန်းမှာပဲ မြတ်စွာဘုရား ထိုင်တော်မူရာ အခင်းကို ယူပြီးနောက် ဂန္ဓကုဋီကျောင်းတော်မှာ ငုပ်လျှိုးကွယ်ပျောက်ခဲ့ပြီး အပြင်ဘက် ပရိဝုဏ်အတွင်းမှာ ကိုယ်ထင်ရှားပေါ်ကာ မြတ်စွာဘုရားအတွက် နေရာခင်းလိုက်ပါတယ်။ သုမနမင်းသားဟာ သုမနမထေရ်ရဲ့ ထူးဆန်းအံ့သြဖွယ်ကို ကြည့်ပြီး 'သြော်... ဒီရဟန်းတော်ဟာ အတော်ကို ကြီးကျယ်မြင့်မြတ်တဲ့ ရဟန်းပါလား' လို့ တွေးတောနေခဲ့တယ်။

မြတ်စွာဘုရားလည်း ဂန္ဓကုဋီတိုက်တော်ကနေ ထွက်တော်မူလာပြီး ခင်းထားတဲ့နေရာမှာ ထိုင်တော်မူပါတယ်။ သုမနမင်းသားက မြတ်စွာဘုရားရှင်ကို ရှိခိုးကန်တော့ပြီး နှုတ်ဆက်စကား လျှောက်ထားပြောဆိုပါတယ်။ မြတ်စွာဘုရားက ''မင်းသား... ဘယ်အချိန်က ရောက်လာခဲ့တာလဲ'' လို့ မေးတော်မူတဲ့အခါ မင်းသားက ''အရှင်ဘုရား... ရှင်တော်ဘုရား ဂန္ဓကုဋီတိုက်တော်ထဲမှာ သီတင်းသုံးနေတုန်းမှာပဲ တပည့်တော် ရောက်လာခဲ့ပါတယ်ဘုရား။ ရဟန်းတော်တွေက 'ငါတို့ကတော့ မြတ်စွာဘုရားကို ဖူးချင်တိုင်း ဝင်ဖူးလို့ မရဘူး' လို့ ပြောဆိုပြီး တပည့်တော်ကို သုမနမထေရ်ထံ လွှတ်လိုက်ပါတယ်ဘုရား၊ သုမနမထေရ်ကတော့ စကားတစ်ခွန်းတည်းနဲ့ပဲ အရှင်ဘုရားနဲ့ ဖူးတွေ့ခွင့်ရအောင် ဆောင်ရွက်ပေးပါတယ်ဘုရား၊ မြတ်စွာဘုရား... သုမနမထေရ်ဟာ အရှင်ဘုရားတို့ရဲ့ သာသနာတော်မှာ အတော်လေး အကျွမ်းဝင်တဲ့ပုဂ္ဂိုလ်လို့ ထင်ပါတယ်ဘုရား'' လို့ လျှောက်ထားခဲ့ပါတယ်။



မြတ်စွာဘုရားက ''အေး.... ဟုတ်တယ် မင်းသား၊ ဒီ သုမနရဟန်းဟာ ငါဘုရားရဲ့ သာသနာတော်မှာ အကျွမ်းဝင်တဲ့ ရဟန်းဖြစ်ပေတယ်'' လို့ မိန့်တော်မူပါတယ်။ ဒီအခါ သုမနမင်းသားက ''မြတ်စွာဘုရား... ဘယ်လိုကောင်းမှုမျိုး ပြုလုပ်ရင် အရှင်ဘုရားတို့ရဲ့ သာသနာမှာ အကျွမ်းဝင်တဲ့ပုဂ္ဂိုလ် ဖြစ်ပါသလဲဘုရား'' လို့ မေးလျှောက်တဲ့အတွက် မြတ်စွာဘုရားက ''မင်းသား... ဒါနကောင်းမှု၊ သီလကောင်းမှု၊ ဥပုသ်သီတင်းသီလ စောင့်သုံးတဲ့ကောင်းမှုတွေ ပြုလုပ်ရင် ရနိုင်ပါတယ်''လို့ ဖြေကြားတော်မူပါတယ်။ ဒါနဲ့ သုမန မင်းသားဟာ ''မြတ်စွာဘုရား... တပည့်တော်ဟာ ဒီ သုမနမထေရ် လို မြတ်ဗုဒ္ဓသာသနာတော်မှာ အကျွမ်းဝင်တဲ့ပုဂ္ဂိုလ် ဖြစ်လိုလှပါတယ် ဘုရား၊ ဒါကြောင့် မနက်ဖြန် တပည့်တော် ကပ်လှူမယ့် ဆွမ်းကို လက်ခံတော်မူပါဘုရား'' လို့ ပင့်လျှောက်လိုက်ပါတယ်။

ပဒုမုတ္တရ မြတ်စွာဘုရားကလည်း ဆိတ်ဆိတ်နေခြင်းနဲ့ပဲ ဆွမ်းစားပင့်တာ လက်ခံတော်မူပါတယ်။ သုမနမင်းသားဟာ မိမိရဲ့ ယာယီတဲနန်းဆီ ပြန်သွားပြီး တစ်ညလုံး လှူဒါန်းပူဇော်ဖွယ်ရာတွေကို အကြီးအကျယ် ပြုစီမံခဲ့ပြီးနောက် ခုနစ်ရက်လုံးလုံး အလှူအတန်း

တခမ်းတနား ပြုလုပ်ခဲ့ပါတယ်။ ခုနစ်ရက်ပြည့်တဲ့နေ့မှာတော့ သုမန မင်းသားဟာ မြတ်စွာဘုရားကို ရှိခိုးပြီး "အရှင်ဘုရား... တပည့် တော်ဟာ ဖခမည်းတော်အထံကနေ ဝါတွင်းသုံးလပတ်လုံး အရှင် ဘုရားတို့ကို ပြုစုလုပ်ကျွေးခွင့်ဆုတော်ကို ရထားပါတယ်ဘုရား။ ဒါကြောင့် တပည့်တော်တို့ဆီမှာ ဝါတွင်းသုံးလ ဝါဆိုဝါကပ်ဖို့ လက်ခံ တော်မူပါဘုရား" လို့ လျှောက်ထားခဲ့ပါတယ်။ ဒီအခါ မြတ်စွာ ဘုရားက မင်းသားနေတဲ့ဆီ ဝါကပ်လို့ အကျိုးရှိ၊ မရှိ ဉာဏ်တော်နဲ့ မျှော်ကြည့်လိုက်တဲ့အခါ အကျိုးရှိတာကို မြင်တော်မူတဲ့အတွက် "မင်းသား... ဘုရားရှင်တွေဆိုတာ တိတ်ဆိတ် ငြိမ်သက်တဲ့အရပ် မှာပဲ မွေ့လျော်တော်မူကြတယ်" လို့ မိန့်တော်မူလိုက်ပါတယ်။

သုမနမင်းသားက "မြတ်စွာဘုရား... တပည့်တော် သိပါပြီ ဘုရား၊ မြတ်စွာဘုရား... တပည့်တော် သဘောပေါက်ပါပြီဘုရား" လို့ လျှောက်ထားလိုက်ပြီး "အရှင်ဘုရား... တပည့်တော်နေတဲ့ အရပ်ကို တပည့်တော် အရင်ပြန်သွားနှင့်ပြီး ကျောင်းဆောက်ဖို့ စီမံ ဆောင်ရွက်ပါမယ်ဘုရား၊ တပည့်တော် တမန်တော် စေလွှတ်ပြီး လျှောက်ထားတဲ့အခါ နောက်ပါရဟန်းတစ်သိန်းနဲ့အတူ ကြွလာတော် မူပါဘုရား" လို့ မြတ်စွာဘုရားအထံက စကားပဋိညာဉ်ရအောင် လျှောက်ထားရယူခဲ့ပါတယ်။ ဒီ့နောက်တော့ သုမနမင်းသားဟာ ဖခမည်းတော်ဘုရင်ကြီးထံ သွားပြီး မြတ်စွာဘုရားထံက စကား ပဋိညာဉ် ရယူပြီးဖြစ်တဲ့အကြောင်းနဲ့ တမန်စေလွှတ် အကြောင်းကြား တဲ့အခါ မြတ်စွာဘုရားကို သားတော်နေတဲ့အရပ်ဆီ ပို့ပေးဖို့အကြောင်း သံတော်ဦးတင်ကာ ဖခမည်းတော်ကို ရှိခိုးကန်တော့ပြီး သူနေတဲ့ အရပ်ဆီ ပြန်ခဲ့ပါတယ်။

လမ်းမှာ တစ်ယူဇနာတိုင်း တစ်ယူဇနာတိုင်းမှာ မြတ်စွာ ဘုရားနဲ့ သံဃာတော်များ နားနေဖို့ ကျောင်းတွေ စီမံဆောက်လုပ်ခဲ့ပြီး နေရပ်ရင်း ပြန်ရောက်တဲ့အခါမှာလည်း မြတ်စွာဘုရားနဲ့ သင့်တော်တဲ့



တိတ်ဆိတ်ငြိမ်သက်တဲ့ ဥယျာဉ်တစ်ခုကို အသပြာတစ်သိန်းပေးပြီး ဝယ်လိုက်ပါတယ်။ အဲဒီဥယျာဉ်ထဲမှာ ဘုရားသီတင်းသုံးဖို့ ဂန္ဓကုဋီ တိုက်တော်နဲ့ သံဃာတော်များ သီတင်းသုံးဖို့ နေ့သန့်စင်ရာအရပ်၊ ညဉ့်သန့်စင်ရာအရပ်၊ ကုဋီ၊ လိုဏ်၊ မဏ္ဍပ် စတာတွေကို အသပြာ တစ်သိန်း အကုန်အကျခံပြီး ဆောက်လုပ်ခဲ့ပါတယ်။

အဲဒီလို ဆောက်လုပ်ပြီးတာနဲ့ သုမနမင်းသားဟာ ဖခမည်း တော် ဘုရင်မင်းမြတ်ထံ တမန်စေလွှတ်ပြီး "သားတော် ဆောက်ရွက် ရမည့်ကိစ္စရပ်များ အားလုံး စီမံဆောင်ရွက်ပြီးပါပြီ၊ မြတ်စွာဘုရားကို သားတော်ထံ ပို့ပေးတော်မူပါ" လို့ သတင်းစကား ပါးလိုက်ပါတယ်။ ဒီအခါ နန္ဒ ရှင်ဘုရင်ဟာ မြတ်စွာဘုရားကို ဆွမ်းဆက်ကပ်ပြီးနောက် "မြတ်စွာဘုရား... သားတော်သုမနမင်းသား ကျောင်းဆောက်တဲ့ ကိစ္စတွေ ပြီးပါပြီတဲ့ဘုရား၊ အရှင်ဘုရားတို့ ကြွတော်မူမှာကို မျှော်လင့် စောင့်စားနေပါတယ်ဘုရား" လို့ လျှောက်ထားလိုက်ပါတယ်။ မြတ်စွာဘုရားရှင်ဟာ နောက်ပါရဟန်းတစ်သိန်း ခြံရံကာ တစ်ယူဇနာ တစ်ယူဇနာရောက်တဲ့နေရာတိုင်းမှာ ဆောက်ထားတဲ့ ကျောင်းတွေမှာ သီတင်းသုံး နားနေတော်မူပြီး သုမနမင်းသားနေတဲ့အရပ်ဆီ ကြွတော်မူ ခဲ့ပါတယ်။

သုမနမင်းသားဟာ "မြတ်စွာဘုရား ကြွတော်မူလာနေပြီ" လို့ ကြားသိပြီးနောက် တစ်ယူဇနာ ခရီးအထိ ထွက်ကာကြိုဆိုခဲ့ပြီး ပန်းနံ့သာစတာတွေနဲ့ ပူဇော်ကာ ကျောင်းတော်ဆီ ပင့်သွားပါတယ်။ ကျောင်းတော်ရောက်တဲ့အခါ သုမနမင်းသားက "မြတ်စွာဘုရား... ဘုရားတပည့်တော်ဟာ ဒီ ဥယျာဉ်ကို အသပြာတစ်သိန်းနဲ့ ဝယ်ခဲ့တာ ပါဘုရား၊ အသပြာတစ်သိန်း အကုန်အကျခံပြီး ကျောင်းတွေလည်း ဆောက်လုပ်ထားပါတယ်ဘုရား။ ဒီဥယျာဉ်ကို သောဘနဥယျာဉ်လို့ ခေါ်ပါတယ်ဘုရား၊ ကျောင်းတွေနဲ့အတူ ဒီဥယျာဉ်ကို လက်ခံတော်မူပါ

ဘုရား” လို့ လျှောက်ထားပြီး ကျောင်းတိုက်ကို မြတ်စွာဘုရားထံ အပ်နှံလှူဒါန်းခဲ့ပါတယ်။

အဲဒီနောက်တော့ သုမနမင်းသားဟာ ဝါဆိုဝါကပ်တဲ့နေ့မှာ အလှူဒါန ပေးလှူခဲ့ပြီး သူ့ရဲ့ မိသားစုတွေနဲ့ အမတ်တွေကို ခေါ်ကာ “မြတ်စွာဘုရားဟာ ငါတို့ဆီကို အဝေးကြီးက ကြွလာရတာဖြစ်တယ်၊ ဘုရားရှင်တွေဆိုတာလည်း ဓမ္မကိုသာ အလေးဂရုပြုကြပြီး ပစ္စည်း အာမိသကို အလေးဂရုပြုတော် မမူကြဘူး။ ဒါကြောင့် ငါဟာ ဒီဝါတွင်းသုံးလပတ်လုံး အဝတ် နှစ်ထည်ကိုသာ ဝတ်ရုံပြီး ဆယ်ပါး သီလ စောင့်ထိန်းရင်း ကျောင်းမှာပဲနေမယ်။ သင်တို့တစ်တွေဟာ ဒီနေ့ လှူတဲ့ပုံစံအတိုင်း ဝါတွင်းသုံးလပတ်လုံး ရဟန်းတော်တစ်သိန်းကို အမြဲမပြတ် လှူဒါန်းကြပါ” လို့ မှာကြားခဲ့ပါတယ်။

သုမနမင်းသားဟာ ပဒုမုတ္တရမြတ်စွာဘုရားရှင်ရဲ့ အလုပ်အကျွေးဖြစ်တဲ့ အရှင်သုမနမထေရ်နဲ့ နီးတဲ့နေရာမှာ နေထိုင်ရင်း အရှင်သုမနမထေရ်က မြတ်စွာဘုရားကို ဝတ်ကြီး၊ ဝတ်ငယ် လုပ်ကျွေးပြုစုနေပုံ အားလုံးကို မြင်ရတဲ့အတွက် ‘ဒီ သုမနမထေရ်ဟာ မြတ်စွာဘုရားကို လုပ်ကျွေးပြုစုတဲ့နေရာမှာ ဧကန်မုချ အကျွမ်းဝင်သူ ဖြစ်ပေတယ်၊ ငါဟာ ဒီသုမနမထေရ်ရဲ့ ရာထူးဌာနန္တရကိုပဲ ဆုတောင်းရရင် သင့်မယ်’ လို့ ကြံစည် စဉ်းစားပြီးနောက် သီတင်းကျွတ်လပြည့်ခါနီး တစ်ပတ်အလိုလောက်မှာ ရွာတွင်း ပြန်သွားပြီး ခုနစ်ရက်လုံးလုံး အလှူဒါနကို အကြီးအကျယ် ပေးလှူခဲ့ပါတယ်။

ခုနစ်ရက်မြောက်တဲ့နေ့မှာ သုမနမင်းသားဟာ ရဟန်းတော် တစ်သိန်းရဲ့ ခြေတော်ရင်းမှာ တိစီဝရိက် သင်္ကန်းသုံးထည်စီ စီမံ တည်ထားလိုက်ပြီး မြတ်စွာဘုရားကို ရှိခိုးကာ “အရှင်ဘုရား… တပည့်တော်သည် ဟံသာဝတီမင်းနေပြည်က ယာယီတဲနန်းမှာ အကြီး အကျယ် လှူဒါန်းခဲ့တာက စလို့ ဒီနေ့အထိလှူခဲ့သမျှ အလှူဒါန အားလုံးဟာ သိကြားမင်းစည်းစိမ်၊ မာရ်နတ်မင်းစည်းစိမ်၊ ဗြဟ္မာမင်း



စည်းစိမ်တွေကို တောင့်တပြီး လှူဒါန်းခဲ့တာ မဟုတ်ပါဘုရား။ တကယ်တော့ မြတ်စွာဘုရားရဲ့ အလုပ်အကျွေး ဉပဋ္ဌာကသာဝက ရာထူးကို ရည်သန်တောင့်တပြီး လှူဒါန်းခဲ့တာ ဖြစ်ပါသည်ဘုရား။ ဒါကြောင့် တပည့်တော်လည်း နောင်တစ်ဆူသော ဘုရားရှင်ရဲ့ သာသနာတော်မှာ ဘုရားရှင်ရဲ့ အလုပ်အကျွေး ပုဂ္ဂိုလ် ဖြစ်ရပါလို၏ ဘုရား” လို့ ထိခြင်းငါးပါးနဲ့ ရှိခိုးကန်တော့ပြီး ဆုပန်လိုက်ပါတယ်။ ပဒုမုတ္တရ ဘုရားရှင်လည်း သုမနမင်းသားရဲ့ ဆုတောင်း အန္တရာယ် မရှိ ပြည့်စုံမှာကို ဉာဏ်တော်နဲ့ မြင်တော်မူတဲ့အတွက် ဗျာဒိတ်စကား မိန့်ကြားခဲ့ပါတယ်။ အရှင်အာနန္ဒာမထေရ်အလောင်း သုမနမင်းသား ဟာ ပဒုမုတ္တရ ဘုရားရှင်ရဲ့ ဗျာဒိတ်စကားကို ကြားရပြီးတဲ့နောက် ‘ဘုရားရှင်တွေဆိုတာ စကားနှစ်ခွ ပြောတဲ့ပုဂ္ဂိုလ်တွေ မဟုတ်ဘူး၊ ဧကန်မုချ မှန်တဲ့စကားကိုသာ ဆိုတော်မူတတ်တဲ့ ပုဂ္ဂိုလ်တွေ ဖြစ် တယ်’ လို့ ဆင်ခြင်တွေးတောကာ ဗျာဒိတ်စကား ကြားပြီးတဲ့ နောက် နေ့မှာပဲ ဂေါတမမြတ်စွာဘုရားရှင်ရဲ့ သပိတ်၊ သင်္ကန်းကို ကိုင်ပြီး နောက်ကနေ လိုက်သွားနေရသလိုမျိုး ဝမ်းသာတဲ့စိတ်နဲ့ တွေးထင် ကြည်နူးဝမ်းမြောက်နေခဲ့ပါတယ်။

**ကဿပဘုရားရှင်လက်ထက် ဆည်းပူးခဲ့တဲ့ ကောင်းမှုနဲ့ ကြားကာလ ဆည်းပူးခဲ့တဲ့ ကောင်းမှုများ**

သုမနမင်းသားဟာ ပဒုမုတ္တရ ဘုရားရှင်လက်ထက်တော်မှာ အနှစ်တစ်သိန်း ကာလပတ်လုံး အလှူဒါန ပြုလုပ်ခဲ့ပြီးနောက် အဲဒီဘဝကနေ ကွယ်လွန်တဲ့အခါ နတ်ပြည်မှာ ဖြစ်ခဲ့ပါတယ်။ ကဿပ ဘုရားရှင်လက်ထက်တော် ရောက်တဲ့အခါမှာတော့ ဆွမ်းခံကြွနေတဲ့ မထေရ်တစ်ပါးကို သပိတ်အောက်က အခုအခံလုပ်ဖို့ရန်အတွက် သူ့ရဲ့ အပေါ်ရုံတဘက်ကို လှူဒါန်းခဲ့ပါတယ်။ အဲဒီဘဝနေ စုတေ ကွယ်လွန် တဲ့အခါ နတ်ပြည်မှာ ဖြစ်ခဲ့ပြီး၊ တစ်ခါ နတ်ပြည်ကနေ စုတေ

ကွယ်လွန်ပြီးတဲ့အခါမှာတော့ ဗာရာဏသီမင်း ဖြစ်ခဲ့ပါတယ်။ အဲဒီ ဗာရာဏသီမင်းဘဝ နန်းပြာသာဒ်အထက်မှာ စိုးစံနေတုန်း ဂန္ဓမာဒန တောင်ကနေ ကောင်းကင်ခရီးနဲ့ ကြွလာတော်မူတဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ် ရှစ်ပါးကို ဖူးတွေ့ရတဲ့အတွက် နန်းတော်ထက်ပင့်ပြီး ဆွမ်းဆက်ကပ်လှူဒါန်းခဲ့ပါတယ်။

အဲဒီနောက်တော့ မင်္ဂလာဥယျာဉ်တော် အတွင်းမှာ ပစ္စေက ဗုဒ္ဓါ အရှင်မြတ် ရှစ်ပါးအတွက် သစ်ခက်မိုးကျောင်း ရှစ်ကျောင်း ဆောက်လုပ်စေခဲ့တဲ့အပြင် ပစ္စေကဗုဒ္ဓါ အရှင်မြတ်တွေ နန်းတော်ကြွ လာတဲ့အခါ ထိုင်ဖို့ရန်အတွက် ရတနာမျိုးစုံနဲ့ လုပ်ထားတဲ့ အင်းပျဉ် ချပ်ကြီး ရှစ်ချပ်နဲ့ သပိတ် တင်ဖို့ရန်အတွက် ပတ္တမြားသပိတ်ခြေတွေ ကိုလည်း စီမံပြုလုပ်လှူဒါန်းခဲ့ပါတယ်။ ဒီလို ပစ္စေကဗုဒ္ဓါ အရှင်မြတ် တွေကို လှူဒါန်းခဲ့တာဟာဖြင့် နှစ်ပေါင်း တစ်သောင်းကြာအောင် လှူဒါန်းခဲ့တာ ဖြစ်ပါတယ်။ ဒါတွေကတော့ အရှင်အာနန္ဒာ အလောင်း တော်ရဲ့ လှူဒါန်းခဲ့သမျှတွေထဲက ထင်ရှားတဲ့အရာဌာနတွေပဲ ဖြစ်ပါ တယ်။

## (ခ) ပစ္စုပ္ပန်ဘဝဖြစ်ရပ် အတ္ထုပ္ပတ်

အရှင်မြတ်အလောင်းတော်ဟာ ကမ္ဘာတစ်သိန်းကာလကြာ အောင် ဒါနစတဲ့ ပါရမီကောင်းမှုတွေ ပြုလုပ်ခဲ့ပြီးနောက် အကျွန်ုပ်တို့ ဂေါတမ မြတ်စွာဘုရား အလောင်းတော်နဲ့အတူ တုသိတာနတ်ပြည်မှာ ဖြစ်ခဲ့ပြီး တုသိတာနတ်ပြည်ကနေ စုတေတဲ့အခါ အမိတောဒန အမည် ရတဲ့ သကျသာကီဝင်မင်းရဲ့ အိမ်မှာ ဖြစ်လာခဲ့ပါတယ်။ ဒီမင်းသား လေး မွေးတဲ့အခါ ဆွေမျိုးသားချင်းတွေ အကုန်လုံးကို နှစ်သက် ဝမ်းမြောက်စေခဲ့ပြီး မွေးလာတာဖြစ်လို့ သူ့ရဲ့အမည်ကို “အာနန္ဒာ” လို့ မှည့်ခေါ်ခဲ့ကြတယ်။ အာနန္ဒာမင်းသားဟာ မြတ်စွာဘုရားလောင်း တောထွက် တရားကျင့်ကာ ဘုရားဖြစ်ပြီးတဲ့နောက် ကပိလဝတ်



နန်းတော်ကို ကြွလာပြီး ကပိလဝတ်ကနေ ပြန်ကြွတဲ့အခါမယ် မြတ်စွာ ဘုရားရဲ့ အခြံအရံဖြစ်ဖို့ သာကီဝင် မင်းသားတွေ ရဟန်းပြုကြတဲ့အခါ ဘဒ္ဒိယမင်းသားစတဲ့ အခြားမင်းသား ငါးယောက်နဲ့အတူ မြတ်စွာ ဘုရား အထံမှာ ရဟန်းပြုခဲ့ပါတယ်။ ရဟန်းပြုတဲ့နှစ် ဝါတွင်းမှာပဲ အရှင်အာနန္ဒာဟာ အရှင်ပုဏ္ဏမထေရ် ဟောတဲ့ တရားကို နာပြီး သောတာပန် ဖြစ်ခဲ့ပါတယ်။

မြတ်စွာဘုရားရဲ့ ပထမဗောဓိလို့ ခေါ်တဲ့ ဝါတော်နှစ်ဆယ် အတွင်းမှာ မြတ်စွာဘုရားကို ပြုစုလုပ်ကျွေးတဲ့ ဥပဋ္ဌာကပုဂ္ဂိုလ်ဟာ သတ်သတ်မှတ်မှတ် မရှိခဲ့ပါဘူး။ တစ်ခါတလေ အရှင်နာဂသမာလ မထေရ်က ပြုစုတယ်၊ တစ်ခါတလေ အရှင်နာဂိတ၊ တစ်ခါတလေ အရှင်ဥပဝါန၊ တစ်ခါတလေ အရှင်သုနက္ခတ္တ၊ တစ်ခါတလေ အရှင် စုန္ဒ၊ တစ်ခါတလေ အရှင်သာဂတ၊ တစ်ခါတလေ အရှင်ရာဓ၊ တစ်ခါတလေ အရှင်မေဃိယမထေရ်က ပြုစုပါတယ်။

တစ်ခါမှာတော့ မြတ်စွာဘုရားဟာ နာဂသမာလ မထေရ်နဲ့ အတူ ခရီးရှည် ကြွရင်းက လမ်းနှစ်ခွ လမ်းဆုံနေရာကို ရောက်တော် မူခဲ့ပါတယ်။ ဒီအခါ နာဂသမာလ မထေရ်က သွားမြဲလမ်းကနေ အခြားလမ်းတစ်ဖက်ဆီ သွားလိုက်ပြီး “မြတ်စွာဘုရား… တပည့် တော် ဒီဘက်လမ်းနဲ့ ခရီးဆက်သွားမယ် ဘုရား” လို့ လျှောက်ထား ပါတယ်။ မြတ်စွာဘုရားက “အို… ရဟန်း၊ လာပါ၊ ဒီဘက်လမ်းနဲ့ပဲ ခရီးဆက်ကြတာပေါ့” လို့ မိန့်တော်မူလိုက်တယ်။ နာဂသမာလ မထေရ်က “မြတ်စွာဘုရား… ရော့ အရှင်ဘုရားရဲ့ သပိတ်၊ သင်္ကန်း တွေ ယူပါ၊ တပည့်တော် ဒီဘက်လမ်းနဲ့ပဲ ခရီးဆက်မယ် ဘုရား” လို့ လျှောက်လိုက်ပြီး မြတ်စွာဘုရားရဲ့ သပိတ်၊ သင်္ကန်းတွေကို မြေကြီးပေါ်မှာ ချထားဖို့ ဟန်ပြင်ခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက “အို… ရဟန်း၊ ငါ့ဆီ ယူခဲ့ပါ” လို့ မိန့်လိုက်ပြီး သပိတ်၊ သင်္ကန်းယူကာ ကြွမြဲလမ်းအတိုင်းပဲ ခရီး

ဆက်ကြွခဲ့ပါတယ်။ နာဂသမာလမထေရ် အခြားလမ်းနဲ့ ခရီးသွားနေတုန်းမှာပဲ သူခိုးဓားပြတွေက နာဂသမာလမထေရ်ရဲ့ သပိတ်နဲ့ သင်္ကန်းကို လုယူပြီး ခေါင်းကို ရိုက်နှက်ခဲ့ကြပါတယ်။ ဒီအခါ နာဂသမာလမထေရ်ဟာ "ဒီအချိန်မှာ ငါ့အတွက်တော့ မြတ်စွာဘုရားပဲ အားကိုးစရာရှိတော့တယ်၊ ဘုရားမှတစ်ပါး အားကိုးရာ မရှိတော့ဘူး" လို့ တွေးကြံပြီး သွေးတွေ ယိုစီးရက်နဲ့ မြတ်စွာဘုရားထံ ပြန်လာခဲ့ပါတယ်။ မြတ်စွာဘုရားထံ ရောက်လို့ အကျိုးအကြောင်း လျှောက်ပြတဲ့အခါ မြတ်စွာဘုရားက "ချစ်သားရဟန်း… တောင်တောင်ဤဤ လျှောက်တွေးမနေတော့ပါနဲ့၊ ဒီလိုဖြစ်မှာကို ကြိုပြီး မြင်တဲ့အတွက် သင့်ကို အဲဒီလမ်း မသွားဘို့ တားခဲ့တာဖြစ်တယ်" ဆိုတဲ့အကြောင်း မိန့်ကြားပြီး စိတ်သက်သာရာ ရစေခဲ့ပါတယ်။

ဒါ့အပြင် တစ်ချိန်မှာလည်း မြတ်စွာဘုရားရှင်ဟာ မေဃိယမထေရ်နဲ့အတူ ပါစီနဝံသအရပ်ရှိ ဇန္တုရွာဘက်ဆီ ခရီးကြွချီတော်မူပါတယ်။ အဲဒီမှာလည်း မေဃိယမထေရ်ဟာ ဇန္တုရွာထဲ ဆွမ်းခံသွားရင်း မြစ်ကမ်းနံဘေးမှာရှိတဲ့ စိတ်ကြည်နူးဖွယ် သရက်တောအုပ်ကို တွေ့မြင်လိုက်တာနဲ့ "မြတ်စွာဘုရား… အရှင်ဘုရားတို့ရဲ့ သပိတ်၊ သင်္ကန်းကို ယူတော်မူပါ၊ တပည့်တော် ဒီသရက်တောအုပ်ထဲမှာ ရဟန်းတရား အားထုတ်မယ် ဘုရား" လို့ လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားက သုံးကြိမ်သုံးခါ မသွားဖို့ တားမြစ်ပေမယ့် မေဃိယမထေရ်ဟာ ဇွတ်အတင်း ထွက်သွားပြီး သရက်တောအုပ်ထဲမှာ တရားသွားထိုင်ပါတယ်။ ဒါပေမယ့် အကုသိုလ်အတွေးတွေ နှိပ်စက်နေတာနဲ့ တရားအားထုတ် မရလို့ မြတ်စွာဘုရားထံ ပြန်လာခဲ့ပြီး ဒီအကြောင်းအရာကို လျှောက်ထားခဲ့ပါတယ်။ ဒီအခါ မြတ်စွာဘုရားက မေဃိယမထေရ်ကိုလည်း ဒီအကြောင်းကို သိလို့ တားမြစ်ခဲ့တာဖြစ်ကြောင်း မိန့်ကြားခဲ့ပြီး သာဝတ္ထိပြည်ကို ဆက်ကြွသွားတော်မူခဲ့ပါတယ်။



ဒီအကြောင်းတွေကြောင့် မြတ်စွာဘုရားရှင်ဟာ နောင်အခါကာလ သာဝတ္ထိပြည် ဇေတဝန်ကျောင်း ဂန္ဓကုဋီတိုက် ပရိဝုဏ်အတွင်း ဘုရားရှင်တို့အတွက် ခင်းထားအပ်တဲ့ ပလ္လင်တော်မှာ ရဟန်းအများခြံရံပြီး ထိုင်နေတော်မူရင်းက "ရဟန်းတို့… ယခုအခါ ငါဘုရားဟာ သက်တော်ကြီးလာပြီ၊ တချို့ အလုပ်အကျွေး ရဟန်းတွေက ဒီလမ်းအတိုင်း ခရီးဆက်ကြစို့ လို့ မိန့်လိုက်တဲ့အခါ အခြားလမ်းနဲ့ ခရီးထွက်သွားကြတယ်၊ တချို့ရဟန်းတွေကျတော့ ငါ့ရဲ့ သပိတ်၊ သင်္ကန်းတွေကို မြေကြီးပေါ် ချထားကြတယ်၊ ငါဘုရားအတွက် အမြဲတမ်းပြုစု လုပ်ကျွေးမယ့် ရဟန်းတစ်ပါးကို သင်တို့ စဉ်းစားကြလော့" လို့ မိန့်တော်မူခဲ့ပါတယ်။ ဒီစကား ကြားရတော့ ရဟန်းတော်တွေရဲ့ သန္တာန်မှာ ဓမ္မသံဝေဂ ကြီးစွာ ဖြစ်ခဲ့ကြပါတယ်။

ဒီအခါ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးဟာ ထိုင်ရာမှ ထပြီး မြတ်စွာဘုရားကို ရှိခိုးကာ "မြတ်စွာဘုရား… တပည့်တော်ဟာ ရှင်တော်ဘုရားတို့ကို တောင့်တပြီး တစ်သချေ်နဲ့ ကမ္ဘာတစ်သိန်းကြာအောင် ပါရမီတွေ ဖြည့်ကျင့်ခဲ့ပါတယ်ဘုရား၊ တပည့်တော်လို ဉာဏ်ပညာကြီးမားတဲ့သူက အရှင်ဘုရားကို ပြုစုလုပ်ကျွေးတဲ့ ဥပဋ္ဌာကပုဂ္ဂိုလ် ဖြစ်သင့်တယ်မဟုတ်ပါလား ဘုရား၊ တပည့်တော် ပြုစုလုပ်ကျွေးပါမယ် ဘုရား" လို့ တောင်းပန်လျှောက်ထားခဲ့ပါတယ်။ မြတ်စွာဘုရားက အရှင်သာရိပုတ္တရာကို "ချစ်သား သာရိပုတ္တရာ… သင်နေတဲ့အရပ်တိုင်းမှာ ဘုရား ဆိတ်သုဉ်းမနေဘူး၊ ဘာလို့လဲဆိုတော့ သင့်ရဲ့ အဆုံးအမ ဩဝါဒဆိုတာ ဗုဒ္ဓဘုရားရှင်တို့ရဲ့ အဆုံးအမ ဩဝါဒတော်နဲ့ အတူတူ ဖြစ်လို့ပဲ။ သင်ဟာ ငါ့ကို ပြုစုလုပ်ကျွေးစရာ မလိုပါဘူး" လို့ မိန့်ကြားပြီး ပယ်မြစ်တော်မူခဲ့ပါတယ်။ အရှင်သာရိပုတ္တရာလိုပဲ အခြား အရှင်မဟာမောဂ္ဂလာန်စတဲ့ မဟာသာဝကရှစ်ကျိပ်လည်း သူတို့ လုပ်ကျွေးပြုစုပါရစေဆိုပြီး အသီးသီး ထပြီး တောင်းပန်ခဲ့ကြပါတယ်။ အကုန်လုံးကိုပဲ ဘုရားရှင် ပယ်မြစ်တော်မူခဲ့ပါတယ်။

အရှင်အာနန္ဒာမထေရ်ကတော့ ပြုစုလုပ်ကျွေးခွင့် ရဖို့ရန် အတွက် မတောင်းပန်ဘဲ တိတ်ဆိတ်ငြိမ်သက်စွာပဲ ထိုင်နေခဲ့ပါတယ်။ ဒီအခါ ရဟန်းတွေက အရှင်အာနန္ဒာကို "ငါ့ရှင် အာနန္ဒာ… ကျန်တဲ့ ရဟန်းသံဃာတွေ ပြုစုလုပ်ကျွေးခွင့် ဥပဋ္ဌာကရာထူးရဖို့ တောင်းပန်နေကြတယ်၊ သင်လည်း တောင်းပါလား" လို့ တိုက်တွန်းပြောဆိုကြတယ်။ အရှင်အာနန္ဒာက "ငါ့ရှင်တို့… တောင်းမှရတဲ့ ရာထူးက ဘာလုပ်ဖို့လဲ၊ မြတ်စွာဘုရား ငါ့ကို မြင်နေသားပဲ၊ တကယ်လို့ မြတ်စွာဘုရားက နှစ်သက်ခဲ့မယ်ဆိုရင် 'အာနန္ဒာဟာ ငါ့ကို လုပ်ကျွေးပြုစုပါစေ' လို့ မိန့်တော်မူပါလိမ့်မယ်" လို့ ရဟန်းတွေကို ပြန်လည် ပြောဆိုခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက "ရဟန်းတို့… အာနန္ဒာကို ဘယ်သူမှ တိုက်တွန်းလို့ ရမှာ မဟုတ်ပေဘူး၊ သူ့ကိုယ်ပိုင်အသိနဲ့ပဲ ငါဘုရားကို ပြုစုလုပ်ကျွေးပါလိမ့်မယ်" လို့ မိန့်တော်မူပါတယ်။ ဒါကြောင့် ရဟန်းတွေက "ငါ့ရှင် အာနန္ဒာ… နေရာမှ ထပါ၊ ငါ့ရှင် အာနန္ဒာ… နေရာမှ ထပါ၊ မြတ်စွာဘုရားထံမှာ အလုပ်အကျွေးရာထူး တောင်းပါ" လို့ တိုက်တွန်းပြောဆိုခဲ့ကြတယ်။ အရှင်အာနန္ဒာ မထေရ်ဟာ နေရာကနေ ထလိုက်ပြီး ပယ်ဆု လေးပါးနဲ့ တောင်းဆု လေးပါး၊ ပေါင်း ဆု ရှစ်ပါးတို့ကို မြတ်စွာဘုရားထံ ရှေးဦးစွာ တောင်းဆိုလျှောက်ထားခဲ့ပါတယ်။

## ပယ်ဆု လေးမျိုး

"မြတ်စွာဘုရား… တကယ်လို့ မြတ်စွာဘုရားက (၁) မိမိရတဲ့ သင်္ကန်းကောင်း တပည့်တော်ကို မပေးဘူးဆိုရင်၊ (၂) မိမိရတဲ့ ဆွမ်းကောင်းကို တပည့်တော်ကို မပေးဘူးဆိုရင်၊ (၃) အရှင်ဘုရား သီတင်းသုံးတဲ့ ဂန္ဓကုဋီ တိုက်တော်ထဲမှာပဲ အတူ သီတင်းသုံးခွင့် မပေးခဲ့ဘူးဆိုရင်၊ (၄) ပင့်ဖိတ်တဲ့နေရာတိုင်းကိုလည်း တပည့်တော်ကို



ခေါ်မသွားဘူးဆိုရင် တပည့်တော် မြတ်စွာဘုရားကို လုပ်ကျွေး ပြုစုပါမည် ဘုရား" လို့ ပယ်ဆုလေးဆုကို ရှေးဦးစွာ လျှောက်ထား တောင်းဆိုခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက "ချစ်သားအာနန္ဒာ… ဘယ်လို အပြစ်တွေကို မြင်လို့ အခုလို ပယ်ဆုလေးမျိုးကို တောင်းဆိုရတာလဲ" လို့ မေးတော်မူတဲ့အတွက် အရှင်အာနန္ဒာက "မြတ်စွာဘုရား… တပည့်တော်ဟာ ဒီအခွင့်အရေး လေးမျိုးရခဲ့မယ်ဆိုရင် တပည့်တော် အပေါ် 'ဩော်… အာနန္ဒာဟာ မြတ်စွာဘုရားထံကနေ သင်္ကန်း ကောင်းတွေ ရရှိသုံးဆောင်နေရတယ်၊ ဆွမ်းကောင်းတွေ ရရှိသုံးဆောင် နေရတယ်၊ ဘုရားနဲ့အတူ ဂန္ဓကုဋီတိုက်တော်ထဲမှာလည်း အတူနေခွင့် ရနေတယ်၊ ဘုရားက ပင့်ဖိတ်ရာ နေရာတိုင်းကို အရှင်အာနန္ဒာကို ခေါ်သွားတယ်။ ဒီလို အခွင့်အရေးတွေ ရနေလို့ မြတ်စွာဘုရားကို ပြုစုလုပ်ကျွေးနေတာပဲ၊ ဒီလို အခွင့်အရေးရလို့ လုပ်ကျွေးတာကတော့ ဘာတာဝန်ကြီးတာ လိုက်လို့' လို့ ကဲ့ရဲ့ကြပါလိမ့်မယ်၊ ဒါကြောင့် တပည့်တော် ဒီပယ်ဆု လေးမျိုးကို တောင်းဆိုရတာပါဘုရား" လို့ ရှင်းလင်းလျှောက်ထားခဲ့ပါတယ်။

## တောင်းဆု လေးမျိုး

ဆက်ပြီး အရှင်အာနန္ဒာ မထေရ်က "မြတ်စွာဘုရား… အကယ်၍ (၁) တပည့်တော် ပင့်လျှောက်တဲ့အခါ ပင့်တဲ့အရပ်ဆီ အရှင်ဘုရား ကြွပေးမယ်ဆိုရင်၊ (၂) တပည့်တော်က တိုင်းတစ်ပါး နယ်တစ်ပါးကနေ ဘုရားဖူးဖို့ ရောက်လာတဲ့ ပရိသတ်ကို ရောက်လာတဲ့ အချိန်မှာပဲ မြတ်စွာဘုရားကို ဖူးမြင်စေနိုင်တဲ့ အခွင့်အရေး ရခဲ့မယ် ဆိုရင်၊ (၃) တပည့်တော်သန္တာန်မှာ တရားတော်နဲ့ပတ်သက်ပြီး ယုံမှား သံသယ ဖြစ်ပေါ်လာတဲ့ခဏမှာပဲ အရှင်ဘုရားထံ ချဉ်းကပ်ပြီး မေးမြန်း လျှောက်ထားခွင့် ရခဲ့မယ်ဆိုရင်၊ (၄) ဒါ့အပြင် မြတ်စွာဘုရားဟာ

တပည့်တော်ရဲ့ မျက်ကွယ်မှာ ဟောခဲ့တဲ့ တရားတော်ကို ပြန်ကြွလာတဲ့အခါ တပည့်တော်ကို တစ်ဖန်ပြန်လည်ပြီး ဟောကြားပေးမယ်ဆိုရင် တပည့်တော်ဟာ ရှင်တော်ဘုရားကို လုပ်ကျွေးပြုစုပါမည်ဘုရား" လို့ တောင်းဆု လေးမျိုးကို လျှောက်ထားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက "ချစ်သား အာနန္ဒာ... ဘယ်လို အကျိုးကို မြင်လို့ ဒီတောင်းဆု လေးမျိုးကို တောင်းရတာလဲ" လို့ မေးမြန်းတော်မူပါတယ်။ အရှင်အာနန္ဒာက "မြတ်စွာဘုရား... (၁) ဒီသာသနာတော်မှာ သဒ္ဓါတရားကောင်းတဲ့ အမျိုးကောင်းသားတွေဟာ မြတ်စွာဘုရားကို ကိုယ်တိုင် ပင့်လျှောက်ခွင့် မရတဲ့အတွက် တပည့်တော်ထံ 'အရှင်အာနန္ဒာဘုရား... မြတ်စွာဘုရားနဲ့အတူ မနက်ဖြန် တပည့်တော်အိမ် ဆွမ်းအလှူခံ ကြွပေးတော်မူပါ ဘုရား' လို့ ပင့်လျှောက်ကြပါတယ်၊ ဒီအခါ မြတ်စွာဘုရားက မကြွဘူးဆိုရင်၊ (၂) တိုင်းတစ်ပါး နယ်တစ်ပါးကနေ ဘုရားဖူးလာတဲ့ ပရိသတ်ကို ရောက်လာတဲ့ ခဏမှာပဲ မြတ်စွာဘုရားကို ဖူးမြင်စေနိုင်ခွင့်မှ တပည့်တော် မရခဲ့ရင်၊ (၃) ယုံမှားသံသယ ဖြစ်တဲ့ခဏမှာပဲ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး တရားစကား မေးမြန်းလျှောက်ထားခွင့်မှ တပည့်တော် မရခဲ့ရင် 'ဘာလို့ အရှင်အာနန္ဒာဟာ မြတ်စွာဘုရားကို ပြုစုလုပ်ကျွေးနေရတာလဲ၊ မြတ်စွာဘုရားက အရှင်အာနန္ဒာကို ဒီလောက်လေးမှ ချီးမြှောက်မှု မပြုပါလား' လို့ ကဲ့ရဲ့ ပြစ်တင်သူတွေ ပေါ်လာပါလိမ့်မယ်ဘုရား။ ဒါကြောင့် တပည့်တော်ဟာ ဒီ တောင်းဆု သုံးဆုကို တောင်းရတာ ဖြစ်ပါတယ်ဘုရား။

(၄) ဒီ့အပြင်လည်း အရှင်ဘုရားရဲ့ ကွယ်ရာမှာ တပည့်တော်ကို 'အရှင်အာနန္ဒာဘုရား... ဒီဂါထာ၊ ဒီသုတ္တန်၊ ဒီဇာတ်တော်ကို မြတ်စွာဘုရား ဘယ်မှာ ဟောခဲ့တာပါလဲဘုရား' လို့ မေးကြပါလိမ့်မယ်၊ ဒီအခါ တပည့်တော်က အပြည့်အစုံ မဖြေနိုင်ခဲ့ရင် 'ငါ့ရှင်... ဒီလောက်လေးတောင် မသိဘူးလား၊ ဒါဆို ဘာလို့ မြတ်စွာဘုရား



နောက် အရိပ်ပမာ တကောက်ကောက်လိုက်ပြီး ကာလရှည်ကြာ ပြုစုနေသေးလဲ' လို့ အပြစ်တင်သူတွေ ပေါ်လာပါလိမ့်မယ်။ ဒါကြောင့် အရှင်ဘုရား တပည့်တော်ရဲ့ မျက်ကွယ်မှာ ဟောခဲ့တဲ့ တရားကို တပည့်တော်ကို ပြန်လည်ဟောကြားပေးဖို့ဆိုတဲ့ စတုတ္ထ တောင်းဆုကို တပည့်တော် တောင်းဆိုရတာဖြစ်ပါတယ်ဘုရား" လို့ ရှင်းလင်းလျှောက်ထား ဖြေဆိုခဲ့ပါတယ်။ မြတ်စွာဘုရားရှင်လည်း အရှင်အာနန္ဒာ တောင်းခံတဲ့ ပယ်ဆု လေးတန်၊ ခံဆု လေးမျိုးတို့ကို ပေးသနားတော်မူခဲ့ပါတယ်။

အရှင်အာနန္ဒာမထေရ်ဟာ ဒီဆု ရှစ်မျိုးကို ရယူပြီးတဲ့နောက် မြတ်စွာဘုရားရဲ့ အမြဲတမ်း အလုပ်အကျွေး ဥပဋ္ဌာကပုဂ္ဂိုလ် ဖြစ်လာခဲ့ပါတယ်။ ဒီအလုပ်အကျွေးရာထူး ရဖို့အတွက်ပဲ အရှင်မြတ်ဟာ ကမ္ဘာတစ်သိန်း ပါရမီဖြည့်ခဲ့တာ ဖြစ်ပါတယ်။ အရှင်မြတ်ဟာ အလုပ်အကျွေး ဥပဋ္ဌာကရာထူး ရတဲ့နေ့ကစပြီး မြတ်စွာဘုရားရှင်ကို ရေပူ၊ ရေအေး ဆက်ကပ်တာ၊ ခံတွင်းနဲ့ သွားသန့်ရှင်းဖို့ရန်အတွက် ဒန်ပူများ ဆက်ကပ်တာ၊ မြတ်စွာဘုရားရဲ့ လက်တော်၊ ခြေတော်တွေကို နှိပ်နယ်ပေးတာ၊ ရေချိုးတော်မူတဲ့အခါ နောက်ကျောကို ကြေးတွန်းပေးတာ၊ ဂန္ဓကုဋီတိုက်တော်ဝန်းကျင်ကို တံမြက်လှည်းတာ စတဲ့ ဝေယျာဝစ္စ အမှုကိစ္စကြီးငယ်ကို ဆောင်ရွက်တော်မူပါတယ်။

နောက်ပြီး 'ဒီအချိန်မှာတော့ မြတ်စွာဘုရားအတွက် ဒီပစ္စည်း ဝတ္ထု ရမှ သင့်တော်မယ်၊ ဒီအမှုကိစ္စကို ပြုမှ သင့်တော်မယ်' လို့ စဉ်းစား ဆင်ခြင်ကာ တစ်နေ့လုံး မြတ်စွာဘုရားရဲ့ အနီးအပါးမှာပဲ နေပါတယ်။ ညပိုင်းမှာတော့ ဆီမီးတိုင်ကို ကိုင်ကာ တစ်ညလုံး ဂန္ဓကုဋီပရိဝုဏ်ကို ကိုးကြိမ် လှည့်ပတ်ပါတယ်။ ဒီလို လှည့်ပတ်ရတာကလည်း တကယ်လို့များ အိပ်ငိုက်နေခဲ့ရင် မြတ်စွာဘုရား ခေါ်တော်မူတာကို မသိလိုက်ဘဲနေမှာ စိုးရိမ်တဲ့အတွက် ဖြစ်ပါတယ်။ ဒါကြောင့် တစ်ညလုံး ဆီမီးတိုင်ကို လက်က မချဘဲ ကိုင်ထားတာပါ။

ဒါကတော့ အရှင်မြတ်အတွက် ဧတဒဂ်ဘွဲ့ထူး ရဖို့ရန် အကြောင်းအထွာပွတ်ပဲ ဖြစ်ပါတယ်။

မြတ်စွာဘုရားရှင်ဟာ နောက်ပိုင်းကာလ တစ်ချိန်မှာတော့ ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူရင်း အကြောင်းပေါင်းများစွာနဲ့ တရားဘဏ္ဍာစိုး ဖြစ်တော်မူတဲ့ အရှင်အာနန္ဒာမထေရ်ရဲ့ ဂုဏ်ကျေးဇူးကို ချီးကျူးဟောကြားတော်မူပြီး အရှင်အာနန္ဒာမထေရ်ကို ဒီသာသနာတော်မှာ ဗဟုသုတအရာ၊ သတိမန္တအရာ၊ ဂတိမန္တအရာ၊ ဓိတိမန္တအရာ၊ ဥပဋ္ဌာကအရာ အသာဆုံး ဧတဒဂ်ရာထူးတွေနဲ့ ချီးမြှောက်တော်မူခဲ့ပါတယ်။

## အရှင်အာနန္ဒာ ရဟန္တာဖြစ်တော်မူပုံ

ဧတဒဂ် ငါးတန်ရ တရားဘဏ္ဍာစိုးဖြစ်တော်မူတဲ့ အရှင်အာနန္ဒာမထေရ်ဟာ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူတဲ့အချိန်မှာ သက်တော်ရှစ်ဆယ် ရှိနေပြီး တရားပိုင်းဆိုင်ရာအနေနဲ့ကတော့ သောတာပန် ပုဂ္ဂိုလ်အဆင့်မှာပဲ ရှိနေပါသေးတယ်။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံပြီးတဲ့အခါ အရှင်မဟာကဿပ စတဲ့ အရှင်မြတ်များက မြတ်စွာဘုရား လေးဆယ့်ငါးဝါပတ်လုံး ဟောတော်မူခဲ့တဲ့ တရားတော်များကို ပျောက်ကွယ်မသွားအောင် ပထမသင်္ဂါယနာတင်ဖို့ စီမံတော်မူကြပါတယ်။ ပထမ သင်္ဂါယနာတင်ပွဲကို ဘုရား ပရိနိဗ္ဗာန်စံပြီး သုံးလအကြာမှာ ကျင်းပပါတယ်။ မဟာသက္ကရာဇ် ၁၄၈-ခုနှစ် ဝါခေါင်လပြည့်နေ့မှာ ဖြစ်ပါတယ်။

သင်္ဂါယနာတင်ပွဲ မကျင်းပမီ တစ်ရက်အလိုမှာ ရဟန်းတော်တချို့က အရှင်အာနန္ဒာကို "ငါ့ရှင်… မနက်ဖြန်မှာ သင်္ဂါယနာတင်ဖို့ သန္နိပါတ-အစည်းအဝေးရှိတယ်၊ သင်ကလည်း ကျင့်ဆဲ သေက္ခပုဂ္ဂိုလ်အဆင့်မှာပဲ ရှိနေသေးတယ်။ ဒါကြောင့် သင့်အဖို့ရာ မနက်ဖြန် သန္နိပါတ-အစည်းအဝေးတက်ဖို့ မသင့်တော်သေးဘူး၊ မမေ့မလျော့



ရဟန်းတရား ကြိုးစားအားထုတ်ပါ" လို့ တိုက်တွန်းခဲ့ကြပါတယ်။ ဒီအခါ အရှင်အာနန္ဒာ မထေရ်ဟာ 'ဪ… ဟုတ်ပေသားပဲ၊ ငါက သေက္ခ-ကျင့်ဆဲပုဂ္ဂိုလ်အဆင့်မှာပဲ ရှိသေးတယ်၊ အသေက္ခ-ကျင့်ပြီးဖြစ်တဲ့ ရဟန္တာမထေရ်တွေနဲ့ အတူ သင်္ဂါယနာတင်ဖို့နဲ့ သန္နိပါတ-အစည်းအဝေးတက်ဖို့ မတော်ပါဘူး' လို့တွေးပြီး တစ်ညလုံး ကာယဂတာသတိ ကမ္မဋ္ဌာန်း အပြင်းအထန် စီးဖြန်းအားထုတ်ပါတယ်။

ဝီရိယလွန်ကဲပြီး သမာဓိ-အငြိမ်နည်းနေတဲ့အတွက် ဝီရိယနဲ့ သမာဓိ ညီမျှစေဖို့ စင်္ကြံသွားနေရာကနေ ကျောင်းထဲဝင်ကာ အိပ်ရာပေါ်မှာ ထိုင်ပြီး တရားအမှတ်နဲ့ ခန္ဓာကိုယ်ကို လှဲလိုက်ပါတယ်။ ဦးခေါင်းကလည်း ခေါင်းအုံးပေါ် မရောက်သေး၊ ခြေထောက်နှစ်ချောင်းကလည်း မြေကြီးကနေ လွတ်ခါစ၊ ဒီအချိန်လေးအတွင်းမှာ အရှင်မြတ်ဟာ အရဟတ္တဖိုလ်ရခဲ့ပြီး အဘိညာဉ် ခြောက်ပါးနဲ့ ပြည့်စုံတဲ့ ရဟန္တာဖြစ်တော်မူခဲ့ပါတယ်။ အရှင်မြတ် ရဟန္တာဖြစ်တာဟာ လဲလျောင်းနေတဲ့အချိန်လည်း မဟုတ်၊ ထိုင်နေတဲ့အချိန်၊ ရပ်နေတဲ့အချိန်၊ သွားနေတဲ့အချိန်လည်း မဟုတ်တာမို့ လျောင်း၊ ထိုင်၊ ရပ်၊ သွားဆိုတဲ့ ဣရိယာပုထ်လေးပါးက လွတ်တဲ့အချိန်မှာ ဖြစ်ခဲ့တာပါ။

ပထမသင်္ဂါယနာတင်ပွဲမှာ အရှင်မဟာကဿပမထေရ်က အမေးပုစ္ဆက တာဝန်ယူပြီး မေးမြန်းတော်မူခဲ့ပါတယ်။ ဝိနည်းအရာ ဧတဒဂ်ရတဲ့ အရှင်ဥပါလိမထေရ်က ဝိနည်းပိဋကအရာ အဖြေပုဂ္ဂိုလ်အဖြစ် တာဝန်ယူပြီး၊ အရှင်အာနန္ဒာမထေရ်ကတော့ သုတ္တန်ပိဋကနဲ့ အဘိဓမ္မာပိဋကအရာမှာ အဖြေပုဂ္ဂိုလ်အဖြစ် တာဝန်ယူ ဆောင်ရွက်တော်မူခဲ့ပါတယ်။ အရှင်အာနန္ဒာမထေရ်ဟာ မြတ်စွာဘုရား ဟောကြား တော်မူခဲ့တဲ့ ပိဋကတ်သုံးပုံစလုံးကို အလွတ်အာဂုံ ဆောင်ထားနိုင်တဲ့ ပုဂ္ဂိုလ်ဖြစ်တာမို့ 'ဓမ္မဘဏ္ဍာဂါရိက = တရားဘဏ္ဍာစိုး =

တရားဘဏ္ဍာစောင့်ထိန်းတဲ့ပုဂ္ဂိုလ်"လို့ သာသနာသမိုင်းမှာ ကမ္ပည်း မော်ကွန်း ရေးထိုးခံရတဲ့ ပုဂ္ဂိုလ် ဖြစ်ပါတယ်။

## (ဂ) အရှင်အာနန္ဒာမထေရ်နဲ့ ဆက်စပ်တဲ့ တရားဒေသနာ ကောက်နုတ်ချက်

### (၁) ရာဂ၊ ဒေါသ၊ မောဟတွေကို ဘာလို့ ပယ်ဖို့ ဟောရတာလဲ

တစ်ခါမှာတော့ ဆန္န အမည်ရှိတဲ့ ပရိဗိုဇ်တစ်ဦး အရှင်အာနန္ဒာဆီ ရောက်လာပြီး "ငါ့ရှင် အာနန္ဒာ… သင်တို့လည်း ရာဂ၊ ဒေါသ၊ မောဟတွေကို ပယ်ဖို့ တရားဟောပါသလား" လို့ မေးပါတယ်။ အရှင်အာနန္ဒာက ရာဂ၊ ဒေါသ၊ မောဟတွေကို ပယ်ဖို့ တရားဟောတဲ့ အကြောင်း ဖြေပါတယ်။ ဒီအခါ ပရိဗိုဇ်က ဘယ်လို အပြစ်တွေကို မြင်လို့ ဟောရတာလဲလို့ ဆက်ပြီး မေးတဲ့အတွက် အရှင်အာနန္ဒာက "ငါ့ရှင်… ရာဂတွေ ကြီးလာပြီး ရာဂတွေ ထကြွသောင်းကျန်းလာတဲ့ပုဂ္ဂိုလ်ဟာ ကိုယ့်ကိုယ်ကိုယ် စိတ်ဆင်းရဲအောင်လည်း လုပ်တယ်၊ သူတစ်ပါး စိတ်ဆင်းရဲအောင်လည်း လုပ်တယ်၊ ကိုယ်ရော သူများပါ စိတ်ဆင်းရဲရတဲ့အလုပ်တွေကို လုပ်တယ်။ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲလည်း ဖြစ်ရတယ်။ ဒါတင်မက ကာယဒုစရိုက်၊ ဝစီဒုစရိုက်၊ မနောဒုစရိုက် အကုသိုလ်အမှုတွေကိုလည်း လုပ်တော့တာပဲ။ ရာဂတွေနဲ့ ပူလောင်နေရတဲ့ပုဂ္ဂိုလ်ဟာ ကိုယ့်အကျိုးစီးပွားလည်း မသိသလို သူတစ်ပါး အကျိုးစီးပွားလည်း မသိတော့။ ပညာဉာဏ်မျက်စိတွေကန်း၊ ပင်ပန်းဆင်းရဲပြီး ငြိမ်းချမ်းမှုတွေနဲ့ ဝေးတော့တာပါ။

ဒေါသတွေကြီး၊ မောဟတွေကြီးပြီး ဒေါသ၊ မောဟတွေနှိပ်စက်ခံနေရတဲ့ပုဂ္ဂိုလ်တွေလည်း ဒီ့အတူပါပဲ။ ဒီလို အပြစ်တွေကို မြင်လို့ ရာဂ၊ ဒေါသ၊ မောဟတွေကို ပယ်ဖို့ ဟောရတာ ဖြစ်တယ်" လို့ ဖြေကြားတော်မူပါတယ်။ ဆက်ပြီး ဆန္နပရိဗိုဇ်က "ဒီ ရာဂ၊ ဒေါသ၊ မောဟတွေ ပယ်ဖို့ ကျင့်စဉ်၊ လမ်းစဉ်တွေ ရှိပါသလား"လို့ မေးတဲ့အတွက် အရှင်အာနန္ဒာက "ငါ့ရှင်… ရာဂ၊ ဒေါသ၊ မောဟတရားဆိုးတွေ ပယ်ဖို့အတွက် ကျင့်စဉ်၊ လမ်းစဉ်ရှိပါတယ်။ အဲဒါကတော့ မဇ္ဈိမပဋိပဒါလို့ ခေါ်တဲ့ မဂ္ဂင်ရှစ်ပါး ကျင့်စဉ်ပဲ ဖြစ်ပါတယ်။ မဂ္ဂင်ရှစ်ပါးဆိုတာ သမ္မာဒိဋ္ဌိ - မှန်ကန်တဲ့ အသိ၊ သမ္မာသင်္ကပ္ပ-မှန်ကန်တဲ့အတွေး၊ သမ္မာဝါစာ-မှန်ကန်တဲ့အပြော၊ သမ္မာကမ္မန္တ-မှန်ကန်တဲ့အလုပ်၊ သမ္မာအာဇီဝ-မှန်ကန်တဲ့ အသက်မွေးမှု၊ သမ္မာဝါယာမ-မှန်ကန်တဲ့ ကြိုးစားအားထုတ်မှု၊ သမ္မာသတိ-မှန်ကန်တဲ့ အမှတ်ရမှုနဲ့ သမ္မာသမာဓိ-မှန်ကန်တဲ့ တည်ကြည်မှုတွေပဲ ဖြစ်တယ်။ (အကျဉ်းချုပ်ကတော့ သီလ၊ သမာဓိ၊ ပညာ ဖြစ်ပါတယ်။) ဒီမဂ္ဂင်ရှစ်ပါးကို နေ့စဉ်ပွားနေရင် ရာဂ၊ ဒေါသ၊ မောဟတွေကို ပယ်နိုင်မှာ ဖြစ်ပါတယ်" လို့ ရှင်းလင်း ဖြေကြားတော်မူခဲ့ပါတယ်။

ဒီအခါ ဆန္န ပရိဗိုဇ်က "အရှင်ဘုရား… အရှင်ဘုရား ဟောတော်မူတဲ့ မဂ္ဂင်ရှစ်ပါး လမ်းစဉ်၊ ကျင့်စဉ်ဟာ ကောင်းမြတ်တဲ့ လမ်းစဉ်၊ ကျင့်စဉ်ဖြစ်ပါတယ်ဘုရား။ မမေ့မလျော့ အားထုတ်သင့်လှပါတယ်ဘုရား" လို့ ဝမ်းမြောက်စွာ ပြန်လည်လျှောက်ထားခဲ့ပါတယ်။

(အင်္ဂုတ္တိုရ်တိကနိပါတ်၊ ဆန္နသုတ်)

### (၂) သွာက္ခာတဓမ္မ - ကောင်းစွာ ဟောကြားအပ်တဲ့ တရား

တစ်ခါမှာတော့ အရှင်အာနန္ဒာ မထေရ်ဟာ ကောသမ္ဗီပြည် ဃောသိတာရုံကျောင်းမှာ သီတင်းသုံးနေတော်မူပါတယ်။ ဒီအခါ တိတ္ထိတက္ကတွန်းတွေရဲ့ တပည့်ဒကာတစ်ယောက် ရောက်လာပြီး "အရှင်ဘုရား… အဘယ်ပုဂ္ဂိုလ်တွေ ဟောတဲ့တရားက သွာက္ခာတ - ကောင်းစွာ ဟောကြားအပ်တဲ့တရား ဖြစ်ပါသလဲ၊ အဘယ်ပုဂ္ဂိုလ်တွေဟာ လောကမှာ ကောင်းမွန်စွာ ကျင့်နေတဲ့ပုဂ္ဂိုလ်တွေ ဖြစ်ပါသလဲ၊ အဘယ်ပုဂ္ဂိုလ်တွေဟာ လောကမှာ ကျင့်တဲ့ကိစ္စ ပြီးစီးသွားတဲ့ ပုဂ္ဂိုလ်တွေ ဖြစ်ပါသလဲ" လို့ မေးခွန်း သုံးခု မေးခဲ့ပါတယ်။

ဒီအခါ အရှင်အာနန္ဒာမထေရ်က "ဒကာ… သင့်ကိုပဲ မေးခွန်း ပြန်မေးပါရစေ၊ သင် ကြိုက်သလို ဖြေပါ။ လောကမှာ ရာဂ ပယ်ဖို့ရန်၊ ဒေါသ ပယ်ဖို့ရန်၊ မောဟ ပယ်ဖို့ရန် တရားဟောတဲ့ ပုဂ္ဂိုလ်တွေ ရှိပါတယ်။ အဲဒီပုဂ္ဂိုလ်တွေရဲ့ တရားဟာ သွာက္ခာတ - ကောင်းစွာ ဟောကြားတဲ့ တရား ဖြစ်သလား၊ မဖြစ်ဘူးလား၊ သင် ဘယ်လို သဘောရပါသလဲ" လို့ မေးလိုက်ပါတယ်။ အဲဒီ ဒကာက "အရှင်ဘုရား… ရာဂ ပယ်ဖို့၊ ဒေါသ ပယ်ဖို့၊ မောဟ ပယ်ဖို့ တရားဟောတဲ့သူရဲ့ တရားဟာ သွာက္ခာတ - ကောင်းစွာ ဟောကြား အပ်တဲ့ တရား ဖြစ်ပါတယ်ဘုရား၊ တပည့်တော် ဒီလိုပဲ ယူဆပါ တယ်" လို့ ပြန်ဖြေခဲ့ပါတယ်။

ဆက်ပြီးတော့ အရှင်အာနန္ဒာမထေရ်က "ဒကာ… ဒါဆိုရင် ရာဂ ပယ်နိုင်ဖို့၊ ဒေါသ ပယ်နိုင်ဖို့၊ မောဟ ပယ်နိုင်ဖို့ ကျင့်နေတဲ့ ပုဂ္ဂိုလ်တွေကိုရော သုပ္ပဋိပန္န - ကောင်းမွန်စွာ ကျင့်တဲ့ပုဂ္ဂိုလ်တွေလို့ ဆိုလို့ ရမလား၊ မရဘူးလား။ ဒီနေရာမှာရော သင်ဘယ်လို သဘောရ ပါသလဲ" လို့ မေးလိုက်ပါတယ်။ ဒီအခါမှာလည်း အဲဒီ ဒကာက "အရှင်ဘုရား… ရာဂ၊ ဒေါသ၊ မောဟတွေ ပယ်နိုင်ဖို့ ကျင့်နေတဲ့သူ တွေကို သုပ္ပဋိပန္န - ကောင်းစွာ ကျင့်နေတဲ့ပုဂ္ဂိုလ်တွေလို့ ခေါ်နိုင် ပါတယ် ဘုရား" လို့ ပြန်လည် ဖြေကြားခဲ့ပါတယ်။

နောက်ဆုံးအနေနဲ့ အရှင်အာနန္ဒာမထေရ်က "ဒကာ… ဒါဖြင့်ရင် ကောင်းပါပြီ။ ရာဂ၊ ဒေါသ၊ မောဟတွေကို အကြွင်းမဲ့ ပယ်ပြီးတဲ့ ပုဂ္ဂိုလ်တွေကို သုကတ - ကျင့်ပြီးသွားတဲ့ ပုဂ္ဂိုလ်တွေလို့ ခေါ်နိုင်ပါသလား" လို့ မေးခဲ့ပြီး အဲဒီဒကာကလည်း "အရှင် ဘုရား… ရာဂ၊ ဒေါသ၊ မောဟတွေကို အကြွင်းမဲ့ ပယ်နိုင်သွားပြီ ဆိုရင်တော့ ဒီပုဂ္ဂိုလ်ကို သုကတ-ကျင့်တဲ့ကိစ္စ ပြီးသွားတဲ့ ပုဂ္ဂိုလ်လို့ ခေါ်နိုင်ပါတယ် ဘုရား" လို့ ပြန်လည် ဖြေကြားခဲ့ပါတယ်။



ဒီအခါမှာတော့ အရှင်အာနန္ဒာမထေရ်က "ဒကာ… ဒါဆိုရင် သင်မေးခဲ့တဲ့ မေးခွန်းသုံးခုကို သင်ကိုယ်တိုင်ပဲ ဖြေပြီးသွားပြီ ဖြစ်ပါတယ်" လို့ မိန့်ကြားလိုက်ပါတယ်။ ဒီလို မိန့်လိုက်တယ်ဆိုရင်ပဲ အဲဒီ ဒကာဟာ "အရှင်ဘုရား… အံ့သြစရာ ကောင်းလိုက်တာဘုရား၊ ထူးဆန်းလိုက်တာဘုရား၊ အရှင်ဘုရားဟာ ကိုယ့်တရားကို ကောင်း ကြောင်း ချီးမြှောက်ပြီး ပြောဟောတာလည်း မဖြစ်ပါ ဘုရား။ တစ်ပါးသော ပုဂ္ဂိုလ်တွေရဲ့ အယူဝါဒကို တိုက်ခိုက်ပြီးတော့လည်း ဖြေကြားရာ မရောက်ပါ ဘုရား။ တကယ့်ကို အကျိုးသင့် အကြောင်းသင့် နည်းမှန် လမ်းမှန်နဲ့ ဟောကြားခဲ့တဲ့ တရားဒေသနာ ဖြစ်ပါတယ်ဘုရား။ အကျိုးလည်း ရှိပြီး ကိုယ့်ကိုယ်ကိုယ်လည်း ဝါကြွားပလွှား ချီးမြှောက်တာ မပါပါဘုရား။ တပည့်တော် ဒီနေ့ကစပြီး ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ကြည်ညို ဆည်းကပ်ပါတယ်ဘုရား။ တပည့်တော် ကို ဒကာရင်းအဖြစ် အသိအမှတ်ပြုတော်မူပါ ဘုရား" လို့ အားရ ဝမ်းသာ ပြန်လည် လျှောက်ထားခဲ့ပါတယ်။

(အင်္ဂုတ္တိုရ်၊ တိကနိပါတ် ပါဠိတော်၊ အာဇီဝကသုတ်)

## (၃) မြတ်စွာဘုရား မိန့်တော်မူတဲ့ ဆွေမျိုးစောင့်ရှောက်နည်း

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်က အရှင်အာနန္ဒာကို "အာနန္ဒာ… သင်ဟာ သင့်ရဲ့ ဆွေမျိုးသားချင်းတွေ၊ မိတ်ဆွေ သင်္ဂဟတွေကို သနားစောင့်ရှောက်လိုတယ်ဆိုရင်၊ အဲဒီသူတွေကလည်း သင့်ရဲ့ စကားကို တလေးတစား နားထောင်ကြမယ်ဆိုရင် အရာဌာန သုံးမျိုးအပေါ်မှာ သက်ဝင်ယုံကြည်မှု ရှိလာအောင် ဆောက်တည် ကျင့်သုံးစေသင့်တယ်။ အဲဒီအရာဌာန သုံးမျိုးကတော့---

(၁) ဘုရားရတနာအပေါ်မှာ မမိုတ်မသုန် သက်ဝင်ယုံကြည်မှု ရှိလာအောင်

'မြတ်စွာဘုရားရှင်ဆိုတာ---

၁။ ကိလေသာအညစ်အကြေးတွေကနေ ကင်းဝေး စင်ကြယ်တဲ့ အတွက်ကြောင့် အရဟံဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၂။ သိစရာမှန်သမျှ တရားအားလုံးကို ဆရာမကူ ကိုယ်တော်တိုင် ဟုတ်တိုင်းမှန်စွာ သိမြင်တော်မူတဲ့အတွက် သမ္မာသမ္ဗုဒ္ဓဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၃။ အသိဉာဏ်ဝိဇ္ဇာရော အကျင့်စရဏနဲ့ပါ ပြည့်စုံတော်မူတဲ့ အတွက် ဝိဇ္ဇာစရဏသမ္ပန္နဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၄။ နိဗ္ဗာန်ရောက်ကြောင်း ကောင်းမြတ်တဲ့ တရားစကားကိုသာ မိန့်ဆိုတော်မူတဲ့အတွက် သုဂတဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၅။ လောကသုံးပါးရဲ့ အကြောင်းအရာ အလုံးစုံကို အကုန်အစင် သိမြင်တော်မူတဲ့အတွက် လောကဝိဒူဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၆။ မယဉ်ကျေးတဲ့ ပုဂ္ဂိုလ်သတ္တဝါတွေကို ဆုံးမတော်မူတဲ့နေရာမှာ အတုမရှိ အမြတ်ဆုံး ဖြစ်တော်မူတဲ့အတွက်ကြောင့် အနုတ္တရော ပုရိသဒမ္မသာရထိဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၇။ ချမ်းသာရကြောင်း လမ်းကောင်းညွှန်ပြ ဆုံးမတော်မူတဲ့ အတွက် လူနတ်ဗြဟ္မာ သတ္တဝါ အားလုံးတို့ရဲ့ ဆရာမြတ် အစစ် ဖြစ်တော်မူတာကြောင့် သတ္ထာဒေဝမနုဿာနံ ဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၈။ သစ္စာလေးပါး အမှန်တရားကို ကိုယ်တော်တိုင်လည်း သိ၊ ဝေနေယျသတ္တဝါတွေကိုလည်း သိစေတော်မူတတ်တဲ့အတွက် ဗုဒ္ဓဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊



၉။ ဘုန်းတော်ခြောက်စုံ တန်ခိုးဂုဏ်နဲ့ ပြည့်စုံတော်မူတဲ့အတွက် ဘဂဝါဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်' လို့ ဘုရားဂုဏ်တော်တွေကို ဟောပြပြီး သက်ဝင်ယုံကြည်စေသင့်၊ ဆောက်တည်စေသင့်တယ်။

(၂) တရားရတနာအပေါ်မှာ သက်ဝင်ယုံကြည်မှု ရှိလာအောင်လည်း မြတ်စွာဘုရား ဟောကြားထားတဲ့ တရားရတနာဆိုတာ---

၁။ အစ၊ အလယ်၊ အဆုံး ကောင်းခြင်းဂုဏ်နဲ့ ပြည့်စုံအောင် ဟောထားတဲ့အတွက် သွာက္ခာတ ဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၂။ ကိုယ်တိုင်ကျင့်လျှင် ကိုယ်တိုင်သိမြင်နိုင်တဲ့အတွက် သန္ဒိဋ္ဌိက ဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၃။ အချိန်အခွင့် မဆိုင်းလင့်ဘဲ အသင့်လက်ငင်း ချက်ချင်း အကျိုးပေးတတ်တဲ့အတွက် အကာလိကဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၄။ လာလှည့်ပါ၊ ရှုလှည့်ပါလို့ ဖိတ်ခေါ်တိုက်တွန်းထိုက်တဲ့ အတွက် ဧဟိပဿိကဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၅။ မိမိရဲ့ ကိုယ်ထဲ စိတ်ထဲမှာ ဆောင်ထားထိုက်တဲ့အတွက် ဩပနေယျိကဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၆။ အရိယာပညာရှိ ပုဂ္ဂိုလ်တွေသာ အသီး အသီး ကိုယ်စီကိုယ်င သိနိုင်ခံစားနိုင်တဲ့အတွက် ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟိ ဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်လို့ ရှင်းပြဟောပြပြီး ယုံကြည်စေသင့်၊ ဆောက်တည် ကျင့်သုံးစေသင့်တယ်။

(၃) အရိယာသံဃာလို့ခေါ်တဲ့ သံဃာရတနာအပေါ်မှာလည်း သက်ဝင်ယုံကြည်မှုတွေ ရှိလာအောင်

မြတ်စွာဘုရားရဲ့ တပည့်သား သံဃာဆိုတာ---

၁။ သီလ၊ သမာဓိ၊ ပညာဆိုတဲ့ ကောင်းမွန်တဲ့ အကျင့်ပဋိပတ်ကို ကျင့်ကြံတော်မူကြတဲ့အတွက် သုပ္ပဋိပန္နဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၂။ ဖြောင့်မတ်တဲ့ အကျင့်ကို ကျင့်တော်မူတဲ့အတွက် ဥဇုပ္ပဋိပန္နဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၃။ မဂ်ဖိုလ်ရရန် သင့်မြတ်မှန်ကန်တဲ့ အကျင့်ကို ကျင့်တော်မူတဲ့အတွက် ဉာယပ္ပဋိပန္နဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၄။ အရိုအသေ ခံထိုက်အောင် ကျင့်ကြံတော်မူကြတဲ့အတွက် သာမီစိပ္ပဋိပန္နဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၅။ အရပ်ဝေးမှသော်လည်း လှူဖွယ်ပစ္စည်းဝတ္ထုကို ဆောင်ယူပြီး ပေးလှူပူဇော်ရန် ထိုက်တန်တဲ့အတွက် အာဟုနေယျဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၆။ ဧည့်သည်များအတွက် စီမံထားတဲ့ စားဖွယ်သောက်ဖွယ်ကို များကိုပင် ပေးလှူပူဇော်ထိုက်တဲ့အတွက် ပါဟုနေယျဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၇။ တမလွန်အတွက် ရည်မျှော်ပြီး လှူတဲ့ အလှူကို ခံတော်မူထိုက်တဲ့အတွက် ဒက္ခိဏေယျဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၈။ လက်အုပ်ချီမိုး ရှိခိုးခြင်းကို ခံတော်မူထိုက်တဲ့အတွက် အဉ္ဇလိကရဏီယဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်၊

၉။ ကောင်းမှုမျိုးစေ့ကို စိုက်ပျိုးကြဲချရာ အကောင်းဆုံး လယ်ယာမြေသဖွယ် ဖြစ်တော်မူတဲ့ အတွက်ကြောင့် အနုတ္တရံ ပုညက္ခေတ္တံ လောကဿဂုဏ်တော်နဲ့ ပြည့်စုံတော်မူတယ်လို့ သံဃာ့ဂုဏ်တော်များကို ရှင်းပြပြီး ယုံကြည်စေသင့်တယ် ဆောက်တည်စေသင့်တယ်'' လို့ မိန့်တော်မူပါတယ်။



ဆက်လက်ပြီး မြတ်စွာဘုရားက အရှင်အာနန္ဒာကို ``အာနန္ဒာ… ပင်ကိုသဘောလက္ခဏာ ပြောင်းလွဲ ရိုးထုံးစံမရှိတဲ့ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယောဆိုတဲ့ ဓာတ်ကြီးလေးပါးလုံးကမှ သူတို့ရဲ့ ပင်ကို သဘောလက္ခဏာတွေ ဖောက်ပြန်သွားမယ်ဆို သွားနိုင်စရာ ရှိပါတယ်။ ဒီ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါး အပေါ်မှာ မမိုတ်မသုန် သက်ဝင်ယုံကြည်တဲ့ ပုဂ္ဂိုလ်ဖြစ်သွားပြီ ဆိုရင်တော့ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာဘုံမှာ ကျရောက်ပြီး ဖောက်ပြန်သွားတယ် ဆိုတာ ဘယ်လိုနည်းနဲ့မှ မဖြစ်နိုင်။ အာနန္ဒာ… ဒါကြောင့် သင်ဟာ သင့်ရဲ့ ဆွေမျိုးတွေ၊ မိတ်ဆွေသင်္ဂဟတွေကို သနားစောင့်ရှောက်လိုတယ်၊ သူတို့ကလည်း သင့်စကား နားထောင်ကြမယ်ဆိုရင် ဒီ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါး အပေါ်မှာ မမိုတ်မသုန် ဉာဏ်နဲ့ သက်ဝင်ယုံကြည်လာအောင် ဆောက်တည်ကျင့်သုံးစေသင့်တယ်'' လို့ မိန့်မှာ ဟောကြားတော်မူခဲ့ပါတယ်။

(အင်္ဂုတ္တိုရ် တိကနိပါတ်ပါဠိတော်၊ နိဝေသကသုတ်)

## (၄) အသက်စွန့် ကျင့်တိုင်း အကျိုး ရှိ၊ မရှိ

တစ်ခါမှာတော့ မြတ်စွာဘုရားရှင်က အရှင်အာနန္ဒာကို ``အာနန္ဒာ… အနှစ်သာရရှိတယ်ထင်ပြီး အသက်သေချင် သေပါစေ ဆိုတဲ့ စိတ်ထားနဲ့ ကျင့်ကြံအားထုတ်တဲ့ အကျင့်တွေဟာ အကျိုးရှိပါသလား'' လို့ မေးတော်မူပါတယ်။ အရှင်အာနန္ဒာက ``မြတ်စွာဘုရား… ဒီမေးခွန်းကို အကျိုးရှိတယ်၊ မရှိဘူး လို့ တထစ်ချ တစ်ဖက်သတ် ဖြေလို့မရပါ ဘုရား'' လို့ လျှောက်ထားပါတယ်။ မြတ်စွာဘုရားက ဒါဆိုရင်လည်း ဝေဖန်ခွဲခြားပြီး ဖြေပါလို့ မိန့်တော်မူတဲ့အတွက် အရှင်အာနန္ဒာက ``မြတ်စွာဘုရား… အသက်စွန့်ပြီး အပြင်းအထန် ကျင့်ကြံအားထုတ်တဲ့အတွက် အကုသိုလ်တရားတွေပဲ တိုးလာမယ်၊ ကုသိုလ်တရားတွေ ဆုတ်ယုတ်သွားမယ်ဆိုရင် ဒီလို

ကျင့်ကြံအားထုတ်မှုမျိုးဟာ အကျိုးမရှိပါဘုရား။ အားထုတ်လိုက်လို့ အကုသိုလ်တရားတွေ ဆုတ်ယုတ်သွားပြီး ကုသိုလ်တရားတွေ တိုးလာမယ်ဆိုရင်တော့ ဒီလိုအကျင့်မျိုးဟာ အကျိုးရှိတဲ့ အကျင့်ဖြစ်ပါတယ် ဘုရား'' လို့ ဝေဖန်ပိုင်းခြားပြီး ဖြေဆိုခဲ့ပါတယ်။

အရှင်အာနန္ဒာရဲ့ အဖြေကို မြတ်စွာဘုရား နှစ်သက်သဘောကျတော်မူပြီး ရဟန်းသံဃာတော်တွေကို ''ရဟန်းတို့... အာနန္ဒာဟာ ကျင့်ဆဲ-သေက္ခပုဂ္ဂိုလ်အဆင့်ပဲ ရှိပါသေးတယ်၊ ဒါပေမယ့် သူနဲ့ အသိဉာဏ်ပညာချင်း တန်းတူရည်တူရှိတဲ့ပုဂ္ဂိုလ်မျိုး ရဖို့မလွယ်ဘူး'' လို့ ချီးကျူးစကား မိန့်ကြားတော်မူခဲ့ပါတယ်။

(အင်္ဂုတ္တိုရ် တိကနိပါတ်ပါဠိတော်၊ သီလဗ္ဗတသုတ်)

## (၅) လေစုန်ရော လေညာပါ သင်းပျံ့ မွှေးကြိုင်နိုင်တဲ့ ရနံ့

တစ်ခါမှာတော့ အရှင်အာနန္ဒာက မြတ်စွာဘုရားကို ''မြတ်စွာဘုရား... ရနံ့မွှေးကြိုင်တဲ့ သစ်မြစ်တွေ၊ နံ့သာနှစ်တုံးတွေ၊ ပန်းတွေ ရှိပါတယ် ဘုရား။ ဒီသုံးမျိုးရဲ့ ရနံ့က လေအောက်ဘက်ကိုပဲ သွားနိုင်ပါတယ်၊ လေညာဘက်ဆီ မသွားနိုင်ပါဘုရား။ လောကမှာ လေအောက်ဘက်ရော လေညာဘက်ပါ နှစ်ဖက်လုံး သင်းပျံ့ မွှေးကြိုင်နိုင်တဲ့ ရနံ့ဆိုတာ ရှိပါသလား ဘုရား'' လို့ မေးလျှောက်ခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက ''အာနန္ဒာ... လေအောက်၊ လေညာ နှစ်ဖက်လုံးသာမက အရပ်မျက်နှာတိုင်းဆီ သင်းပျံ့နိုင်တဲ့ ရနံ့ဆိုတာ ရှိတာပေါ့။ အဲဒါကတော့ ဘယ်အရပ်မှာ နေတဲ့ ယောက်ျား ဖြစ်ဖြစ်၊ မိန်းမဖြစ်ဖြစ် ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်မယ်၊ ငါးပါးသီလလည်း လုံခြုံမယ်၊ ဝန်တိုမှု မစ္ဆရိယ အညစ်အကြေးကင်းပြီး အပေးအကမ်း ရက်ရောမယ်ဆိုရင် အဲဒီ ယောက်ျား၊ မိန်းမတွေရဲ့ ကောင်းသတင်းဂုဏ်ဟာ အရပ်တိုင်းဆီကို ပျံ့နှံ့သွားနိုင်တယ်၊



လူ့ပြည်တင်မက နတ်ပြည်ရှိ နတ်သား၊ နတ်သမီးတွေဆီအထိ ကောင်းသတင်းဂုဏ်တွေ သင်းပျံ့ ကြိုင်လှိုင်နိုင်ပါတယ်။ ဒါကြောင့် ဘယ်အရပ်မဆို အရပ်ဒေသတိုင်းကို ပျံ့နှံ့သင်းကြိုင်နိုင်တဲ့ ရနံ့ဆိုတာ သီလရနံ့ပါပဲ'' လို့ ဖြေကြားတော်မူခဲ့ပါတယ်။

(အင်္ဂုတ္တိုရ် တိကနိပါတ် ပါဠိတော်၊ ဂန္ဓဇာတသုတ်)

## (၆) အရှင်အာနန္ဒာ နှင့် ဒိဝါ တပတိ ဂါထာတော်

ဒိဝါ တပတိ အစချီတဲ့ သဗ္ဗမင်္ဂလာ ဂါထာတော်ကို မြတ်စွာဘုရားရှင်ဟာ သာဝတ္ထိပြည်က ဝိသာခါကျောင်းအမကြီး ဆောက်လုပ်လှူဒါန်းတဲ့ ပုဗ္ဗာရုံကျောင်းတော်မှာ သီတင်းသုံး နေတော်မူစဉ်မှာပဲ အရှင်အာနန္ဒာမထေရ်ကို အကြောင်းပြုပြီး ဟောခဲ့တာပါ။

သာဝတ္ထိပြည့်ရှင် ဘုရင် ပသေနဒီကောသလမင်းဟာ မင်းမြောက်တန်ဆာ ငါးပါး ဝတ်ဆင်မြန်းပြီး ပန်းနံ့သာတွေ ယူဆောင်ကာ သီတင်းကျွတ်လပြည့်နေ့ ညနေပိုင်းမှာ မြတ်စွာဘုရားထံ ရောက်လာခဲ့ပါတယ်။ အဲဒီအချိန်မှာ အရှင်ကာဠုဒါယီ ရဟန္တာမထေရ်ဟာ ဈာန်သမာပတ်ဝင်စားပြီး မြတ်စွာဘုရား နောက်ပါးမှာ ထိုင်နေတော်မူပါတယ်။ နောက်ပြီး အချိန်ကလည်း အရှေ့ဘက်ကောင်းကင်မှာက လပြည့်ဝန်းကြီး ပေါ်ထွက်လာနေပြီး အနောက်ဘက်ကောင်းကင်မှာတော့ သူရိယနေမင်းက ဝင်လုဆဲဆဲအချိန် ဖြစ်ပါတယ်။ အရှင်အာနန္ဒာမထေရ်ဟာ ထွက်ခါစ လမင်းရဲ့ အရောင်၊ ဝင်လုဆဲဆဲ နေမင်းရဲ့ အရောင်၊ ကောသလမင်းရဲ့ ကိုယ်ရောင်ကိုယ်ဝါ၊ ကာဠုဒါယီ ရဟန္တာမထေရ်ရဲ့ ကိုယ်ရောင် ကိုယ်ဝါနဲ့ မြတ်စွာဘုရားရှင်ရဲ့ ကိုယ်ရောင်ကိုယ်ဝါတွေကို သတိထားပြီး ကြည့်လိုက်ပါတယ်။

အဲဒီ အရောင်တွေထဲမှာ မြတ်စွာဘုရားရှင်ရဲ့ ကိုယ်ရောင်ကိုယ်ဝါတွေက ပိုပြီး ထူးကဲစွာ တောက်ပနေတာကိုပါ သတိထား

ကြည်ညိုမိသွားပြီး မြတ်စွာဘုရားကို ရှိခိုးဦးချကာ "မြတ်စွာဘုရား… တပည့်တော် အခု လရောင်၊ နေရောင်၊ ရှင်ဘုရင်ရဲ့ အရောင်၊ ရဟန္တာရဲ့ အရောင်၊ မြတ်စွာဘုရားရဲ့ အရောင်တွေကို သေချာကြည့်လိုက်တဲ့ အခါ ကျန်တဲ့အရောင်တွေထက် ရှင်တော်ဘုရားတို့ရဲ့ ကိုယ်ရောင်ကိုယ်ဝါတွေကပဲ ပိုပြီး နှစ်သက်ကြည်ညိုဖွယ်ရာ ဖူးတွေ့ရပါတယ် ဘုရား။ ရှင်တော်ဘုရားတို့ရဲ့ ကိုယ်ရောင်ကိုယ်ဝါက ကျန်တဲ့အရောင်တွေ အားလုံးကို လွှမ်းသွားပါတော့တယ် ဘုရား" လို့ နှစ်လိုအားရ ဝမ်းပန်းတသာ လျှောက်ထားပါတယ်။

ဒီအခါ မြတ်စွာဘုရားက "အာနန္ဒာ… နေမင်းဆိုတာ နေ့ပိုင်းအချိန်မှာပဲ ထွန်းလင်းတောက်ပ တင့်တယ်နေပါတယ်၊ လမင်းဆိုတာလည်း ညပိုင်းအခါမှာသာ ထွန်းပနိုင်ပါတယ်။ ဘုရင်မင်းမြတ်တွေ ဆိုတာလည်း မင်းမြောက်တန်ဆာငါးပါး ဝတ်ဆင်ထားမှသာ တင့်တယ်တောက်ပနိုင်ပြီး ရဟန္တာအရှင်မြတ်တွေကတော့ ဆိတ်ငြိမ်အရပ်မှာ ဈာန်သမာပတ်တွေ ဝင်စားနေမှပဲ တင့်တယ်ကြည်ညိုဖွယ်ရာ ဖြစ်ပါတယ်။ ဗုဒ္ဓဘုရားရှင်တွေဆိုတာကတော့ နေ့ရောညပါ အချိန်တိုင်း အချိန်တိုင်း အမြဲတမ်း သီလ၊ သမာဓိ၊ ပညာ စတဲ့ တန်ခိုးတွေနဲ့ ထွန်းလင်းတောက်ပ တင့်တယ်နေတော့တာပါ" လို့ မိန့်တော်မူပြီး ဖော်ပြပါ ဒိဝါ တပတိ ဂါထာတော်ကို ဟောကြားတော်မူခဲ့ပါတယ်။

**ဒိဝါ တပတိ အာဒိစ္စော၊ ရတ္တိမာ ဘာတိ စန္ဒိမာ။**
**သန္နဒ္ဓေါ ခတ္တိယော တပတိ၊ ဈာယီ တပတိ ဗြာဟ္မဏော။**
**အထ သဗ္ဗ မဟောရတ္တိံ ၊ ဗုဒ္ဓေါ တပတိ တေဇသာ။**

အာဒိစ္စော - ရောင်ခြည်တစ်ထောင် အလင်းဆောင်သည့် အမှောင်ပယ်ခွင်း ရှင်နေမင်းသည်၊ ဒိဝါ - နေ့ပိုင်းဖြစ်သောအချိန်၌သာလျှင်၊ တပတိ - ထွန်းလင်းတောက်ပ တင့်တယ်နိုင်ပါပေ၏။

စန္ဒိမာ - အေးမြချမ်းသာ ရောင်ဝါပဝင်း ရှင်လမင်းသည်၊ ရတ္တိံ - မြူတိမ်ကင်းရာ ညဥ့်အခါ၌သာလျှင်၊ တပတိ - ထိန်လင်းတောက်ပစွာ သာနိုင်ပါပေ၏။



ခတ္တိယော - ရေမြေ့သနင်း ပြည့်ရှင်မင်းသည်၊ သန္နဒ္ဓေါ - မင်းမြောက်တန်ဆာ ငါးပါးကို ဝတ်ဆင်မြန်းထားမှသာလျှင်၊ တပတိ - တင့်တယ်တောက်ပနိုင်ပါပေ၏။

ဗြာဟ္မဏော - အာသဝေါကင်းကွာ ရဟန္တာပုဂ္ဂိုလ်သည်၊ ဈာယီ - ဈာန်သမာပတ်တွေကို ဝင်စားနေသောအချိန်အခါမှသာလျှင်၊ တပတိ - ကြည်ညိုဖွယ်ရာ တင့်တယ်တောက်ပနိုင်ပါပေ၏။

ဗုဒ္ဓေါ - ဘုရားရှင် ကိုယ်တော်မြတ်ကြီးသည်ကား၊ အထ - ထိုသို့မဟုတ်ဘဲ၊ သဗ္ဗမဟောရတ္တိံ - နေ့ရောညပါ ဘယ်ခါမဆိုင်း အချိန်တိုင်း အချိန်တိုင်း၌သာလျှင်၊ တေဇသာ - ကျက်သရေတန်ခိုး တင့်တယ်ခြင်း အမျိုးမျိုးဖြင့်၊ တပတိ - ထွန်းလင်းတောက်ပ တင့်တယ် သပ္ပာယ်တော်မူလှပါပေ၏။

### (၇) ဓမ္မာဒါသ - တရားကြေးမုံ

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူခါနီး နာတိကရွာ အုတ်ကျောင်းမှာ သီတင်းသုံးနေတဲ့ အချိန်ကအရှင်အာနန္ဒာဟာ ပျံလွန်တော်မူသွားကြတဲ့ အချို့သော ရဟန်းတော်တွေ၊ ရဟန်းမတွေ၊ ဒကာတွေ၊ ဒကာမတွေရဲ့ လားရောက်ရာ ဘုံဘဝတွေကို မေးမြန်းလျှောက်ထားပါတယ်။ ဒီအခါ မြတ်စွာဘုရားရှင်က ဘယ်ရဟန်းကတော့ဖြင့် ရဟန္တာဖြစ်သွားပြီ၊ ဘယ်ရဟန်း၊ ဘယ်ရဟန်းမ၊ ဘယ်ဒကာ၊ ဘယ်ဒကာမတွေကတော့ အနာဂါမ်ဖြစ်သွားပြီ၊ သကဒါဂါမ် ဖြစ်သွားပြီ၊ သောတာပန်ဖြစ်သွားပြီ စသဖြင့် ဖြေဆိုတော်မူပါတယ်။

နောက်ပြီး မြတ်စွာဘုရားက "အာနန္ဒာ… လူတွေ သေကြတယ်ဆိုတာ အံ့ဩစရာ မဟုတ်ပါဘူး။ အဲဒီလူတွေ သေတိုင်း သေတိုင်း မြတ်စွာဘုရားထံ လာပြီး ဒီပုဂ္ဂိုလ်တွေ ဘာဖြစ်သွားတုံး၊ ဘယ်ဘုံ ဘယ်ဘဝ ရောက်သွားတုံး စသဖြင့် မေးနေမယ်ဆိုရင်တော့ မြတ်စွာဘုရားအတွက် ပင်ပန်းဖို့ပဲ ဖြစ်နေပါလိမ့်မယ်။ ဒီတော့ ကိုယ့်

ကိုယ်ကိုယ် ဘယ်အခြေအနေ ရောက်နေပြီ၊ ဘယ်ဘုံ၊ ဘယ်ဘဝ ရောက်နိုင်တယ်ဆိုတာကို ကိုယ်တိုင်ဆုံးဖြတ်ပြီး သိနိုင်မယ့် တရားကြေးမုံလို့ အမိပ္ပာယ်ရတဲ့ ဓမ္မာဒါသ တရားတော်ကို ငါ ဟောကြားမယ်။ ဒီ တရားတော်နဲ့ ချိန်ဆကြည့်လိုက်မယ်ဆိုရင် 'ငါ့မှာ ငရဲမျိုးစေ့ကုန်ပြီ၊ တိရစ္ဆာန်တွေ၊ ပြိတ္တာတွေ မဖြစ်နိုင်တော့ဘူး၊ ငါဟာ သောတာပန် ဖြစ်ပြီ၊ ငါ့အတွက် အထက်မဂ် အထက်ဖိုလ်တွေပဲ ရဖို့ရန် ရှိတော့တယ်' လို့ ကိုယ်ကိုယ်တိုင်ပဲ ဆုံးဖြတ်နိုင်ပါလိမ့်မယ်။ အဲဒီ ဓမ္မာဒါသ - တရားကြေးမုံဆိုတာက---

(၁) မြတ်စွာဘုရားအပေါ်မှာ မတုန်မလှုပ် ဉာဏ်နဲ့ သက်ဝင်ယုံကြည်တာ၊

(၂) မြတ်စွာဘုရားရဲ့ တရားတော်အပေါ်မှာ မတုန်မလှုပ် ဉာဏ်နဲ့ သက်ဝင်ယုံကြည်တာ၊

(၃) အရိယာသံဃာတော်တွေအပေါ်မှာ မတုန်မလှုပ် ဉာဏ်နဲ့ သက်ဝင်ယုံကြည်တာ၊

(၄) အရိယာပုဂ္ဂိုလ်တွေ တကယ်ချစ်နှစ်သက်မြတ်နိုးတဲ့ ငါးပါးသီလကို မကျိုး၊ မပေါက်၊ မကျား၊ မပြောက်အောင် စောင့်ထိန်းနိုင်တာတွေပဲ ဖြစ်တယ်။

အာနန္ဒာ··· ဒီလေးမျိုးဟာ တရားကြေးမုံ တရားမှန်လို့ခေါ်တဲ့ ဓမ္မာဒါသပဲ။ ကိုယ် ဘာဖြစ်နေပြီလဲ၊ ဘယ်ဘုံ ဘယ်ဘဝ လားရောက်ရမှာလဲ သိချင်တယ်ဆိုရင် ဒီလေးမျိုးနဲ့သာ တိုက်ဆိုင်စစ်ဆေးကြည့်ကြ'' လို့ မိန့်တော်မူခဲ့ပါတယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ စာမျက်နှာ ၇၉။)

## (၈) တရားမှတစ်ပါး အားကိုးရာ မရှိ

မြတ်စွာဘုရားရှင်ဟာ နောက်ဆုံးဝါကို ဝေဠုဝရွာငယ်လေးမှာ ဝါကပ်တော်မူပါတယ်။ အဲဒီ ဝါတွင်းမှာပဲ မြတ်စွာဘုရားမှာ ရောဂါ



ဝေဒနာတွေ အပြင်းအထန် ဖြစ်ခဲ့ပါတယ်။ ရောဂါဝေဒနာတွေ ဖြစ်လာတဲ့အခါ သတိသမ္ပဇဉ်နဲ့ တရားနှလုံးသွင်းပြီး မညည်းမညူဘဲ သည်းခံတော်မူပါတယ်။ ပြင်းထန်တဲ့ ရောဂါဝေဒနာကို ဖလသမာပတ်ဝီရိယနဲ့ ပယ်ခွာတော်မူပြီး နောက်ထပ် ဆယ်လအတွင်း ရောဂါဝေဒနာ မဖြစ်စေဖို့ အဓိဋ္ဌာန်ကာ အသက်ရှည်စေကြောင်း အာယုပါလက ဖလသမာပတ်ကို ဝင်စားတော်မူတဲ့အတွက် ရောဂါဝေဒနာတွေ ငြိမ်းအေးသွားခဲ့ပါတယ်။

ကျန်းမာခါစ မြတ်စွာဘုရားရှင်ဟာ ကျောင်းအရိပ်မှာ နားနားနေနေ ထိုင်နေတော်မူတဲ့အချိန် အရှင်အာနန္ဒာဟာ မြတ်စွာဘုရားကို ကြည့်ပြီး ''မြတ်စွာဘုရား··· အရှင်ဘုရား ပြန်လည်ကျန်းမာလာခဲ့ပါပြီ၊ စောစောတုန်းကတော့ မြတ်စွာဘုရား မကျန်းမာတဲ့အတွက် တပည့်တော်မှာ ကိုယ်ရောစိတ်ပါ ပင်ပန်းနေခဲ့ပါတယ်ဘုရား။ ဒါပေမယ့်လည်း စိတ်သက်သာရာ ရနေတဲ့ တစ်ချက်တော့ ရှိနေပါသေးတယ်၊ အဲဒါကတော့ မြတ်စွာဘုရားက ရဟန်းသံဃာတွေကို အရေးတကြီး နောက်ဆုံး ဆရာ့လက်ဆုပ် ဩဝါဒတရားတစ်မျိုး မိန့်တော်မမူသေးတဲ့အချက်ပဲ ဖြစ်ပါတယ် ဘုရား'' လို့ လျှောက်ထားခဲ့ပါတယ်။

ဒီအခါ မြတ်စွာဘုရားက ''အာနန္ဒာ··· ရဟန်းသံဃာတွေဟာ ငါဘုရားအပေါ်မှာ ဘာများ တောင့်တစရာ ရှိသေးလို့လဲ၊ ငါဟာ ဟောသင့်တဲ့ တရားအားလုံးကို အတွင်း၊ အပ မကျန်ရအောင် ဟောတော်မူခဲ့ပြီးပြီပဲ၊ အာနန္ဒာ··· ငါဘုရားမှာ ဆရာ့လက်ဆုပ်လက်ကိုင်ဆိုတဲ့ နောက်ဆုံးပြောစရာ အာစရိယဟတ္ထမုဋ္ဌိ တရားမျိုး မရှိဘူး။ 'ရဟန်းသံဃာတွေကို ငါကသာလျှင် ဦးဆောင်မယ်၊ ရဟန်းသံဃာတွေကလည်း ငါ့ကိုသာ အားကိုးရမယ်' ဆိုတဲ့ အယူအဆရှိတဲ့ ဆရာတွေမှာပဲ ဆရာ့လက်ဆုပ်တရားဆိုတာ ချန်ထားတတ်တာပါ၊ ငါဘုရားမှာ အဲဒီလို လျှို့ဝှက်ပြီး ချန်ထားတဲ့တရားမျိုး မရှိပါဘူး၊ ဒီတော့ လက်ဆုပ်တရား ချန်မထားတဲ့ ငါဘုရားက ရဟန်းသံဃာ

တွေကို အကြောင်းပြုပြီး ဘယ်စကားများ မိန့်ဖို့ လိုသေးတုံး'' လို့ မိန့်တော်မူခဲ့ပါတယ်။

ဆက်ပြီး မြတ်စွာဘုရားရှင်က ''အာနန္ဒာ… ငါဟာ ခု အသက်အရွယ်ကြီးလို့ အိုမင်းရင့်ရော်နေပြီ၊ သက်တော်ရှစ်ဆယ်ရှိပြီမို့ နောက်ဆုံးအရွယ်လည်း ရောက်နေပါပြီ၊ လှည်းအိုကြီးကို တစ်စစီ ပြုတ်ထွက်မသွားအောင် ကြိုးတွေနဲ့ တုပ်နှောင်ပြီး မောင်းနေရသလို ငါဘုရားရဲ့ ခန္ဓာကိုယ်ဟာလည်း ဖလသမာပတ်ကြိုးနဲ့ ဖွဲ့တုပ်ပြီး ထိန်းထားနေရတယ်။ အာနန္ဒာ… ဖြစ်ပြီး ပျက်နေတဲ့ သင်္ခတတရား တွေကို အာရုံမပြုဘဲ အဖြစ်အပျက်မရှိတဲ့ အသင်္ခတနိဗ္ဗာန်ကို အာရုံ ပြုပြီး ဖလသမာပတ် ဝင်စားကာ နေတဲ့အခါ ဝေဒနာတွေ ချုပ်ပျောက် သွားလို့ အတော်လေး ချမ်းချမ်းသာသာ နေရတယ်။ ဒါကြောင့် သင်တို့လည်း အရဟတ္တဖိုလ် သမာပတ်နဲ့ ချမ်းချမ်းသာသာ နေနိုင်ဖို့ရာ ကိုယ့်ကိုယ်ကိုယ်ပဲ အားကိုးပြီး နေကြ၊ တရားကိုပဲ အားကိုးပြီးနေကြ'' လို့ မိန့်တော်မူခဲ့ပါတယ်။

ကိုယ့်ကိုယ်ကိုယ်ပဲ အားကိုးပြီး နေဖို့၊ တရားကိုပဲ အားကိုးပြီး နေဖို့နဲ့ ပတ်သက်ပြီး မြတ်စွာဘုရားက ''အာနန္ဒာ… ကိုယ့်ကိုယ်ကိုယ် အားကိုးရာ ဖြစ်အောင်၊ တရားဆိုတဲ့ အားကိုးရာ ရှိအောင်ဆိုရင် ကာယာနုပဿနာ ဘာဝနာကို ပွားများပြီးတော့ရင်လည်း နေရတယ်။ ဝေဒနာနုပဿနာ ဘာဝနာ၊ စိတ္တာနုပဿနာ ဘာဝနာ၊ ဓမ္မာနုပဿနာ ဘာဝနာတွေကို ပွားများပြီးရင်လည်း နေရတယ်။ ဒီလို သတိပဋ္ဌာန် ဘာဝနာလေးမျိုး ပွားများပြီးနေရင် မတရား လိုချင်တဲ့ အဘိဇ္ဈာကို လည်း ပယ်ဖျောက်နိုင်တယ်၊ စိတ်ဆင်းရဲတဲ့ ဒေါမနဿကိုလည်း ပယ်ဖျောက်နိုင်တယ်။ အဘိဇ္ဈာနဲ့ ဒေါမနဿကို ပယ်ဖျောက်နိုင်ပြီ ဆိုရင် ကိုယ့်ကိုယ်ကိုယ် မှီခိုရာ ကျွန်းသဖွယ်ဖြစ်ပြီး နေတာ၊ တရားကို အားကိုးပြီး နေရာ ရောက်တယ်'' လို့ ရှင်းပြတော်မူခဲ့ပါတယ်။



ဒါအပြင် မြတ်စွာဘုရားက ''အာနန္ဒာ… ငါဘုရား သက်ရှိထင်ရှားရှိနေတုန်း ခုခါမှာ ဖြစ်ဖြစ်၊ ငါဘုရား ပရိနိဗ္ဗာန်စံပြီးတဲ့ နောက်ပိုင်းမှာ ဖြစ်ဖြစ် ကိုယ့်ကိုယ်ကိုယ် အားကိုး၊ တရားကို အားကိုး အားထား ပြုပြီး သီလ၊ သမာဓိ၊ ပညာဆိုတဲ့ သိက္ခာသုံးပါးကို မြတ်နိုး တန်ဖိုးထားကာ သတိပဋ္ဌာန်လေးပါး ပွားများနေကြတဲ့ ပုဂ္ဂိုလ်တွေဟာ ငါဘုရားသာသနာမှာ အမြတ်ဆုံးပုဂ္ဂိုလ်တွေ ဖြစ်ကြလိမ့်မယ်'' လို့လည်း မိန့်တော်မူခဲ့ပါတယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ စာမျက်နှာ ၈၅။)

## (၉) အမြတ်ဆုံး ပူဇော်ခြင်း

မြတ်စွာဘုရားရှင်ဟာ ပရိနိဗ္ဗာန်ပြုဖို့အတွက် ကုသိနာရုံပြည် မလ္လာမင်းတွေရဲ့ အင်ကြင်းတောထဲက အင်ကြင်းပင်ပျို နှစ်ပင်ကြားမှာ ရှိတဲ့ ညောင်စောင်းပေါ်မှာ မြောက်ဘက်ကို ဦးခေါင်းပြုပြီး လက်ယာဘက် စောင်းလျက် အနေအထားနဲ့ သတိသမ္ပဇဉ်နဲ့ တရားနှလုံးသွင်းကာ လဲလျောင်းနေတော်မူခဲ့ပါတယ်။ ဒီအချိန်မှာ အင်ကြင်းပင်တွေကလည်း အချိန်အခါမဟုတ်ဘဲ ပင်လုံးကျွတ် ပွင့်နေကြတယ်၊ အင်ကြင်းပင် စောင့်နတ်တွေက မြတ်စွာဘုရားရဲ့ ခန္ဓာကိုယ်ပေါ်ကို ပူဇော်တဲ့အနေနဲ့ အင်ကြင်းပန်းတွေ ကြဲချပြီး ပူဇော်နေပါတယ်။ ကောင်းကင်ကနေ နတ်ပန်းတွေ၊ စန္ဒကူးနံ့သာမှုန့်တွေ ကျလာပြီး မြတ်စွာဘုရားကို နောက်ဆုံး ပူဇော်နေကြတယ်။ ဒါအပြင် နတ်တွေဟာ နတ်တူရိယာ တွေ တီးမှုတ်ပြီးတော့လည်း ပူဇော်ခဲ့ကြပါတယ်။

ဒီအခါ မြတ်စွာဘုရားက အရှင်အာနန္ဒာကို ''အာနန္ဒာ… ခုလို အင်ကြင်းပန်းတွေ၊ နတ်ပန်း နတ်နံ့သာတွေ၊ တူရိယာတွေနဲ့ ပူဇော်နေကြတာဟာ ငါဘုရားကို အကောင်းဆုံး ပူဇော်ရာ၊ မြတ်နိုးရာ မရောက်ပါဘူး။ အာနန္ဒာ… ငါဘုရားရဲ့ တပည့် ရဟန်းတွေ၊ ရဟန်းမ တွေ၊ ဒကာတွေ၊ ဒကာမတွေဟာ လောကုတ္တရာ တရားကိုးပါးကို

ရစေနိုင်တဲ့ သီလ၊ သမာဓိ၊ ပညာ၊ ဝိပဿနာအကျင့်တွေ ကျင့်နေကြမယ်ဆိုရင်၊ ဒီလို သီလ၊ သမာဓိ၊ ပညာ၊ ဝိပဿနာအကျင့်တွေကို ကျင့်နေတဲ့သူတွေမှသာ ငါဘုရားကို အကောင်းဆုံး အမြတ်ဆုံးဖြစ်တဲ့ ပူဇော်နည်းနဲ့ ပူဇော်ရာရောက်တယ်၊ မြတ်နိုးရာရောက်တယ်'' လို့ မိန့်တော်မူခဲ့ပါတယ်။

ဆက်ပြီး မြတ်စွာဘုရားက ''အာနန္ဒာ… 'ငါဟာ မြတ်စွာဘုရားကို သီလ၊ သမာဓိ၊ ပညာ၊ ဝိပဿနာ အကျင့်တွေ အားထုတ်ပြီး အကောင်းဆုံး ပူဇော်တဲ့နည်းနဲ့ ပူဇော်မယ်' လို့ စိတ်ကို ဆောက်တည်ပြီး သင်တို့တစ်တွေ ကျင့်ကြံကြိုးကုတ် အားထုတ်ကြပါ'' လို့ ဆုံးမတော်မူခဲ့ပါတယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ စာမျက်နှာ ၁၁၄။)

## (၁၀) သံဝေဇနိယ လေးဌာန

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံခါနီး နောက်ဆုံးအချိန်မှာ အရှင်အာနန္ဒာက ''မြတ်စွာဘုရား… မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်မှာတော့ အနယ်နယ်အရပ်ရပ်မှာ သီတင်းသုံးနေကြတဲ့ ရဟန်းတော်တွေဟာ ဝါကျွတ်ပြီဆိုတာနဲ့ မြတ်စွာဘုရားကို ဖူးမြော်ဖို့ ရောက်လာလေ့ရှိပါတယ်ဘုရား၊ အဲဒီအခါမှာ တပည့်တော်တို့ဟာ ဖူးတွေ့လိုက်ရရုံနဲ့ စိတ်နှလုံးမှာ ကြည်ညိုစိတ်တွေ ဖြစ်ပေါ်စေနိုင်တဲ့ အရှင်ကောင်း အရှင်မြတ်တွေကို ဖူးခွင့်ရကြပါတယ်ဘုရား။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူသွားရင်တော့ ဒီအခွင့်အရေးမျိုး တပည့်တော်များ ရနိုင်တော့မယ် မဟုတ်ပါဘုရား'' လို့ လျှောက်ထားပါတယ်။

ဒီအခါ မြတ်စွာဘုရားက ''အာနန္ဒာ… သဒ္ဓါတရားရှိတဲ့ အမျိုးကောင်းသားတွေအတွက် ဖူးမြော်သင့် ဖူးမြော်ထိုက်တဲ့ သံဝေဂဉာဏ်ကိုလည်း ဖြစ်စေနိုင်တဲ့ သံဝေဇနိယ လေးဌာနဆိုတာ ရှိတယ်။ အဲဒါတွေက---



၁။ ဒီနေရာကတော့ မြတ်စွာဘုရား ဖွားမြင်တော်မူတဲ့ နေရာပဲ၊

၂။ ဒီနေရာကတော့ မြတ်စွာဘုရား ဘုရားဖြစ်တော်မူတဲ့ နေရာပဲ၊

၃။ ဒီနေရာကတော့ မြတ်စွာဘုရား တရားဦး ဓမ္မစကြာတရား ဟောကြားခဲ့တဲ့ နေရာပဲ၊

၄။ ဒီနေရာကတော့ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူတဲ့ နေရာပဲ ဆိုတဲ့ ကြည်ညိုသဒ္ဓါစိတ်နဲ့ သဒ္ဓါတရားရှိတဲ့ အမျိုးကောင်းသားတွေဟာ ဖူးမြော်သင့်တယ်၊ သံဝေဂဉာဏ်ဖြစ်ပွားအောင်လည်း နှလုံးသွင်းသင့်တယ်။

အာနန္ဒာ… သဒ္ဓါတရားရှိကြတဲ့ ရဟန်းတွေ၊ ရဟန်းမတွေ၊ ဒကာတွေ၊ ဒကာမတွေဟာ ဒီ သံဝေဇနိယ လေးဌာနကို ဖူးမြော်ဖို့ လာကြလိမ့်မယ်။ (ဒီအခါ ဖူးလိုက်ရရုံနဲ့ စိတ်ကို ကြည်လင်အေးမြစေနိုင်တဲ့ အရှင်ကောင်း အရှင်မြတ်တွေကို သင်တို့ ဖူးတွေ့ရပါလိမ့်မယ်။)

အာနန္ဒာ… ဒီလို ကြည်ညို သဒ္ဓါစိတ်နဲ့ ဒီသံဝေဇနိယ လေးဌာနကို ကြည်ညိုကြမယ်၊ သံဝေဂဉာဏ်တွေ ရအောင် နှလုံးသွင်းပွားများကြမယ်ဆိုရင် အဲဒီပုဂ္ဂိုလ်တွေမှာ အနိမ့်ဆုံးအနေနဲ့ သေတဲ့အခါ အပါယ်လေးပါး မလားမရောက်ဘဲ သုဂတိဘုံဘဝတွေကိုသာ ရောက်ကြလိမ့်မယ်'' လို့ မြတ်စွာဘုရားရှင်က အရှင်အာနန္ဒာကို ရှင်းလင်းမိန့်ကြားတော်မူခဲ့ပါတယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ စာမျက်နှာ ၁၁၆။)

## (၁၁) အမျိုးသမီးတွေနဲ့ ပတ်သက်ပြီး ကျင့်ရမည့် ကျင့်စဉ်

အရှင်အာနန္ဒာဟာ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံခါနီးအချိန်မှာ သူ သိလိုတဲ့အချက်တွေကို မေးမြန်းတော်မူခဲ့ပါတယ်။ အဲဒီထဲမှာ

အမျိုးသမီး မာတုဂါမတွေအပေါ် ကျင့်သုံးရမယ့် ကျင့်စဉ်သုံးချက်လည်း ပါဝင်ပါတယ်။

**မေး။** မြတ်စွာဘုရား… တပည့်တော်တို့အနေနဲ့ မာတုဂါမတွေအပေါ် ဘယ်လို ပြုကျင့်ရပါမလဲ ဘုရား။

**ဖြေ။** အာနန္ဒာ…မာတုဂါမကို မတွေ့မမြင်ရတာဟာ ကောင်းမြတ်တဲ့ အကျင့်ပဲ။

**မေး။** မြတ်စွာဘုရား… ဆွမ်းခံသွားတဲ့အခါ တွေ့မြင်ရရင်ကော တပည့်တော်များ ဘယ်လို ကျင့်ရ ပါမလဲ ဘုရား။

**ဖြေ။** အာနန္ဒာ… စကားမပြောတာဟာ ကောင်းမြတ်တဲ့ အကျင့်ပဲ။

**မေး။** မြတ်စွာဘုရား… စကားမပြောမဖြစ်လို့ ပြောရတဲ့ရဟန်းတွေ အနေနဲ့ရော ဘယ်လို နှလုံးသွင်း ကျင့်ရပါမလဲ ဘုရား။

**ဖြေ။** အာနန္ဒာ…အမိ၊ အမ၊ နှမလို သဘောထားတဲ့ သတိကို၊ ဒါမှ မဟုတ် ကာယဂတာသတိ ကမ္မဋ္ဌာန်းကို ဖြစ်စေထိုက်တယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ စာမျက်နှာ-၁၁၆။)

ဒီအမေး၊ အဖြေသုံးချက်နဲ့ ပတ်သက်ပြီး အဋ္ဌကထာ၊ ဋီကာ ဖွင့်ဆိုရှင်းလင်းချက်ကို သုတ်မဟာဝါ ဘာသာဋီကာမှာ မဟာဂန္ဓာရုံ ဆရာတော်ကြီး ကောက်ချက်ချ ရှင်းပြထားတာကိုလည်း ဖော်ပြပါ့မယ်။

(၁) **အဒဿနံ**။ ။ မိမိ၏ ပရိယတ် ပဋိပတ်တရားၥ၌ စိတ်ဝင်စား၍ ကြိုးစားနေသော ရဟန်းမှာ မာတုဂါမကို မမြင်ရလျှင် လောဘစိတ်လည်း မဖြစ်၊ စိတ်လှုပ်ရှားမှုလည်း မဖြစ်။ မိမိ၏ ပရိယတ်၊ ပဋိပတ် တရားအပေါ်၌သာ စိတ်ဝင်စား၍နေသောကြောင့် 'မမြင်ရခြင်းကို အကောင်းဆုံး အကျင့်'ဟု ပထမစည်း တားတော်မူသည်။ (နဂိုကပင် စိတ်မထိန်းဘဲ ကြံချင်ရာကြံနေသူအတွက် မမြင်ရသော်လည်း စိတ်အားဖြင့် သွားနေမည်ဖြစ်သောကြောင့် 'မမြင်ရရုံမျှ' ကို အကောင်းဆုံး အကျင့်ဟု မဆိုထိုက်သေးပါ။)



(၂) **အနာလာပေါ**။ ။ စကားပြောမိလျှင် ရင်းနှီးမှု ဖြစ်၏၊ ရင်းနှီးမှုဖြစ်လျှင် စိတ်ဖောက်ပြန်မှု ဖြစ်တတ်၏၊ ဖောက်ပြန်မှုဖြစ်လျှင် သီလပျက်၍ အပါယ်လေးပါးသို့ ရောက်တတ်သည်။ ထို့ကြောင့် 'စကားမပြောမိခြင်း' ကို အကောင်းဆုံး အကျင့်ဟု ဒုတိယစည်း တားတော်မူသည်။

(၃) **အာလပန္တေန** ။ ။ မာတုဂါမက "ယနေ့ ဘာနေ့ပါလဲ" ဟု မေးလျှင် ပြန်၍ ဖြေရလိမ့်မည်။ "သီလ ပေးပါ" ဟု တောင်းလျှင် ပေးရလိမ့်မည်။ "တရား နာလိုပါသည်" ဟု လျှောက်လျှင် တရားစကား ပြောရလိမ့်မည်။ ပြဿနာမေးလျှင် ဖြေရလိမ့်မည်။ ဤသို့ ရဟန်းကောင်းများ ပြုထိုက်သော အလုပ်ဖြစ်၍ စကားမပြောဘဲ နေတဲ့ပုဂ္ဂိုလ်ကို ဒီကိုယ်တော်က "အအကြီးပဲ"၊ ဒီကိုယ်တော်က "အထိုင်းကြီးပဲ" ဒီကိုယ်တော်က "စားပြီးတော့ ပါးစပ်ကို ကြိုးနဲ့ တုပ်ထားသလို ထိုင်နေတာပဲ" ဤသို့ စသည်ဖြင့် အပြစ်တင်ကာ အကုသိုလ်ဖြစ်စရာရှိ၏။ ထို့ကြောင့် စကားပြောခွင့် ကြုံလျှင်-- သတိ ဥပဋ္ဌာပေတဗ္ဗာ။ ။ အမိ-လို သတိထားလိုက်၊ အစ်မ၊ နှမ-လို သတိထားလိုက်။ ဤသို့ သတိထားနိုင်လျှင် မေတ္တာစိတ်သာ ဖြစ်ဖို့ရာ ရှိ၏။ ဖောက်ပြန်သော စိတ်ထား မဖြစ်နိုင်တော့။ ထို့ကြောင့် စကားပြောခွင့် ကြုံလာလျှင် သတိထားဖို့ရာ တတိယစည်း တားတော်မူသည်။ (တစ်နည်း) ဆံပင်၊ မွေးညင်း၊ ခြေသည်း လက်သည်း၊ သွား၊ အရေ စသော ၃၂-ပါးသော ကောဋ္ဌာသ-အစုအဝေးသာတည်း။ ယောကျ်ား၊ မိန်းမ မဟုတ်ဟု သတိထားရမည်။

(သုတ်မဟာဝါ ဘာသာဋီကာ၊ ဒုတိယအုပ်၊ စာမျက်နှာ ၄၅၃။)

## (၁၂) မြတ်စွာဘုရား ရုပ်ကလာပ်တော်ကို ပြုလုပ်စီမံရမည့် နည်းလမ်း

ဆက်ပြီး အရှင်အာနန္ဒာက "မြတ်စွာဘုရား… တပည့်တော်များ အနေနဲ့ မြတ်စွာဘုရားရဲ့ ကြွင်းကျန်ရစ်မည့် ရုပ်ကလာပ်တော်နဲ့

ပတ်သက်ပြီး ဘယ်လို ပြုကျင့်ဆောင်ရွက်ရမည်လဲ ဘုရား" လို့ မေးလျှောက်ခဲ့ပါတယ်။ မြတ်စွာဘုရားက "အာနန္ဒာ… ငါဘုရားရဲ့ ရုပ်ကလာပ်တော်ကို ပူဇော်ဖို့ရန်အတွက် သင်တို့ ကြောင့်ကြမစိုက်ကြပါနဲ့။ ငါဘုရား တိုက်တွန်းလိုတာက သင်တို့ဟာ အရဟတ္တဖိုလ် တရားထူး ရရေးမှာသာ ကြောင့်ကြထားပြီး မမေ့မလျော့ ထက်သန်တဲ့ လုံ့လနဲ့ ကြိုးစားအားထုတ်ကာ နေကြပါ။ အာနန္ဒာ… ငါဘုရား အပေါ်မှာ အလွန်ကြည်ညိုကြတဲ့ ပညာရှိမင်းတွေ၊ ပညာရှိပုဏ္ဏားတွေ၊ ပညာရှိ သူဌေးသူကြွယ်တွေ ရှိကြပါတယ်။ သူတို့ကပဲ ငါဘုရားရဲ့ ရုပ်ကလာပ်တော်ကို ပူဇော်မှု ပြုကြပါလိမ့်မယ်" လို့ ဖြေကြားတော်မူခဲ့ပါတယ်။

တစ်ခါဆက်ပြီး အရှင်အာနန္ဒာက "မြတ်စွာဘုရား…အဲဒီ မင်းတွေ၊ ပုဏ္ဏားတွေ၊ သူဌေး သူကြွယ်တွေအနေနဲ့ အရှင်ဘုရားရဲ့ ကြွင်းကျန်ရစ်တဲ့ ရုပ်ကလာပ်တော်နဲ့ ပတ်သက်ပြီး ဘယ်လို ပြုကျင့်ဆောင်ရွက်သင့်ပါသလဲ ဘုရား" လို့ မေးလျှောက်ပြန်ပါတယ်။

ဒီအခါ မြတ်စွာဘုရားက "အာနန္ဒာ… စကြဝတေးမင်းတွေရဲ့ ရုပ်အလောင်းကို ပြုကျင့်ဆောင်ရွက်သလိုမျိုး ဆောင်ရွက်ဖို့ပါပဲ။ စကြဝတေးမင်းတွေရဲ့ ရုပ်အလောင်းကို အဝတ်သစ်တစ်ထပ်၊ ဝါဂွမ်းတစ်ထပ်နှုန်းနဲ့ အထပ်ပေါင်း ငါးရာရစ်ပတ်ပြီး ဆီအပြည့်ထည့်ထားတဲ့ ရွှေအခေါင်းထဲမှာ ထည့်၊ အပေါ်က ရွှေအုပ်ဆောင်းအဖုံးဆောင်းအုပ်ပြီး နံ့သာ ထင်းပုံပေါ်တင်ကာ မီးသင်္ဂြိုဟ်မှု ပြုကြတယ်။ ပြီးရင် ကျန်ရစ်တဲ့ အရိုးပြာတွေကို လမ်းလေးခွဆုံတဲ့ လမ်းမဆုံမှာ စေတီတည်ထားကြတယ်။ အာနန္ဒာ… ဒီ့အတူပဲ ငါဘုရားရဲ့ ကြွင်းကျန်ရစ်မည့် ရုပ်ကလာပ်နဲ့ပတ်သက်ပြီး စကြဝတေမင်းတွေရဲ့ ရုပ်ကလာပ် သင်္ဂြိုဟ်သလိုမျိုး သင်္ဂြိုဟ်ပါ၊ ပြီးရင် လမ်းလေးခွဆုံတဲ့ လမ်းမဆုံမှာ စေတီတည်ထားလိုက်ပါ။ ဒီစေတီမှာ ပန်း၊ နံ့သာတွေ လှူဒါန်းကြတဲ့သူတွေ၊ ရှိခိုးဦးချ ကန်တော့ကြတဲ့သူတွေ၊ စိတ်ကို



ကြည်လင်စေသူတွေအတွက် နေ့ညဥ့်ရှည်ကြာ ကောင်းကျိုးချမ်းသာတွေ ရကြပါလိမ့်မယ်" လို့ ဖြေကြားတော်မူခဲ့ပြီး စေတီထိုက်တဲ့ ပုဂ္ဂိုလ်လေးမျိုးကို ဆက်လက်ပြီး ဟောပြတော်မူခဲ့ပါတယ်။

## (၁၃) ထူပါရဟ - စေတီထိုက်တဲ့ ပုဂ္ဂိုလ်လေးမျိုး

မြတ်စွာဘုရားက အရှင်အာနန္ဒာကို "အာနန္ဒာ… စေတီတည်ပြီး ကိုးကွယ်ထိုက်တဲ့ ပုဂ္ဂိုလ်လေးမျိုးရှိတယ်။ အဲဒီလေးမျိုးက--

၁။ မြတ်စွာဘုရား၊

၂။ ပစ္စေကဗုဒ္ဓါ၊

၃။ တရားထူးရပြီးဖြစ်တဲ့ မြတ်စွာဘုရားရဲ့ တပည့်သာဝကနဲ့

၄။ စကြဝတေးမင်းတွေပဲ ဖြစ်တယ်။

ဒီပုဂ္ဂိုလ်တွေ ဘာလို့ စေတီထိုက်ရတာလဲဆိုရင် 'ဒီစေတီဟာ သမ္မာသမ္ဗုဒ္ဓ မြတ်စွာဘုရားရှင်ရဲ့ စေတီတော်ပဲ၊ ဒီစေတီဟာ ပစ္စေကဗောဓိဉာဏ်ရပြီးဖြစ်တဲ့ ပစ္စေကဗုဒ္ဓါ အရှင်မြတ်ရဲ့ စေတီတော်ပဲ၊ ဒီစေတီဟာ မြတ်စွာဘုရားရှင်ရဲ့ တပည့်သာဝကရဲ့ စေတီတော်ပဲ၊ ဒီစေတီဟာ တရားစောင့်ထိန်းတဲ့အတွက် တရားမင်းဖြစ်တဲ့ စကြဝတေးမင်းရဲ့ စေတီတော်ပဲ-လို့ တွေးပြီး ကြည်ညိုစိတ်ကို ဖြစ်စေကြမယ်ဆိုရင် အဲဒီကြည်ညိုစိတ်ကြောင့် ကြည်ညိုကြသူတွေမှာ သေပြီးတဲ့အခါ လူ့ရုပ်နတ်ထံ သုဂတိဘုံကောင်း ဘဝကောင်းတွေ ရောက်နိုင်လို့ပဲ ဖြစ်တယ်။ ဒါကြောင့် ဒီပုဂ္ဂိုလ်လေးမျိုးဟာ စေတီထိုက်ကြတာပါ" လို့ မိန့်ကြားတော်မူခဲ့ပါတယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ စာမျက်နှာ-၁၁၇။)

## (၁၄) အရှင်အာနန္ဒာရဲ့ သောက ဖြေဆည်ရာရအောင် တရားဟောပုံ

စေတီထိုက်တဲ့ ပုဂ္ဂိုလ်လေးမျိုးအကြောင်း ဟောပြီးတဲ့ နောက်မှာတော့ အရှင်အာနန္ဒာဟာ မြတ်စွာဘုရားထံပါးကနေ သင့်တော်ရာ

တစ်နေရာသွားပြီး 'ဩော်… ဒီနေ့မှာပဲ ငါ့ကို အစဉ်သနား စောင့်ရှောက်တော်မူတဲ့ မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော့မှာပါလား၊ ငါကလည်း ခုမှ ကျင့်ဆဲ သေက္ခ သောတာပန်ပုဂ္ဂိုလ်အဆင့်ပဲ ရှိသေးပါလား' လို့ တွေးကာ စိတ်သောကတွေ မဖြေဆည်နိုင်ဘဲ ငိုကြွေးနေပါတော့တယ်။ ဒါကို မြတ်စွာဘုရားက သိတော်မူလို့ ရဟန်းတစ်ပါးကို ခေါ်ခိုင်းပြီး "အာနန္ဒာ… မစိုးရိမ်ပါနဲ့၊ မငိုကြွေးပါနဲ့။ ငါဘုရားဟာ ဒီအကြောင်းအရာတွေကို စောစောကတည်းကပဲ ဟောပြခဲ့တယ် မဟုတ်လား။ ချစ်အပ် မြတ်နိုးအပ်တဲ့ သက်ရှိတွေနဲ့ရော သက်မဲ့တွေနဲ့ပါ အရာအားလုံးနဲ့ သေကွဲ၊ ရှင်ကွဲ အမျိုးမျိုးကွဲပြီး ဖြစ်ရတာဟာ ရုပ်နာမ်ခန္ဓာတွေရဲ့ သဘာဝပဲ ဖြစ်တယ်။ မွေးဖွားလာဖြစ်လာတဲ့ ရုပ်နာမ်ခန္ဓာမှန်သမျှ ငါဘုရားရဲ့ ခန္ဓာပင် ဖြစ်စေကာမူ မပျက်စီးပါစေနဲ့လို့ တောင့်တလို့ ရကောင်းတာမှ မဟုတ်တာ။

နောက်ပြီး သင်ဟာ ကာလတာရှည် ငါဘုရားရဲ့ အကျိုးစီးပွားကို လိုလားတဲ့ မေတ္တာနဲ့ ယှဉ်တဲ့ ကာယကံ၊ ဝစီကံ၊ မနောကံတွေနဲ့ ပြုစုလုပ်ကျွေးခဲ့ပါတယ်။ အာနန္ဒာ… သင့်မှာ ပါရမီကောင်းမှုကုသိုလ်တွေ ရှိပြီးဖြစ်တယ်၊ ဒါကြောင့် သင်ဟာ ကမ္မဋ္ဌာန်းအလုပ်ကြိုးစားပွားများ အားထုတ်ပါ၊ မကြာခင် အာသဝေါကုန်ခန်း ရဟန္တာဖြစ်မှာ သေချာပါတယ်" လို့ မျက်ရည်သိမ်းတရား ဟောကြားတော်မူခဲ့ပါတယ်။

## (၁၅) အရှင်အာနန္ဒာရဲ့ ထူးဆန်းအံ့သြဖွယ် ဂုဏ်ရည် လေးမျိုး

ဆက်ပြီး မြတ်စွာဘုရားက ရဟန်းတော်တွေကို "ရဟန်းတို့… အတိတ်က ပွင့်တော်မူပြီးတဲ့ ဘုရားရှင်တွေမှာလည်း ဥပဋ္ဌာက–အလုပ်အကျွေး ရဟန်းတွေ ရှိခဲ့ပါတယ်။ အဲဒီရဟန်းတွေလည်း အာနန္ဒာထက် မသာကြပါဘူး၊ အာနန္ဒာလောက်ပဲ ကောင်းကြတာပါ။ နောင်အနာဂတ် ပွင့်တော်မူမည့် ဘုရားရှင်တွေမှာလည်း ဥပဋ္ဌာက–



အလုပ်အကျွေး ရဟန်းတွေ ရှိပါလိမ့်မယ်။ အဲဒီ အလုပ်အကျွေး ရဟန်းတွေလည်း အာနန္ဒာထက် မသာကြပါဘူး။ အာနန္ဒာကောင်းသလိုမျိုးပဲ ကောင်းကြမှာပါ။ ရဟန်းတို့… အာနန္ဒာဟာ ကြောင်းကျိုးဝေခွဲနိုင်တဲ့ ပညာရှိပုဂ္ဂိုလ်၊ တစ်ခဏချင်း လျင်စွာသိနိုင်တဲ့ ပညာရှိပုဂ္ဂိုလ် ဖြစ်ပါပေတယ်။ ဒီအချိန် ဒီအခါဟာ ရဟန်းတော်တွေ ဘုရားဖူးတွေ့ဖို့ အချိန်ဖြစ်တယ်။ ဒီအချိန် ဒီအခါ ရဟန်းမတွေ၊ ဒကာတွေ၊ ဒကာမတွေ၊ သာသနာပပုဂ္ဂိုလ်တွေ ဘုရားဖူးတွေ့ဖို့ အချိန်ဖြစ်တယ် စသဖြင့် သူ့အချိန်နဲ့သူ ခွဲခြားသိတဲ့ပုဂ္ဂိုလ်ဖြစ်ပါပေတယ်" လို့ အရှင်အာနန္ဒာနဲ့ ပတ်သက်တဲ့ ချီးကျူးစကားတွေ မိန့်ကြားတော်မူခဲ့ပါတယ်။

နောက်ပြီး အရှင်အာနန္ဒာရဲ့ အံ့သြထူးဆန်းဖွယ်ရာ ဂုဏ်ရည်လေးမျိုးကိုလည်း ခုလို မိန့်ကြားခဲ့ပါတယ်။

"ရဟန်းတို့… ရဟန်းပရိသတ်တွေ အာနန္ဒာကို ဖူးတွေ့ဖို့ရန် ရောက်လာတဲ့အခါ အာနန္ဒာကို ဖူးမြင်လိုက်ရတယ်ဆိုရင်ပဲ နှစ်သက်အားရ ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြတယ်။ ဖူးလိုက်ရတဲ့ ရဟန်းပရိသတ်မှာ အားရသွားတယ်၊ တင်းတိမ်သွားတယ်ဆိုတာ မရှိဘူး။ နောက်ပြီး အာနန္ဒာက အဲဒီ ရဟန်း ပရိသတ်ကို တရားဟောပြန်ရင်လည်း ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြတယ်၊ တရားနာရတာလည်း မရောင့်ရဲ မတင်းတိမ်နိုင်ကြဘူး။ ဒီလို ဖူးမြင်ရ၊ တရားနာရတဲ့ ရဟန်းပရိသတ်တွေ ဖူးမြင်ရတာ၊ တရားနာရတာ မရောင့်ရဲ မတင်းတိမ်နိုင်ခြင်းဟာ အာနန္ဒာရဲ့ အံ့သြထူးဆန်းဖွယ်ရာ ဂုဏ်ရည်တစ်မျိုးဖြစ်တယ်။

ရဟန်းတို့… ဒို့အတူပဲ ရဟန်းမ ပရိသတ်တွေ၊ ဒကာပရိသတ်တွေ၊ ဒကာမ ပရိသတ်တွေ အာနန္ဒာကို ဖူးမြင်ရတဲ့အခါမှာရော တရားနာရတဲ့အခါမှာပါ မရောင့်ရဲနိုင်ကြ၊ မတင်းတိမ်နိုင်ကြဘူး။ ဒါတွေဟာလည်း အာနန္ဒာရဲ့ အံ့သြထူးဆန်းဖွယ်ရာ ဂုဏ်ရည်တွေပဲဖြစ်တယ်။

ရဟန်းတို့… အာနန္ဒာမှာ ဒီလို ထူးဆန်းအံ့သြစရာကောင်းတဲ့ ဂုဏ်ရည်လေးမျိုး ရှိပါပေတယ်'' လို့ ချီးကျူးစကား မိန့်ကြားတော်မူခဲ့ပါတယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိတော်၊ စာမျက်နှာ-၁၁၈။)

## (၁၆) မြတ်စွာဘုရားရှင်ရဲ့ နောက်ဆုံး မှာတမ်းတော်

မြတ်စွာဘုရားရှင်ဟာ ပရိနိဗ္ဗာန်စံခါနီး နောက်ဆုံးအချိန်မှာ အရှင်အာနန္ဒာကို ''အာနန္ဒာ… သင်တို့စိတ်ထဲမှာ ငါဘုရား ပရိနိဗ္ဗာန်စံပြီးသွားရင် 'သြော်… ဘုရားဟောခဲ့တဲ့ တရားစကားတော် တွေဟာ လွန်ပြီးတဲ့ ဆရာရှိတဲ့ စကားတော်တွေ ဖြစ်တယ်၊ ငါတို့မှာ ဆရာဆိုတာ မရှိတော့ဘူး' လို့ တွေးမယ်ဆို တွေးစရာဖြစ်နိုင်တယ်။ တကယ်တော့ အဲဒီလို မမှတ်ပါနဲ့။ အာနန္ဒာ… ငါဘုရားဟာ သင်တို့ကို လေးဆယ့်ငါးဝါတိုင်တိုင် သုတ္တန်၊ အဘိဓမ္မာတရားတွေကိုရော၊ ဝိနည်းတွေကိုပါ ဟောလည်း ဟောခဲ့၊ ပညတ်လည်း ပညတ်ခဲ့တယ်။ အဲဒီ သုတ္တန်၊ အဘိဓမ္မာ၊ ဝိနည်းတရားတော်တွေဟာ ငါဘုရား ပရိနိဗ္ဗာန်စံပြီးတဲ့နောက် သင်တို့ရဲ့ ဆရာ ဖြစ်လိမ့်မယ်'' လို့ အထူး စကား မိန့်ကြားတော်မူခဲ့ပါတယ်။

ဆက်ပြီး မြတ်စွာဘုရားရှင်ဟာ ရဟန်းတော်တွေကို ''ဟန္ဒ ဒါနိ ဘိက္ခဝေ အာမန္တယာမိ ဝေါ၊ ဝယဓမ္မာ သင်္ခါရာ၊ အပ္ပမာဒေန သမ္ပာဒေထ။

ဘိက္ခဝေ-ရဟန်းတို့၊ ဟန္ဒ-တိုက်တွန်းတော်မူ၏။ ဒါနိ-ယခုအခါ၌၊ ဝေါ-သင်တို့ကို၊ အာမန္တယာမိ-သတိပေးနှိုးဆော် သိစေတော်မူ၏။ သင်္ခါရာ - ရုပ်နာမ်ဓမ္မ သင်္ခါရတရားတို့သည်၊ ဝယဓမ္မာ - ပျက်စီးခြင်းသဘောရှိကုန်၏။ အပ္ပမာဒေန - မမေ့မလျော့ မပေါ့မဆသော သတိတရားဖြင့်၊ သဗ္ဗကိစ္စာနိ - အလုံးစုံသော ကိစ္စတို့ကို၊ သမ္ပာဒေထ - ပြီးစီးစေကြကုန်လော့'' ဆိုတဲ့ နောက်ဆုံး ဆုံးမသြဝါဒကို မိန့်ကြားတော်မူခဲ့ပါတယ်။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂ ပါဠိတော်၊ စာမျက်နှာ-၁၂၆။)



**နိဂုံး**

အရှင်အာနန္ဒာနဲ့ ဆက်စပ်တဲ့ တရားဒေသနာတွေကတော့ အများကြီးပါ၊ ခုဖော်ပြထားတာက ဖော်ပြထားတာ ဖြစ်ပါတယ်။ အရှင်မြတ်အကြောင်း ကြည်ညိုရတဲ့အတွက် မိမိအကျိုးရှိရေး ချမ်းသာရေးကို ပဓာနမထားဘဲ အများချမ်းသာရေးအတွက် ကြိုးစားလိုတဲ့ စိတ်တွေ၊ မြတ်စွာဘုရားအပေါ်မှာ ကြည်ညို မြတ်နိုး ယုံကြည်တဲ့ စိတ်တွေ၊ ဘယ်အကျင့် ဘယ်နည်းနဲ့ တရား အားထုတ်သည်ဖြစ်စေ အကုသိုလ်တရားတွေ ဆုတ်ယုတ်ပြီး ကုသိုလ်တရား တိုးပွားမှ အကျင့်စစ်အကျင့်မှန် ဖြစ်ပါလားဆိုတဲ့ အဖိုးတန် အသိတွေ ရရှိခဲ့ပါတယ်။ အခုလို ရရှိလာတဲ့ စိတ်နေစိတ်ထားတွေ၊ အသိဉာဏ်တွေနဲ့ သီလ၊ သမာဓိ၊ ပညာဆိုတဲ့ သာသနာ့အနှစ် တရားတွေကို ကျင့်ကြံပွားများ အားထုတ်နေကြမယ်ဆိုရင် မိမိတို့တစ်တွေဟာ မြတ်စွာဘုရားကိုရော အရှင်အာနန္ဒာ မထေရ်မြတ်ကိုပါ အမြတ်ဆုံး ပူဇော်တဲ့နည်းနဲ့ ပူဇော်နေကြတာ ဖြစ်ပါလိမ့်မယ်။

**ကျမ်းကိုး**


၁။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ပထမတွဲ။
၂။ မဟာဗုဒ္ဓဝင် ဆဋ္ဌမတွဲ၊ ပထမပိုင်း။
၃။ အင်္ဂုတ္တိုရ်ပါဠိတော်၊ ပထမအုပ်။
၄။ သုတ်မဟာဝါပါဠိတော်။
၅။ သုတ်မဟာဝါအဋ္ဌကထာ။
၆။ သုတ်မဟာဝါ ဘာသာဋီကာ၊ ဒုတိယတွဲ။


**အရှင်နေမိန္ဒာဘိဝံသ**
**၁၃၈၁-ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော်(၁၂)ရက်၊**
**(၂၃-၁၀-၂၀၁၉)။**

## ဗုဒ္ဓခေတ် တစ်မိုးအောက်တစ်ယောက် ပုဂ္ဂိုလ်ကျော်များ (ဒုတိယတွဲ) ရိုက်နှိပ်ရန်အတွက် မ,တည် လှူဒါန်းကြသည့် အလှူရှင်များ

၁။ ဓမ္မဘောရီဆရာတော်ကြီး (၁၀) သိန်း

၂။ ဆရာတော် ရဝေနွယ် (အင်းမ) (၁၀) သိန်း

၃။ ရဟန်းဒါယကာ ဦးအောင်သန်း +
ရဟန်းဒါယိကာမ ဒေါ်ဝေ၊ ညီမ မနုနုဝင်း၊
မအေးအေးသွင်၊ မခင်လေးဝင်း နှင့် သား၊ သမီး၊
မြေးတစ်စု။ ဟော်ကုန်းရပ်၊ တောင်ကြီးမြို့။ (၁၀) သိန်း

၄။ အမေရိကန်နိုင်ငံ၊ ကာလီဖိုးနီးယားပြည်နယ်၊
ဆန်ဖရန်ဆစ္စကိုဘေးဧရိယာမှ မြန်မာမိသားစုများ။